## ပုံနှိပ်မှတ်တမ်း

စာမူခွင့်ပြုချက်အမှတ် - ၆၀၀၈၄၇၁၀၁၁၊
မျက်နှာဖုံးခွင့်ပြုချက်အမှတ် - ၆၀၀၈၈၆၁၁၁၁။
ထုတ်ဝေခြင်း - ပထမအကြိမ်၊ ၂၀၁၂ ခုနှစ်၊ ဇန်နဝါရီလ
အုပ်ရေ -၁၀၀၀၊ ကွန်ပျူတာစာစီ-ကိုဇော်လင်း+မဖြူတို့၏ တပည့် ကိုဇော်ထွေး (ထန်းကုန်း) မြန်မာ့စီးပွားရေးဘဏ်အနီး၊ ဆောက်လုပ်ရေးတိုက်တန်း(D-6) ဇရာရပ်ကွက်၊ မြစ်ကြီးနားမြို့။ ဖုန်း၊ ၀၉-၄၇၀၃၄၇၈၅၊ မျက်နှာဖုံးနှင့် အတွင်းပုံနှိပ် - ဦးစိုးတင့်၊ ညီမေတ္တာပုံနှိပ်တိုက်။ သုဒ္ဓိဝိပဿနာရိပ်သာ၊ ဖန်ခါးကုန်း ကျေးရွာ၊ မှော်ဘီမြို့နယ်၊ ရန်ကုန်မြို့။ ထုတ်ဝေသူ ဦးစိုးတင့် (ရွှေပြည်သာစာပေ) မန္တလေးကျောင်း၊ ချင်းတွင်းလမ်း။ ၆/၁၀ရပ်ကွက်၊ ရွှေပြည်သာ

တန်ဖိုး - ၁၅၀၀/-ကျပ်

စာအုပ်ကတ်တလောက်အညွှန်း (CIP)

ပန်းဒကာကိုတင်မြင့် ၂၉၄. ၃
ဗုဒ္ဓသာသနာတော်နှင့်အရှင်ဒေဝဒတ်
ရန်ကုန်
ရွှေပြည်သာစာပေ၊ ၂၀၁၁
၂၃၈စာ၊ ၁၇. ၄ စင်တီ။
(၁) ဗုဒ္ဓသာသနာတော်နှင့် အရှင်ဒေဝဒတ်

## ကန်တော့ပန်း

မိခင် ဖခင်၊ ကျေးဇူးရှင်နှင့်
သွန်သင်ပြသ၊ သိပ္ပမချန်
လူ့ထံတွန်းပို့၊ ဆရာတို့အား
မချို့သဒ္ဓါ၊ ဤသည့်စာဖြင့်
ဝန္ဒနာသ၊ ဦးနှိမ်ချလျက် . . .

# မာတိကာ

# မာတိကာ

# မာတိကာ

# မာတိကာ

# မာတိကာ

# ဆရာကြီး(ဦး)အောင်သင်း ၏ ရှုမြင်သုံးသပ်ချက်

ပန်းဒကာကိုတင်မြင့်က သူပြုစုရေးသားထားသော 'ဗုဒ္ဓသာသနာတော်နှင့် အရှင်ဒေဝဒတ်' စာအုပ်အတွက် အမှာစာရေးပေးပါရန် မေတ္တာရပ်ခံလာပါသည်။ ကျွန်တော်လည်း သူ့စာလေးတွေကို ဖတ်ဖူးသည့်အပြင် မေတ္တာရှင်(ရွှေပြည်သာ)ဆရာတော်နှင့်ပတ်သက်၍ သူ့အမည်ကိုလည်း ရင်းနှီးနေသောကြောင့် အလွယ်တကူပင် လက်ခံလိုက်ပါသည်။ အမှာစာရေးဖို့ ဖတ်ရန် သူ့စာအုပ်ကို ကောက်ကိုင်လိုက်တော့ 'မင်းသားကြီး'ဟူသော ဝေါဟာရကြည့်ပြီး ကျွန်တော် တစ်ချက် ပြုံးလိုက်မိသေးသည်။ တစ်ခါက စာပေလောကတွင် ကျွန်တော်ကိုယ်တိုင် စာပေလူကြမ်းမင်းသားကြီးဟု တွင်ခဲ့သေးသည်မဟုတ်ပါလား။ စာပေဝေဖန်ရေးနှင့်ပတ်သက်သည့်အခါ 'လူကြမ်း'ဖြစ်ခဲ့ပါသော်လည်း တကယ်စာရေးကောင်းသူများကို ကျွန်တော် ဖေါ်ထုတ်ပေးနိုင်ခဲ့သဖြင့် ကျွန်တော်'မင်း

သား’ ဖြစ်လာခဲ့သေးသည်ကိုလည်း ပြန်လည် သတိရမိပြန်ပါသည်။

ထိုစဉ်အခါက ဆရာကြီးဦးရွှေအောင်ကို သိပ်မသိကြ။ သူကလည်း ပရိသတ်စိတ်မဝင်စားသော စာစောင်များတွင်သာ ရေးသားလေ့ရှိသည်။ စစ်ပြန်မဂ္ဂဇင်းတွင် ဆရာကြီး သုံးလ ဆက်တိုက်ရေးခဲ့သော ဒေဝဒတ်ဆောင်းပါးကို ကျွန်တော် စိတ်ရှည်လက်ရှည်စောင့်ဖတ်ပြီး ကောင်းပုံကောင်းနည်း သုံးသပ်ပြလိုက်သောအခါတွင်မှ စာဖတ်သူများ အလန့်တကြား စိတ်ဝင်စားကြပြီး ဆရာကြီး၏စာအုပ်များကို အငမ်းမရ ရှာပြီးဖတ်သည်မှာ ယနေ့တိုင်ဖြစ်ပါသည်။

ဆရာကြီးကွယ်လွန်သောအခါ မြစ်ကြီးနားတွင် မီးရထားရုံပိုင်အဖြစ် တာဝန်ထမ်းဆောင်နေသည့် ဆရာကြီး၏ သားက အိမ်သို့ ခေတ္တပြန်ရောက်ခိုက် ကျွန်တော့်ထံ တကူးတကလာပြီး လုံချည်တစ်ထည် ကန်တော့လက် ဆောင်ပေးလျက် ‘ဆရာ့ကြောင့် ကျွန်တော့်အဖေ နာမည်ကြီး လူသိများလာခဲ့တာပါ’ဟု ပြောကြားသွားခဲ့သည်။ ကျွန်တော် ‘မင်းသားကြီး’ပီတိဖြစ်လိုက်ရပါသည်။

ယခုလည်း ဆရာတော် မေတ္တာရှင် (ရွှေပြည်သာ)က ပန်းဒကာကိုတင်မြင့်အား ဆရာကြီး ဦးရွှေအောင်လို ဒေဝဒတ်အကြောင်းကိုရေးရန် တိုက်တွန်းသည်ဟု သူ၏အမှာစာတွင် ပါလာတာ တွေ့ရလေတော့ ကျွန်တော် စာပေမင်းသားကြီး ထပ်မံပီတိဖြစ်ရပြန်ပါလေသည်။

## ပန်းဒကာ၏ဒေဝဒတ်

ကျွန်တော်တို့ မြန်မာလူမျိုးတို့လောကတွင် ဗုဒ္ဓဘာသာဝင်များကို မဆိုထားဘိ အခြားဘာသာဝင်များကပင် ဒေဝဒတ်အကြောင်းကို သိနေကြသည်။ ဗုဒ္ဓဘုရားရှင်နှင့် တွဲပြီး ကျော်စောခဲ့သူ မဟုတ်ပါလား။

ပန်းဒကာက လူတိုင်းလိုလိုသိနေသည့် ဒေဝဒတ်အကြောင်း ဘယ်လိုတင်ပြမလဲ၊ ဒါကို ကျွန်တော် သတိထားဖတ်သည်။ ဒေဝဒတ်ကို သူဘယ်လိုမြင်သလဲ၊ ဘယ်လိုပြောသလဲ၊ စသည်ဖြင့် သူ့လေသံကို ကျွန်တော် သတိထားဖတ်သည်။

သူ၏ နိဒါနကထာ အမှာစာတွင်ပင် ရေးထားသည်ကို တွေ့လိုက်ရပါလေပြီ။ ရေးသည်က-

"အရှင်ဒေဝဒတ်သည် အရိမေတ္တေယျ မြတ်စွာဘုရားပွင့်တော်မမူမီ အနာဂတ်ကာလ၌ 'အဋ္ဌိဿရ' အမည်ရသော ပစ္စေကဗုဒ္ဓါ(ဘုရားငယ်တစ်ဆူ) ဖြစ်တော်မူပါလိမ့်မည်။ ထို့ကြောင့် - 'ဒေဝဒတ်'ဟုပင် ရင့်သီးစွာ မခေါ်အပ်ပါပေ။ ယခု ဂေါတမ ဗုဒ္ဓလက်ထက်တော်ဝယ် မိုက်တွင်းနက်ခဲ့သည့် အဖြစ်အပျက်တို့ကို မူတည်၍ ငရဲမင်းသားကြီးအရှင်ဒေဝဒတ် ဟု အမည်တပ်ကာ ရေးသားတင်ပြလိုက်ပါသည်"

ထိုအမှာစကားကို တွေ့လိုက်သည်နှင့်ပင် ပန်းဒကာသည် ဒေဝဒတ်ကို လေးစားစိတ်နှင့် အာရုံပြုမည်၊ သို့သော် ဂေါတမမြတ်စွာလက်ထက် ပြုမှားခဲ့သမျှကိုတော့ အမှုသွား

အတိုင်း စဉ်းစားရပါတော့မည် ဟူသောသဘောသက်ရောက်နေသည်ကို တွေ့ရပါလိမ့်မည်။ အဘယ်ကြောင့်နည်း နောင်လာနောက်သားပြည်သူများ သင်ခန်းစာ ယူစေလိုသောကြောင့်ပါတည်း ဟု ဆိုလိုရိပ်ပေါ်လာပါလေသည်။

ပန်းဒကာသည် ဓမ္မပဒတွင် တွေ့လေသမျှ ရှင်ဒေဝဒတ် အကြောင်းကို အသေးစိတ်လေ့လာသည်။ ဒေဝဒတ်၏ ကိုယ်ပိုင်အရည်အသွေးတွေကိုလည်း ချီးကျူးသည်။ မှတ်တမ်းတင်သည်။ စာဖတ်သူ လေးစားလောက်အောင်ကိုလည်း ဖော်ပြသည်။ ဒေဝဒတ်ကိုယ်တိုင်က သာကီဝင်မျိုးနွယ်ဖြစ်သည့်ပြင် ဘုရားရှင်၏ ညီတော်လည်း ဖြစ်၊ ယောက်ဖတော်လည်း ဖြစ်လိုက်သေးသည်။ သည်တော့ နောင်တော်ယောက်ဖတော်၏ အရှိန်အဝါနှင့် ဘုရားရှင်နီးပါး တန်ခိုးထွားရမည်ဟု ယုံမှတ်သည်။ သို့သော်-

ဘုရားရှင်သည် အခြားရဟန်းတော်များကို လက်ယာရံ၊ လက်ဝဲရံ စသည့် သာဝကကြီးများအဖြစ် မြှောက်စားလိုက်သောအခါ ကြိတ်မနိုင်ခဲမရ ဒေါသကြီးစွာဖြစ်ပြီး ဘုရားရှင်ကိုပင် သေကြောင်းအကြိမ်ကြိမ်ကြံခဲ့သည်။ ဒါတွေ အားလုံးကို ကျွန်တော်တို့ အားလုံးသိနေခဲ့ကြပြီးဖြစ်သည်။ ပန်းဒကာကိုတင်မြင့်ပြောနေစရာမလို။ သို့သော် ပန်းဒကာက ဇာတ်လမ်းဖြစ်ရပ်ကို ပဓါနထားပြီး ပြောခြင်းမဟုတ်၊ ဖြစ်ရပ်ကို ဖြစ်ပေါ်လာစေသော ပုထုဇဉ်လူ့သဘာဝတို့၏ အရိုင်းစိတ်ကို ပြောလိုခြင်းဖြစ်သည်။ တစ်နည်းအားဖြင့် ရှင်ကြီးဒေဝဒတ်ကို အကြောင်းပြု

ပြီး စာဖတ်သူကိုယ်တိုင် မိမိတို့လက်ရှိ လောကကို ဆင်ခြင်မိရုံ သာမက မိမိ၏ အတွင်းလိပ်ပြာကိုပါ ထိုးဝင်လှမ်းမြင်ကြလေ အောင် ကြိုးပမ်းရေးသားထားသည်ဟု ထင်မိသည်။ သူပြောပုံက စာဖတ်သူနှင့် ရင်းနှီးကျွမ်းဝင်စွာ ဥပုသ်ဇရပ်တွင် ပြောနည်းမျိုး ဖြစ်သည်။ သုံးလိုက်သည့်ဝေါဟာရတွေကတော့ ဟိုး-အထက်အညာပိုင်း ကျေးလက်သုံး စကားလုံးတွေကိုပင် မကြာခဏ တွေ့ရသည်။

ဘယ်လိုဝေါဟာရတွေကိုသုံးပြီး ဘယ်လိုလေသံနှင့်ပင် ပြောပြော၊ သူ့စကားချောသည်မချောသည်အပထား နားစွင့်လို့နေရသည်မှာ အမှန်ဖြစ်သည်။ သူ့စကားကို အားလုံးချုပ်လိုက်တော့ ဒေဝဒတ်သည် ပညာအခြေခံ၊ ဉာဏ်ကြီးပါလျက်နှင့် ကြီးကျယ်လိုလှသော အတ္တန္တွင်းမှတစ်ဆင့် အဝီစိတိုင် ဆင်းသွားခဲ့ရကြောင်းကို နားထောင်နေရင်း ကိုယ့်ပတ်ဝန်းကျင်ရှိ ဒေဝဒတ်တွေက ခေါင်းထဲဝင်ဝင်လာသောကြောင့် မနည်းကြီး ရှင်းထုတ်နေခဲ့ရသည်။ ‘ငါကော ဒေဝဒတ်များ ဖြစ်နေသလား’ဟု ခပ်လန့်လန့် တွေးမိလိုက်တတ်သေးသည်။

ကျွန်တော့်အမြင်ကို ပြောရလျှင် ပန်းဒကာသည် ဒေဝဒတ်၏လုပ်ရပ်တွေအကြောင်းကို ရှုတ်ချလိုစိတ်နှင့် ပြောစေကာမူ ဒေဝဒတ်ကိုတော့ လေးစားစိတ်မကင်းသော ဥပေက္ခာ စိတ်နှင့် ပြောသည်ဟု ဆိုချင်သည်။ ပန်းဒကာကြီး မထိန်းနိုင် သော ဒေါသကိုလည်း ပြောပြလိုက်ရပါဦးမည်။

ပန်းဒကာကြီး၏ဒေါသ

ကိုယ်မမီလိုက် မတွေ့လိုက်ရသည့် ဒေဝဒတ်ကို ထိုသို့ မနှသိ ထားလိုက်နိုင်သော်လည်း ပက်ပင်းကြုံလိုက်ကြားလိုက်ရသော အသေးစားတွေကို မုန်းတီးရွံရှာစိတ်တို့ကိုမူကား ပန်းဒကာကြီး ထိန်းထားလို့ မရနိုင်တော့ပြီ။ အထူးသဖြင့် သင်္ကန်းအရေခြုံ လိုက်ပြီးလိမ်ညာ စားသောက်နေသူတွေအကြောင်းကို ရေးလိုက်သောအခါတွင်မူကား ပန်းဒကာကြီး လူစိတ်ပျောက်သွားလောက်အောင် မုန်းတီးစိတ်နှင့်ရေးသည်။ စာဖတ်သူကလည်း အဲဒီသင်္ကန်းခြုံလူယုတ်မာလူညာကို ပန်းဒကာ ကမြက်ခုတ်ဓါးဖြင့် ခုတ်မည်ဆိုလျှင်ပင် 'ဝမ်းစမိုး ဝမ်းစမိုး'ဟု အော်ပြီး ခါးပန်းကြိုးနှင့် တုပ်ပေးချင်စိတ်ပေါ်လာအောင် ရေးသွားနိုင်ပါပေသည်။

အဲဒါကတော့ ပြောရလျှင် အောင်သင်းပင်လျှင် ခပ်ရှက်ရှက်ပါပဲ။ တောင်တွင်းကြီး တောင်ဘက် ညောင်ပင်လှရွာအနီး ရွှေညောင်အုပ်ကျောင်းက ဦးမဗ္ဗပါလ ခေါ်၊ ချစ်ထွန်းခေါ် (ခ)..... (ခ)..... (ခ)..... သင်္ကန်းအရေခြုံ လူလိမ်တစ်ယောက်အကြောင်းကိုတော့ဖြင့် တစ်တစ်ခွခွ စက်ဆုပ်ရွံရှာရှုတ်ချသောလေသံနှင့်ပြောသည်။ အထူးသဖြင့် ကျွန်တော်သတိထားမိသည်ကတော့ သင်္ကန်း ဟူသော ဘုရားရှင်၏ယူနီဖောင်းကိုဝတ်ပြီး ဘုရားရှင်၏စကားတို့ကိုသုံးလျက် ဉာဝါစီးပွားရှာနေသူများကိုတော့ဖြင့် ပန်းဒကာက ရွံရှာစွာ ပြောသည်ဟု ခံစားမိသည်။ ကျွန်တော် မပြောလိုတော့ပြီ။ စာဖတ်သူ

တွေ့ပါလိမ့်မည်။

ဤသို့လျှင် အကုသိုလ်တွေ ပြုသူတိုင်းအကြောင်းကို ရှုတ်ချသော လေသံနှင့်ပြောသလောဟု မေးစရာရှိသည်။ သည်လိုလည်း မဟုတ်ပြန်။ အမဲသား နွားသတ်သမားကြီး 'ကိုသာဂျမ်း'တို့ ဇနီးမောင်နှံအကြောင်းကိုတော့ ကရုဏာဒေါသနှင့် ပြောပြီး မေတ္တာလေသံနှင့် နိဂုံးသတ်ပေးလိုက်သည်။ ထိုထိုသော ဇာတ်လမ်းတွေ အကြောင်း၊ ဖြစ်ရပ်ပေါင်းတွေကို ကျွန်တော်က စကားဦးသန်းပြီး ပြောရန်မသင့်။ စာဖတ်သူအတွက် အရသာတစ်ဝက်ပျက်သွားနိုင်သည်။ တစ်ခုပြောလိုသည်က 'ပန်းဒကာကိုတင်မြင့်'ကို စာရေးဆရာကောင်းကြီး တစ်ယောက်ဟု မဆိုနိုင်စေကာမူ အလွန်ကို အာဝဇ္ဇန်းရှင်သူ တစ်ယောက်ဖြစ်ကြောင်းကိုတော့ တွေ့ရပါလိမ့်မည်ဟု အာမခံလိုက်ရပါသည်။ ကျွန်တော့်အာမခံချက်ကို စာဖတ်သူသဘောတူလေမည်လား မသိ။ ဖတ်ကြည့်စမ်းပါ။ ။

အောင်သင်း

၂၀-၁၀-၂၀၁၁

"နမော ဝိဘင္ဂဝါဒိနော အနန္တဉာဏိနော ဗုဒ္ဓဿ"

# နိဒါနကထာ

အရှင်ဒေဝဒတ်၏ဘဝဖြစ်စဉ်ကိုပါဠိတော်၊ အဋ္ဌကထာများမှာ ပါလာသည့်အတိုင်း အတ္ထုပ္ပတ္တိ သဘောဖြင့်သာ ဘာသာပြန်လျှင် စာမျက်နှာများများ ထွက်လာစရာ အကြောင်း မရှိပါ။ သို့သော်လည်း 'သေရိဝ-ရွှဲကုန်သည်'ဘဝမှစ၍ ဗုဒ္ဓ၏ ပါရမီတော် ခရီးစဉ်ကြီး တစ်လျှောက်လုံး မိုးမဆုံး လေမဆုံး အောင် ဒုက္ခပေးခဲ့ပုံတို့ကို ဘုရားရှင်က အကြောင်း တိုက်ဆိုင် လာတိုင်း ပါဠိတော် အစုံစုံမှာ ဟောကြားတော်မူခဲ့သဖြင့် အရှင် ဒေဝဒတ်၏ သရုပ်ကို ထုတ်နှုတ်လိုက်သောအခါ စာမျက်နှာ များစွာ ထွက်လာခဲ့ပေသည်။

ထို့ပြင် ပါဠိတော်-၏ ဆိုလိုချက်ကို အနက်အဓိပ္ပါယ် ပေါ်လွင်စေရန် အဋ္ဌကထာ ဆရာတော်ကြီးများက ထပ်မံ၍ ဖွင့်ပြတော်မူခဲ့ကြပြန်သဖြင့် စာမျက်နှာများ နောက်တစ်ဖန် ထွက်လာခဲ့ကြပြီး ကျမ်းကြီးတစ်ဆူလိုပင် ဖြစ်နေပေတော့သည်။

(၁) ဒီဃနိကာယ်၊ သီလက္ခန္ဓဝဂ္ဂပါဠိတော်၊ သာမညဖလ သုတ်၊

(၂) မဇ္ဈိမနိကာယ်၊ မဇ္ဈိမပဏ္ဏာသပါဠိတော်၊ အဘယရာဇ ကုမာရသုတ်၊

(၃) သံယုတ္တနိကာယ်၊ သဂါထာဝဂ္ဂ၊ ဒေဝတာသံယုတ်၊ သကလိသုတ်၊ ဗြဟ္မသံယုတ်၊ ဒေဝဒတ္တသုတ်၊

(၄) သံယုတ္တနိကာယ်၊ နိဒါနဝဂ္ဂ၊ လာဘသက္ကာရသုတ်၊ ဓာတုသံယုတ်၊ စင်္ကမသုတ်၊

(၅) သံယုတ္တနိကာယ်၊ သဠာယတနဝဂ္ဂ၊ သဠာယတန သံယုတ်၊ အာဒိတ္တသုတ်၊

(၆) အင်္ဂုတ္တရနိကာယ်၊ အင်္ဂုတ္တိုရ်ပါဠိတော်၊ စတုက္ကနိပါတ်၊ ဒေဝဒတ္တသုတ်၊ ဥပကသုတ်၊

(၇) အင်္ဂုတ္တရနိကာယ်၊ ပဉ္စကနိပါတ်၊ ကကုဓသုတ်၊ ဆက္က နိပါတ်၊ ပုရိသိန္ဒြိယဉာဏသုတ်၊

(၈) အင်္ဂုတ္တရနိကာယ်၊ အဋ္ဌကနိပါတ်၊ ဒေဝဒတ္တဝိပတ္တိ သုတ်၊ဒုတိယဝေဃျသုတ်၊ နဝကနိပါတ်၊ သီလာယူပသုတ်၊

(၉) ခုဒ္ဒကနိကာယ်၊ ဝိနယ၊ ပါရာဇိကပါဠိ၊ သံဃဘေဒက သိက္ခာပဒ၊ ဘေဒါနုဝတ္တကသိက္ခာပဒ၊

(၁၀) ခုဒ္ဒကနိကာယ်၊ ဝိနယ၊ ပါစိတ္တိပါဠိ၊ ဘောဇနပါဠိ၊ ဂဏ ဘောဇနသိက္ခာပဒ၊

(၁၁) ခုဒ္ဒကနိကာယ်၊ ဝိနယ၊ မဟာဝဂ္ဂပါဠိ၊ အာဒိတ္တပရိ ယာယသုတ်၊ သီဟသေနာပတိသုတ်၊

(၁၂) ခုဒ္ဒကနိကာယ်၊ ဝိနယ၊ စူဠဝဂ္ဂပါဠိ၊ သံဃဘေဒ ကက္ခန္ဒက၊
(၁၃) ခုဒ္ဒကနိကာယ်၊ ဝိနယ၊ ပရိဝါပါဠိ၊ ဥပါလိပဥ္စာ၊
(၁၄) ခုဒ္ဒကနိကာယ်၊ ဥဒါနပါဠိ၊ သံဃဘေဒကသုတ်တို့နှင့် အတူ ၎င်းပါဠိတော်ကြီးများကို ဖွင့်ပြသော အဋ္ဌကထာများ၊ ဗုဒ္ဓဝံသ အဋ္ဌကထာ၊ အပါဒါနအဋ္ဌကထာ၊ သမ္မောဟဝိနောဒနီ အဋ္ဌကထာ၊ သုတ္တနိပါတ အဋ္ဌကထာ၊ ဓမ္မပဒ အဋ္ဌကထာ၊ ဇာတက အဋ္ဌကထာ၊ သာရတ္ထဒီပနီ(ဋီကာ)တို့တွင် ပီပြင်စွာ ဖွင့်ပြတော်မူခဲ့ကြသဖြင့် တနင့်တပိုးကြီး ဖတ်ရှုရပေသည်။

## ပါဠိတော်နှင့် လူငယ်များ

ယင်းပါဠိတော်၊ အဋ္ဌကထာများကို မြန်မာဘာသာသို့ ပြန်ဆိုထားသော ကျမ်းစာအုပ်များလည်း ရှိပါသည်။ သို့သော် လည်း သားရေဖုံးများဖြင့် ခံ့ခံ့ညားညား၊ ခိုင်ခိုင်မာမာ၊ ကြီးကြီး မားမား (စာအုပ်ကြီးများ) ဖြစ်ခြင်းကြောင့် မျိုးဆက်သစ်တို့က ကိုင်၍ပင် မကြည့်ချင်ကြပေ။ ဘုန်းကြီးစာတွေ-ဟုပင် ကင်ပွန်း တပ်လိုက်ကြပါသေးသည်။ ဘာသာရေး အနှစ်သာရတွေကိုမှ သိလိုလှသည့် လူရွယ်၊ လူငယ်များကမူ ထုထည်ကြီးမားသော ယင်းမြန်မာကျမ်းစာများကို ဖတ်ရှုကြပါ၏။

သို့သော်လည်း "ကျွန်တော်တို့ မြန်မာတွေဖြစ်ရက်နဲ့ မြန်မာစာကို မြန်မာလို နားမလည်၊ အဓိပ္ပါယ် မပေါက်နိုင်တော့ နောက်ထပ် မကိုင်ချင်တော့ဘူးဗျာ" ဟူ၍ ညည်းညူ ပြောဆို

ကြသည်ကို အကြိမ်များစွာ ကြားသိရသောကြောင့် ယင်းလူရွှယ်၊ လူငယ်များ လက်ကပင် မချချင်လောက်အောင် အကျိုးဆောင် ရေးပြလိုသော စေတနာများ တဖွားဖွား ဖြစ်ပေါ်လာခဲ့ပေသည်။

သို့သော်လည်း 'ခါချဉ်ကောင် မာန်ကြီးလို့၊ တောင်ကြီးကို ဖြိုမည့်ကြံ၊ ခါးကမသန်'ဟူသော ဆိုရိုးစကားကဲ့သို့ ယင်းလုပ်ငန်းကို စွမ်းဆောင်နိုင်သော အရည်အချင်းက မိမိမှာ ပြည့်ဝစွာ မရှိသဖြင့် ဒေါမနဿဝေဒနာ၏ဖိစီးမှုဒဏ်ကိုသာ ခံစားလိုက်ရပါသည်။

## မေတ္တာရှင် ဆရာတော်၏ တိုက်တွန်းချက်

တစ်နေ့တွင် 'မေတ္တာရှင်-ရွှေပြည်သာဆရာတော်' က "ဆရာကြီးဦးရွှေအောင်၊ ရေးချိန် ရမသွားတဲ့၊ ဓမ္မပဒတွေကို ပန်းဒကာရဲ့ ရေးဟန်နဲ့သာ ရေးမယ်ဆိုရင် ဖတ်ကောင်းလိမ့်မယ်-လို့ ဆရာတော်ယုံကြည်တယ်။

"ဒီတော့ ပန်းဒကာကိုယ်တိုင် အယ်ဒီတာချုပ်လုပ်နေတဲ့ 'မေတ္တာရှင် ဘာသာယဉ်ကျေးမှု မဂ္ဂဇင်း'မှာ လစဉ် တစ်ပုဒ်ကျ၊ တစ်ပုဒ်ကျ၊ ခန်းဆက်နဲ့ဖြစ်ဖြစ် ရေးတာကို ဆရာတော်ဖတ်ချင်တယ်။ ကြိုးစားပြီး ရေးပါ"ဟု တိုက်တွန်းတော်မူသဖြင့် ကြိုးကြိုးစားစား ရေးသားခဲ့ရာ မဂ္ဂဇင်းမှာ ၁၂-ပုဒ်(တစ်နှစ်စာ) ပြည့်သွားသည်အထိ အောင်မြင်မှု ရှိလာခဲ့ပါသည်။

စာဖတ်ပရိသတ်တို့ကလည်း တယ်လီဖုန်းဖြင့်တစ်မျိုး

(င)

စာဖြင့် တစ်ဖုံ၊ လူချင်းတွေ့သောအခါ၌ တစ်နည်း၊ အသီးသီး ချီးမြှောက် အားပေးလာချိန်တွင် မဂ္ဂဇင်းအလုပ်နှင့် မိသားစု တာဝန်ဝတ္တရားများကြောင့် ဆက်လက် မရေးသားနိုင်တော့ဘဲ (မဂ္ဂဇင်းအမှတ် - ၁၃-မှ၂၄-အထိ)ဖြင့်သာ ရပ်နားခဲ့ရပါသည်။ ထို့အတွက် စာဖတ်သူများကို အလွန်အားနာရပါသည်။ စိတ်လည်း မကောင်းပါ။ ထို့ကြောင့် မိမိမူလထားခဲ့သည့် စေတနာရင်းအတိုင်း အိပ်ချိန်လျှော့၍ အစအဆုံး ရေးသားလိုက်ပါသည်။

အသိပေးလိုပါသည်။

အရှင်ဒေဝဒတ်သည် အရိမေတ္တေယျ မြတ်စွာဘုရားပွင့် တော်မမူမီ အနာဂတ်ကာလ၌ 'အဋ္ဌိဿရ' အမည်ရသော ပစ္စေကဗုဒ္ဓါ(ဘုရားငယ်တစ်ဆူ) ဖြစ်တော်မူပါလိမ့်မည်။ ထို့ကြောင့် -
'ဒေဝဒတ်'ဟုပင် ရင့်သီးစွာ မခေါ်အပ်ပါပေ။ ယခု ဂေါတမဗုဒ္ဓလက်ထက်တော်ဝယ် မိုက်တွင်းနက်ခဲ့သည့် အဖြစ်အပျက်တို့ကို မူတည်၍ 'ဗုဒ္ဓ သာသနာတော်နှင့် အရှင်ဒေဝဒတ်' ဟု အမည်တပ်ကာ ရေးသားတင်ပြလိုက်ပါသည်။

ယင်းသို့ တင်ပြရာတွင် 'အထခေါ- ထိုအခါ၌၊ ဘဂဝါ- မြတ်စွာဘုရားသည်၊ ဇေတဝနေ- ဇေတဝန် အမည်ရှိသော၊ အာရာမေ-ကျောင်းတိုက်၌၊ ဝိဟရတိ-ဣရိယာပထ, မျှတ ရွှင်

ပြုံးသီတင်းသုံးတော်မူလေ၏'ဟူသော ပါဠိတော်မူရင်း စကားလုံးများကို ခေတ်အမြင် ခေတ်အတွေးဖြင့် ရေးသားထားသည်ကို တွေ့ရ ပါလိမ့်မည်။

အထူးသဖြင့် အရှင်ဒေဝဒတ်သည် လောကီစျာန် အဘိညာဥ်ရ ပုထုဇဉ် ရဟန်းတစ်ပါးသာ ဖြစ်ခြင်းကြောင့် ပုထုဇဉ်၏ စိတ်ကိုပုံဖော်ရေးသားထားသည် ဖြစ်၍ စာအုပ်ဘီရို (တက်စ်တာ) ဖြင့် စစ်ကြည့်မည် ဆိုပါက 'အထခေါ် ဘာဂဝါ'နှင့် ကွက်တိဖြစ်နေလိမ့်မည် မဟုတ်ကြောင်း ကြိုတင်၍အသိပေးလိုပါသည်။ ယင်းသို့ ကွက်တိ မဟုတ်သော်လည်း 'ဇဝံ မေ သုတံ၊ မေ-မယာ-အကျွန်ုပ် အာနန္ဒာသည်၊ ဇဝံ-ဤသို့၊ သုတံ-ကြားနာခဲ့ရပါ၏'ဟူသော သံဂါယနာတင် ကျမ်းစာများ၏ ပြင်ပသို့ထွက်၍ မိမိ၏ စိတ်ကူးဉာဏ်ဖြင့် ဇာတ်ကွက်ထွင် ရေးသားထားသော ဇာတ်လမ်း မဟုတ်ကြောင်း အသိပေးလိုပါသည်။

<u>ကျေးဇူးစကား</u>

* ဤစာအုပ် ရေးသားရန် တိုက်တွန်းတော်မူသော ဓမ္မကထိက ဗဟုဇနဟိတဓရ ဘွဲ့တံဆိပ်တော်ရ' ဘဒ္ဒန္တဇဝန (မေတ္တာရှင် ရွှေပြည်သာ) ဆရာတော်။ စာအုပ်စာတမ်းများနှင့် တစ်သက်တာ သာသနာပြု ထောက်ပံ့ငွေ အလှူရှင် ဦးစိုးတင့် (ညီမေတ္တာ၊ မေတ္တာရှင်ဘာသာ ယဉ်ကျေးမှုမဂ္ဂဇင်း အုပ်ချုပ်ရေးမှူး) * ပန်းဒကာစာပေ ပြန့်ပွားရေးအတွက် 'တစ်သက်တာ သာသနာပြု ထောက်ပံ့ငွေအလှူရှင်' ဖြစ်တော်မူသော 'ဓမ္မရုံဦး

မိုးကုတ်ရိပ်သာ ကျောင်းတိုက်ကြီးများ၏ ပဓါနနာယက၊ ပရိယတ္တိ၊ ပဋိပတ္တိစွယ်စုံရ၊ ပြည်တွင်းပြည်ပ၊ နယ်လှည့်သာသနာပြု၊ ဓမ္မကထိက ဆရာတော် အရှင်သုနန္ဒ။

■ ဤစာအုပ် တစ်အုပ်လုံးကို စိတ်ရှည်လက်ရှည် ဖတ်ရှု၍ သုံးသပ်ချက်(အမှာစာ)ရေးသားချီးမြှင့်ပေးသော ဆရာကြီး ဘာဘ(ဦး)အောင်သင်း။

■စိုက်ပျိုးမွေးမြူရေးလုပ်ငန်း(၉-မိုင်၊ ပြည်လမ်း)မှ လက်ထောက်မန်နေဂျာ (စီမံ-ငွေစာရင်း) အစ်မ ဒေါ်သဇင်သိန်း (ဇင်ချိုသက်)နှင့် ရုံးသူ၊ ရုံးသားများ။

■ မြိတ်မြို့၊ 'ပြည့်ဖြိုးထွန်း အင်တာနေရှင်နယ်၊ ကုမ္ပဏီ လီမိတက်' မှ ဒါရိုက်တာကြီး ဦးလှသန်းနှင့်တကွ မန်နေဂျာ ဒေါ်နီနီ လွင်၊ အလက(ပထက်) ဆရာ၊ ဆရာမများ။

■ ဦးစိုးကြီး (စိုးကြီး-ကွမ်းယာ) မိသားစုများ။

■ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့မှ (ဦးဌေးဝင်း) ဒေါ်အုန်းမြင့် မိသားစု။

■ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့၊ မြဝတ်ရည်လမ်း၊ ၃၃/၈၂-၁၀ ရပ်ကွက်၊ ဓမ္မစာရေးဆရာ ဦးသက်မှူ(မောင်သက်) မိသားစု။

■ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့၊ အမှတ်၊ ၁၆၆၀/ က- ပါရမီ(၁)လမ်း၊ ပန်းခြံ ၁၊ တ/၁၅ရပ်ကွက်နေ ဦးထွန်းဝင်းစိုး၊ ဘာသာရေး စာရေးဆရာမ ဒေါ်ကြည်ကြည်အေး (ယောဂီ-ရွှေပြည်သာ) မိသားစု၊ ဦးရဲတင်+ ဒေါ်ဝါ။

(၉)

ဤစာအုပ်ကို အစ-အဆုံး ကွန်ပျူတာရိုက်နှိပ်ပေးကြသော ကိုဇော်လင်း+မဖြူ (တပည့်) ကိုဇော်ထွေး၊ (မြတ်သစ္စာ, ကွန်ပျူတာ) မြန်မာ့စီးပွားရေးဘဏ်အနီး၊ မြစ်ကြီးနားမြို့-တို့အား ကျေးဇူး အထူးဥပကာရ တင်ရှိပါကြောင်း မော်ကွန်းတင်အပ်ပါသည်။

---

ပန်းဒကာကိုတင်မြင့်
(၁၃၇၃-ခုနှစ်၊ ဝါဆိုလပြည့်ကျော်(၁)ရက်
(၁၆-၇-၂၀၁၁ စနေနေ့)
Ph-09-2401981

---

"နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ"

## အရှင်ဒေဝဒတ်၏ ဘဝ

အရှင်ဒေဝဒတ်သည် ဒေဝဒဟပြည့်ရှင် ဘုရင်သုပ္ပဗုဒ္ဓနှင့် အမိတာဒေဝီမိဖုရားကြီးတို့၏ သားတော်ဖြစ်သည့်အပြင် ကပိလဝတ်ပြည့်ရှင် ဘုရင်သုဒ္ဓေါဒနမင်းတရားကြီးနှင့် မာယာဒေဝီမိဖုရားကြီးတို့၏ တူ၊ ယသောဓရာမင်းသမီး၏ မောင်တော်၊ ဗုဒ္ဓလောင်းလျာ သိဒ္ဓတ္ထမင်းသား၏ ယောက်ဖ၊ ထင်ရှားသော သာကီဝင် မင်းသားတို့တွင် တစ်ပါး ပါဝင်သူဖြစ်၏။ ဘိုးတော်အဉ္စနမင်းကြီး ဖြို့ခွင်းသော မဟာသက္ကရာဇ် ၆၉-ခုနှစ်တွင် မွေးဖွားခဲ့သူဖြစ်၍ သိဒ္ဓတ္ထမင်းသားအောက် (၁)နှစ်ငယ်လေသည်။

မင်းစည်းစိမ်တို့ကြားဝယ်ပီပြင်စွာ ကြီးပြင်းလာခဲ့ရသူဖြစ်၍ လူ့လောက တစ်ခွင်မှာ အရှိန်အဝါကြီးမားသူလည်းဖြစ်၏။ ထိုထိုသို့သော လောကီစည်းစိမ် အရှိန်အဝါ ဥစ္စာဓနတို့ကို မြိန်ရှက်စွာ သုံးဆောင်ခံစားပြီး၍ 'အနုရုဒ္ဓါ၊ အာနန္ဒာ၊

ကိမိလ' စသော သာကီဝင်မင်းသားတို့နှင့်အတူ ဗုဒ္ဓသာသနာသို့ ဝင်ရောက်ခဲ့သဖြင့် 'သာကီဝင်မင်းသားတွေ သာသနာဝင်ပြီး သက်န်းဝတ်ကြသတဲ့' ဟူ၍ သာသနာ့ဂုဏ်ကျက်သရေ တိုးတက်စေခဲ့လေသည်။

သာသနာတွင်းသို့ ရောက်ရှိလာကြသောအခါ အရှင်ဘဒ္ဒိယသည် ထိုနှစ် ဝါတွင်းမှာပင် တေဝိဇ္ဇရဟန္တာဖြစ်တော်မူ၏။ အရှင်အနုရုဒ္ဓါသည် ဒိဗ္ဗစက္ခုအဘိညာဉ်ကို ရရှိတော်မူပြီးနောက် 'မဟာဝိတက္ကသုတ်'ကို ကြားနာရသဖြင့် အရဟတ္တဖိုလ်သို့ ရောက်ရှိတော်မူလေသည်။ အရှင်အာနန္ဒာသည် အရှင်ပုဏ္ဏမထေရ် ဟောကြားတော်မူအပ်သော 'မှန်ရိပ်ဥပမာပြတရားတော်' ကို ကြားနာရသဖြင့် သောတာပတ္တိဖိုလ်၌ တည်တော်မူ၏။ အရှင်ဘဂုနှင့်အရှင်ကိမိလတို့သည်လည်း ဝိပဿနာတရားကို ပွားများအားထုတ်ကြခြင်းကြောင့် ရဟန္တာဖြစ်တော်မူကြ၏။

အရှင်ဒေဝဒတ်သည် ပုထုဇဉ်ရဟန်းအဖြစ်ဖြင့် လောကီစျာန်အဘိညာဉ်တန်ခိုးကိုသာ ရရှိခြင်းကြောင့် အရိယာစာရင်းတွင် မပါဝင်ချေ။ အရှင်ဒေဝဒတ်သည် မင်းစည်းစိမ်ကြားဝယ် ကြီးပြင်းလာရသူဖြစ်၍ နန်းတွင်း၌ နေထိုင်ခဲ့စဉ်က 'ကိုယ်တော်လေးဘုရား၊ ကိုယ်တော်လေးဘုရား'ဟု နန်းတွင်းသူ၊ နန်းတွင်းသားတို့၏ ပါးစပ်ဖျားတွင် ရေပန်းစားခဲ့သူပီပီ သာသနာတော်ကို မှီ၍ ရဟန်းတစ်ပါး ဖြစ်လာသောအခါ၌လည်း ထိုနည်းအတူ ဖြစ်လာလိမ့်မည်ဟု ပုထုဇဉ် သဘာဝ အတွေးစဝင်နေဆဲပင်ဖြစ်၏။

## အရှင်ဒေဝဒတ်၏စိတ်ထား

ကောသမ္ဗီပြည်၌ မြတ်စွာဘုရားရှင် သီတင်းသုံးတော်မူစဉ်က ကြီးမားသော လာဘ်ပူဇော်သက္ကာရပွဲကြီး ဖြစ်ပေါ်လာလေသည်။ လူအများတို့သည် သက်န်းစသော လှူဖွယ်ပစ္စည်းများကို လက်ကဆွဲကိုင်လျက် 'မြတ်စွာဘုရား ဘယ်မှာ သီတင်းသုံးပါသလဲ ဘုရား'

'အရှင်သာရိပုတ္တရာ မရှိဘူးလား ဘုရား၊ အရှင်မောဂ္ဂလ္လာန် မရှိဘူးလားဘုရား၊ အရှင်အနုရုဒ္ဓါကိုရော မတွေ့မိဘူးလားဘုရား၊ အရှင်မဟာကဿပမထေရ်ကြီးကော ရှိပါသလား ဘုရား' ဟု တဖွဖွ မေးမြန်းကြသလောက် အရှင်ဒေဝဒတ်ကိုမူ မည်သူ တစ်ဦး တစ်ယောက်ကမျှ မေးမြန်းဖေါ် မရသောအခါ မင်းသားမာန် စောင်းမကျိုးသေးသော အရှင်ဒေဝဒတ် သည် အာသဝေါ ကုန်ခန်း၍ ရဟန္တာဖြစ်တော် မူပြီးကြကုန်သော သာသနာ့ဘောင် အတူ ဝင်ဖက် အရှင်အနုရုဒ္ဓါတို့ကိုပင် မကျေနပ်ချင်တော့သကဲ့သို့ ဘဝတူ မထေရ်ကြီးများနှင့် မထေရ်ငယ်တို့အပေါ် မထီမဲ့မြင်ပြုချင် စိတ်တို့ အပြင် သင်းပိုင်နှင့် ကေသီကိုပင် ချပ်ဝတ်တန်ဆာလို ထင်ကာ ဣဿာမစ္ဆရိယတွေ ဝင်နေချေတော့သည်။

တစ်ကျောင်းတည်းမှာ အတူတကွ နေထိုင်ကြပါလျက် အဘယ် ဒကာဒကာမကမျှ မေးမြန်းဖေါ် မရခြင်းသည် မူရင်းဘွဲ့၏ နောက်ဆက်တွဲမှာ ဂုဏ်ထူး ဝိသေသတစ်ခု မပါခြင်းကြောင့် ဖြစ်နိုင်ရာသည်'ဟု စဉ်းစားပြီးလျှင် ဘုရားရှင် မြင်

လောက်သော နေရာ၌ထိုင်ကာ 'မည်သည့် ဘွဲ့တံဆိပ်တော်များ ပေးအပ် ချီးမြှင့်လေမလဲ'ဟု မျှော်တလင့်လင့်ဖြင့် စောင့်စားနေထိုင်ခဲ့လေသည်။

သို့သော်အရှင်ဒေဝဒတ် ထင်ထားသလိုကားဖြစ်မလာခဲ့ချေ။

နှလုံးသား၌ သူတော်ကောင်းတရား သူတော်ကောင်းစိတ်ထား မရှိသော လူမိုက်သည် သတိသမ္ပဇဉ် ဉာဏ်နှင့်ယှဉ်သော ဆင်ခြင်တုံတရား မရှိခြင်းကြောင့် အကုသိုလ်ပြုရန်အရှက် အကြောက်တရားလည်း မရှိပေ။ အရှက်အကြောက်မရှိလေသော လူမိုက်သည် ဣန္ဒြိယသံဝရသီလ-ဟူသောဣန္ဒြေစောင့်စည်းမှုလည်း မရှိနိုင်။ ဣန္ဒြေမရှိသော လူမိုက်၏ သန္တာန်၌ကိုယ်ကျင့်သီလလည်း မရှိ။ သီလမရှိသူ၏ ကာယကံ၊ ဝစီကံ၊ မနောကံတို့သည် အဘယ်မှာ တည်ကြည်မှု ရှိပါလေတော့မည်နည်း။

တည်ကြည်မှု မရှိသူသည် အမှန်တရားကို မမြင်နိုင်ပါ။ အမှန်မမြင်၍ အမြင်မှန်မရှိသော လူမိုက်သည် လောကီအာရုံကာမဂုဏ်နှင့် ကျော်စောမှုကို မက်မောတတ်၏။ မရမနေ ရှာဖွေတတ်၏။ စုံမက်စုစည်းတတ်၏။ (အတ္တကြီး၏) မိမိနှင့် မိမိမိသားစုမှ တစ်ပါး အခြားမိသားစုများကို စာနာမှု မရှိသည့်အပြင် မိမိထက် သာသလိုထင်ပါက တွန်းချရန်ပင် အသင့်ဖြစ်နေတတ်ကြလေသည်။

အရှင်ဒေဝဒတ်သည် ဗုဒ္ဓနှင့် သွေးသား တော်စပ်သကဲ့

သို့ သာသနာတွင်းသား ရဟန်းတစ်ပါး ဖြစ်သည့်အပြင် ဘုရားရှင်ကို နေ့စဉ် ဖူးတွေ့ခွင့်ရပြီး တရားတော်များကိုလည်း နာကြားခွင့်ရ၏။သို့သော် ဟင်းမွှေသော ယောက်မသည် ဟင်း၏ အရသာကို မသိတတ်သကဲ့သို့ အရှင်ဒေဝဒတ်၏ နှလုံးသား၌လည်း တရားမှန်များ မပေါ်ပေါက်နိုင်ဘဲ ယင်းတရားရှင်ကိုပင် အပြစ်တင်နေလေတော့သည်။

## အရှင်ဒေဝဒတ်၏ အတွေးအမြင်

"ကြည့်စမ်းပါလား . . .၊ ယောက်ဖတော်ဗုဒ္ဓ လုပ်လိုက်ပုံ၊ လုပ်လိုက်ပုံ၊ ဘယ်လောက် စိတ်ကုန်စရာကောင်းလိုက်သလဲ-လို့၊ ဟိုး . . ဆွေမတော် မျိုးမစပ် အရှင်သာရိပုတ္တရာနဲ့ အရှင်မောဂ္ဂလ္လာန် ကိုယ်တော်မြတ်နှစ်ပါးကို လက်ယာရံ၊ လက်ဝဲရံ-ရယ်လို့ ထားပြီး ဘွဲ့တံဆိပ်တွေ အသီးသီး ပေးအပ်လိုက်တယ်။ အဲဒါ ထားလိုက်ပါဦး။ ငါနဲ့ သာသနာ့ဘောင် အတူဝင်ဖက် အနုရုဒ္ဓါကိုလည်း 'ဒိဗ္ဗစက္ခုအဘိညာဉ်' အရာမှာ အသာလွန်ဆုံး-ဆိုတဲ့ ဧတဒဂ်ဘွဲ့တံဆိပ်တော်ကို ပေးလိုက်ပြန်တယ်။ အာနန္ဒာ့ကို ဆိုရင် ငါးဘွဲ့ကြီးများတောင် ဆင့်ပြီး ပေးလိုက်သေးဗျား။

"ဒါလည်း ဖြေသာပါတယ်လေ။ ဘာဖြစ်လို့လဲဆိုတော့ အာနန္ဒာက ပင်ကိုတော်တဲ့ အရည်အချင်း ရှိပြီးသား ဖြစ်တဲ့ အပြင် ယောက်ဖတော် ခင်အောင်လည်း ပြုစုတတ်တာဆိုတော့ ဆယ်ဘွဲ့လည်း ရထိုက်ပါတယ်။ ဟုတ်တယ်လေ .

ကိုယ်မှ သူ့လို အနီးကပ် လိုဘတ်ပြည့်အောင် မပြုစုတတ်တာ ပဲဟာ။ ဒါ မနာလိုစရာ မရှိပါဘူး။

"ထားလိုက်ပါတော့၊ ထားလိုက်ပါတော့ . . ထားလို့ မရဘဲ စိတ်ထဲ ကသိကအောက် ဖြစ်ရတာက ကြည့်စမ်း ပါလားဗျာ . . လူ့ဘဝတုန်းက ကျုပ်တို့ကို ဆံပင်လျှော်၊ ဆံသ၊ မုတ်ဆိတ်ရိတ် ပေးခဲ့ရတဲ့ 'ဥပါလိ'ကိုလည်းပဲ 'ဝိနည်းအရာမှာ ဧတဒဂ်ဘွဲ့တံဆိပ်'တဲ့။ ပေးပစ်လိုက်တယ်။ အဲဒါကောင်း သလား။ စဉ်းစားကြည့်လေဗျာ။

"တကယ်ဆိုရင် ဘာပဲဖြစ်ဖြစ် ကျုပ်နဲ့ဗုဒ္ဓဟာ တစ်ချိန်က ယောက်ဖတော်ခဲ့ကြတာ မဟုတ်လား။ အားနာပါးနာနဲ့ ပေးရင် တောင် ကျုပ်ကိုလည်း အဆောင်အယောင်နဲ့ ဘွဲ့တစ်ခုခု သတ်မှတ်ပြီး ပေးဖို့တော့ ကောင်းတာပေါ့။ ဟုတ်ဘူးလား။

"ခုတော့ဗျာ . . ကျုပ်ကို ချန်ထားတယ်။ ဒီမယ် . လောကမှာ ဂုဏ်ပါဝါမလိုချင်တဲ့ ပုထုဇဉ် ဘယ်နားသွားရှာလို့ တွေ့မြင်နိုင်ပါ့မလဲ။ အဲ. ကျုပ်လည်း သာကီဝင်ပါပဲဗျာ။ ပြီး တော့ လူ့လောကမှာ နေခဲ့တုန်းက တက္ကသိုလ်အတန်းပညာ ဘွဲ့ထူးဂုဏ် ထူးတွေ ရရှိထားသူပဲ မဟုတ်လား။ သာသနာထဲ ကို ဝင်ခဲ့ကာမှ တောထွက်လောက်တောင် အဆင့်က မရှိဖြစ်နေ လေတော့ သင်ခဲ့ရတဲ့ပညာတွေကိုအားနာလိုက်တာ လွန်ရော။ ပြီးတော့ ဒီလိုနေရတာ ဘာအဓိပ္ပါယ် ရှိတော့မလဲ။

"ကဲ . . ရှိပါစေတော့၊ ရှိစေတော့၊ ရှိစေတော့၊ အဲဒါ တွေ အားလုံးကို မေ့လိုက်တော့မယ်။ ကျုပ်လည်း လူညံ့မှ

မဟုတ်တာဘဲဗျာ။ ရ-ထားတဲ့ လောကီဈာန် အဘိညာဉ်တန်ခိုးနဲ့ လာဘ်လာဘ တိုးအောင် တစ်မျိုးမျိုးတော့ လုပ်မှဖြစ်မယ်။ ဘယ်လိုလုပ်ရရင် ကောင်းမလဲ။ အင်း . . အကြံတစ်ခုတော့ ရပြီ။

"အဘိညာဉ်ပညာပြပြီး ဒကာ ဒကာမတွေရဲ့နှလုံးသားကို အရည်ပျော်ကျသွားအောင် တရားစကား အဆန်းလေးတွေနဲ့ ချဲ့ပြ လိုက်ရင် ငါ့ဘက်ကို ပုံလဲလာမှာ သေချာတယ်။ ဒကာ ဒကာမ ဆိုတာ ယရာဝါသနဲ့ နေကြတာမို့ ဘာညာသာရကေ, လေးတွေကို နည်းနည်းလောက် ပြောလိုက်ရင် ဘဝင်ကျသွားကြတဲ့ လူတွေက အများသားကလား။

အိမ်ထောင် မရှိတဲ့သူများဆိုရင် ပိုလို့တောင် လွယ်သေးဗျာ။ ကျော်ကြားလာရင် သားတော်ချင်သူတွေ၊ ကံထပ်ချင်သူတွေ၊ ဆွေမျိုးတော်ချင်သူတွေ အများကြီးပဲလေ။

"အင်း . . . တစ်ခုတော့ စဉ်းစားစရာရှိတယ်။ ငါ့ထက် အသက်သိက္ခာကြီးတဲ့ အဂ္ဂမဟာထေရ်တွေက ရှိနေကြသေးလေတော့ ငါ ထင်ရာလုပ်လို့ ဖြစ်ပါ့မလား။ ဒါလည်း စဉ်းစားစရာပဲ။ ယောက်ဖတော်ကို ကိုးကွယ်နေကြတဲ့သူတွေဟာ ဘုရင်တွေ၊ သူဌေးတွေ၊ သူကြွယ်တွေ၊ ပညာတတ်တွေ၊ အတွေးအခေါ်ရှိသူတွေ ပါကြ တဲ့အပြင် ဘွဲ့ရ မထေရ်ဆိုတဲ့ ပုဂ္ဂိုလ်အရှင်မြတ်တွေကလည်း ဘွဲ့အရှိန်လေး မညှိုးမှိန်ရလေအောင် အကြိုက်အလိုက်ဆောင်ပြီး အနားမှာ ခစားနေကြတာဆိုတော့ အရမ်းလုပ်လို့တော့ မဖြစ်ဘူး။ တစ်ချက် အတွေးမှားရင် ကျေး

ခနဲ ဖြစ်သွားနိုင်တယ် မဟုတ်လား။

" အို . ဒါလေးများ၊ 'မဟာထေရ်ကို ကပ်ချင်ရင် လာဘ်၊ ကညာမေ ကပ်စေချင်ရင် ငွေ၊ ပြည်သူတွေ ကပ်စေချင်တော့ တန်ခိုး' လို့ စာချိုးလည်း ရှိပြီးသားပဲ။ ဒီတော့ လာဘ် လာဘကို ဘယ်နည်းနဲ့ရရ မဖြစ်မနေ ရအောင်ရှာဖွေပြီး အခါအခွင့်သင့်ရင် အထူးသဖြင့် သီတင်းဝါလ ကျွတ်တဲ့ အခါမျိုးမှာ အထုပ်ကြီးကြီးနဲ့ ကန်တော့ထားလိုက်လို့ကတော့ 'ဒီကောင် ဒေဝဒတ်ကြီး တော်ရှာတယ်၊ တော်ရှာတယ်'နဲ့ ချီးကျူးခန်းတွေ ဖွင့်နေကြမှာ သေချာတယ်။ လာဘ်လာဘနဲ့ ဂုဏ်ပါဝါ မလိုချင်သူဟာ ဘုရား ရဟန္တာနဲ့ မိုးပဲ ရှိလိမ့်မယ်။ မြေကြီးတောင် သိပ်စိတ်မချရဘူးလေ။ ကြီးကြီး၊ သေးသေး၊ ပူပူ၊ အေးအေး၊ အညစ်အကြေးလည်း ချမ်းသာမပေးဘူး၊ အကုန်လက်ခံတာပဲ မဟုတ်လား။ ကျန်တဲ့ ပုထုဇဉ်တွေကတော့ ဟန်ဆောင် ကောင်းကြတာကလွဲလို့ သံပရာသီးလို ကြီးလေ ချဉ်လေပါပဲ။

"ဒီတော့ ဘယ်လောက် တင်းမာတဲ့ မထေရ် ဖြစ်နေနေ သူဖြစ်ချင်တာတွေကို သူများထက် ပိုအောင် လုပ်ပြပေးနိုင်ရင် ကိုယ့် စည်းဝိုင်းထဲ ရောက်တော့တာပါပဲ။ မထေရ်ကြီးတစ်ပါး ကိုယ့်စည်းဝိုင်းထဲမှာ ရှိနေရင် ဘယ်သူက အပြစ်မြင်ရဲတော့ မလဲ။ 'လုပ်စမ်းကွာ ဒေဝဒတ်' လို့ ပါးစပ်က မပြောပေမယ့် အရှိန်က ပြောတာထက် ထိရောက်မှုရှိတယ်။ မယုံမရှိနဲ့ ကိုယ်တွေ့ပဲ။ နောက်တစ်ခုက ငါ့အသက် လေးဆယ်ဝန်းကျင်ပဲ ရှိသေးတာဆိုတော့ ရှုပါက အများကြီး ကျန်သေးတယ်။ တရားပြ

ကောင်းတဲ့ အရှင်ပုဏ္ဏတောင် ငါ့လောက် ချောလို့လား။

"သာသနာမှာ ရဟန်းတစ်ပါးရဲ့ အတွေ့အကြုံသာ ငါ့ထက် သာကောင်းသာမယ်။ လောကနဲ့နွယ်ပြီး ကြီးပွားအောင် လုပ်ကြစတမ်း-ဆိုရင် ဒေဝဒတ်တို့က 'အဟမ်း'လို့ အသံပေးတာနဲ့တင် မီးသေတဲ့အပြင် မီးတောက်ချင်ရင်လည်း ဖြစ်ပါတယ်။ နောက်ဆုံး လူတွေ ဘဝင်ကျအောင်ဆိုရင် 'ဒေဝဒတ် အငြိမ့်'လို့ ထောင်ရင်တောင် ဖြစ်သေးသဗျာ။ ဒါက အောက်ထစ်ဆုံး အဆင့်လေးကို ပြောတာပါ။

"ကဲ . . ဒါဖြင့် ဘယ်မထေရ်ကို ဥပဇ္ဈာယ်အဖြစ် တင်လိုက်ရရင် ကောင်းမလဲ။ အင်း . . ရဟန္တာတွေက ခပ်များများဆိုတော့ ထင်သလောက်တော့လည်း မလွယ်ဘူးဗျ။ ရဟန်းသံဃာထဲက ဥပဇ္ဈာယ်(ခေါင်းဆောင်အမာခံဆရာ) ထားစရာ မရှိရင် ဗိမ္ဗိသာရဘုရင်လို ဩဇာကောင်းသူကို ကပ်ထားလိုက်မှာပေါ့။ ဩဇာရှိသူနဲ့ ကိုယ်နဲ့ ပါတနာကျရင် အရင်းလဲမှတော့ အဖျားထင်း ဖြစ်ပါတယ်။

"ဟာ . . ဗိမ္ဗိသာရ ဘုရင်ကလည်း ယောက်ဖတော် ဗုဒ္ဓရဲ့ ကျောင်းဒကာ ဖြစ်နေပြန်တော့ ငါ့အလိုကို ပြည့်ပြည့်ဝဝ ဆောင်ရွက်ပေးနိုင်မှာ မဟုတ်ပါဘူး။ ကောသလဘုရင်ကို ချဉ်းကပ်မယ်ဆိုပြန်ရင်လည်း၊ အင်း . . ဘာသာရေးကို သိပ်ပြီး မစဉ်းစားဘဲ သူ့အင်ပါယာ ကျယ်ပြန့်ရေးလောက်သာ စိတ်ဝင်စားတာ ဆိုတော့ ကောသလနဲ့လည်း လက်တွဲလို့ မဖြစ်ပါဘူးလေ။ အကောင်းဆုံးကတော့ ရာဇဂြိုဟ်က ဝေဠုဝန်ကျောင်း

တိုက်ကို ကဗျာဆရာတွေက ကဗျာနဲ့ အမွှန်းတင်လို့ နာမည်ကြီး လာသလို ငါ့ဂုဏ်သိက္ခာ တက်လာရေးမှာလည်း ကဗျာဆရာ (မီဒီယာ)လည်း လိုအပ်တယ်။ ဒီတော့ ကဗျာဆရာ၊ စာရေး ဆရာတွေကို ပေါင်းထားရမယ်။ သူတို့ ကိုယ့်နားက မခွါရေးက တော့ ဂယာသီသ-က ထွက်တဲ့ငှက်ပျောသီးခြောက်နဲ့တင် ပြီး ပါတယ်။ ပြီးတော့ . . ပညာတတ်ထားပြီး အသိဉာဏ် မကြွယ် သေးတဲ့ စိမ်းဆတ်ဆတ် ဂျစ်သိုးသိုး၊ အဇာတသတ်မင်းသားဆိုး လေးကိုကပ်ထားလိုက်ရင် ကိုယ်ဖြစ်ချင်တာတွေ အားလုံး ပြီးစီး နိုင်တယ်။ ကဲ . . စဉ်းစားနေကြာလေပဲ။ လူ့သက်တမ်းက လည်း သိပ်ရှည်တာ မဟုတ်တော့ အရှိန်နဲ့ အချိန်ရှိတုန်းလေး ကျုံးထားလိုက်တာ ကောင်းတယ်"

## အရှင်ဒေဝဒတ်၏ ဘုန်းတန်ခိုး

တန်ခိုးအရှိန်အဝါတို့သည် အသုံးချတတ်လျှင် မဂ်ဖိုလ် နိဗ္ဗာန်၏ အထောက်အပံ့ပင် ဖြစ်လင့်ကစား အလိုရမ္မက်များသူ တို့၏ လက်သို့ ရောက်ရှိသွားကြသောအခါ ဦးချိုတပ်ပေးလိုက် သော မြင်းတစ်ကောင်ပမာ အကာန်၊ အဓွေ့-စသော အန္တရာယ် တိုက်ကွက် တို့ဖြင့် မိမိသူတစ်ပါးတို့အား ဒုက္ခများ ပေးတတ်ကြ လေသည်။

အရှင်ဒေဝဒတ်သည် လူ့လောက စည်းစိမ်တို့တွင် ထိပ် တန်းအကျဆုံးဖြစ်သော မင်းစည်းစိမ်ကို ခံစားခဲ့၏။ ထိုစည်းစိမ် ကို စွန့်ပစ်၍ ညစ်နွမ်းသော အဝတ်ကို ဝတ်ကာ သပိတ်ပိုက်

ခေါင်းစိုက်ပြီး ရွာရိုးကိုးပေါက် လျှောက်နေရသော မိမိဘဝကို မကျေနပ်တော့ချေ။ အစ ပထမ တွေးထင်ထားတာက ယောက်ဖတော် မျက်နှာနှင့် သာသနာတော်မှာ ဗိုလ်ကျကျ နေရလိမ့်မည် ဟု ထင်မှတ်ခဲ့သည်။ ခုတော့ . . 'ငပေ့အထင်နှင့် နှမ်းထွက်' မကိုက်အောင်ဖြစ်နေသည်။

လူ့လောကကို လှမ်းမျှော်ကြည့်လျှင် မိခင်ကြီး 'အမိတာဒေဝီ'က ဘုရင် သုဒ္ဓေါဒန၏ နှမအရင်း၊ ဖခင်သုပ္ပဗုဒ္ဓ-က မာယာဒေဝီ မိဖုရားခေါင်ကြီး၏ မောင်အရင်း၊ ကပိလဝတ်နှင့် ဒေဝဒဟကို ကားရားခွပြီး 'ငါကွ'ဟု လက်မ ထောင်နိုင်ခဲ့သော်လည်း ဇေတဝန်ကျောင်းတိုက်ပိုင်ရှင် ယောက်ဖတော်စပ်ခဲ့သူ၏ အရိပ်အာဝါသကို ရောက်ခါမှ နန်းကျဘုရင်ပမာ နေထိုင်ရသည်မှာ ကိလေသာရှိသော သာမန်လူသားတို့ထက် အတ္တ စားကျက်၌ မာန အငွေ့အသက်ဖြင့် နေ့ချင်းပြီး ကြီးပြင်းခဲ့ရသည့် အရှင်ဒေဝဒတ်အဖို့ အဘာယ်မှာ စိတ်ဓါတ်မကျဘဲ ရှိပါလိမ့်မည်နည်း။

ကိလေသာ အလိုဆိုး ရှိကြကုန်သော ပုထုဇဉ်တို့၏ စိတ်ထားသည် အရှိန်အဝါ၊ ဥစ္စာခနေ၊ လာဘ်လာဘတို့ကို လိုချင်မက်မောတတ်ကြ၏။ ခင်တွယ် စွဲလမ်းတတ်ကြ၏။ မရမနေ ပေပေတေတေ အားထုတ်တတ်ကြလေ၏။ မာယာသာဠေယျ နည်းမျိုးစုံတို့ဖြင့် လှည့်ပတ်၍ ပစ္စည်းဥစ္စာခနေတို့ကို သူတစ်ပါး အိတ်ကပ်မှ မိမိ အိတ်ကပ်ထဲသို့ ရောက်လာအောင် ဆွဲဆောင်တတ်ကြ၏။

သာဝတ္ထိ၊ ရာဇဂြိုဟ်၌ ဘုရားသာသနာရောက်ခဲ့သည်

မှာ သိပ်မကြာလှသေးသဖြင့် အဝတ်မဝတ်သော သူတို့ကိုပင် ရဟန္တာ ဟု ထင်နေတတ်ကြသည့် အစွဲကလည်း ရှိနေကြသေးသောကြောင့် ရသာလျှင် ဘနဖူးကိုပင် သိုက်တူးရန် ဝန်မလေးကြသူတို့အတွက် လူအ-တို့နေထိုင်ရာ ကျေးရွာရပ်ကွက်သည် အခွင့်ရေးသမား၏ စားကျက်ပင်ဖြစ်နေတတ်ပေသည်။ ပစ္စုပ္ပန်ဖြစ်ရပ်မှန် တစ်ခုကို တင်ပြရလျှင် . . .

## ခေတ်သစ်အရှင်ဒေဝဒတ်

'တောင်တွင်းကြီးမြို့'၏ တောင်ဘက် နှစ်မိုင်ခန့်အကွာတွင် 'ညောင်ပင်လှ'ဟူသော ရွာကလေးတစ်ရွာ ရှိပါသည်။ ရင်းရွာ၌ 'ရွှေညောင်အုပ်'ဟူ၍ အမည်သမုတ်ထားသည့် ဘုန်းတော်ကြီးကျောင်း တစ်ကျောင်းရှိ၏။ အဆိုပါကျောင်းသို့ '၂၀၀၉-ခုနှစ်၊ မေလ' ပိုင်းလောက်က ရဟန်းတစ်ပါး ကြွရောက်လာခဲ့လေသည်။ ဘွဲ့တော်က 'ဦးဓမ္မပါလ သက်တော်ခြောက်ဆယ်၊ ဝါတော်တစ်' အစားထဲကပင် ဖြစ်၏။ သို့သော် . . .

ဦးဓမ္မပါလသည် ခေတ်ပညာ တတ်သူဖြစ်၏။ ခေတ်ပညာ ဟူသည် 'ဘီ-အေ-ဓမ္မာစရိယ'မဟုတ်။ ချိုင်း-ဟုခေါ်သော အတိတ်စိမ်း ဂဏန်းတွေ တွက်ချက်၍ စာရွက်စာတမ်းများ ရိုက်နှိပ်၊ ဖြန့်ဝေ ရောင်းချရသော ပညာမျိုးဖြစ်၏။ ဦးဓမ္မပါလ တွက်ချက်ပေးသော အတိတ်စိမ်း ဂဏန်းများကြောင့် သိန်းဆယ်ချီ ရကြသူများ ရှိသကဲ့သို့ အိုးပေါင် အိမ်ရောင်းကြရသူများလည်း မနည်းလှပေ။ မည်သို့ဆိုစေ လောဘသားတို့

ကား ဦးဓမ္မပါလကို အကြားအမြင်ရသော ရဟန္တာမထေရ် တစ်ပါးတစ်မျှ ကိုးကွယ်ကြလေသည်။

တောရော မြို့ပါ နှစ်လုံး၊ သုံးလုံး ဝါသနာရှင်များ ဦးဓမ္မပါလ အနားက မခွာနိုင်ကြဘဲ ကံထပ်သူထပ်၊ မယ်တော်အဖြစ် အသိအမှတ်ပြုရန် လျှောက်သူလျှောက် 'သည်တစ်ခေါက်ဒဲ့ (တည့်) ဝင်ရင် ဆရာတော့် ရင်ခွင်အနားမှာ ဒုလ္လဘဝတ်၍ တပည့် ခံလိုက်ဦးမည်' ဆိုသူတွေက ဒုနှင့်ဒေး။ နောက်ဆုံး ကျောင်းအိုလေးပင် အသစ် ဖြစ်သွားခဲ့ပါလေပြီ။ ဦးဓမ္မပါလ သည် ပရိယတ္တိ အခြေခံ မရှိသော်လည်း အပြောကောင်း၏။ ရုပ်ရည် ရူပကာယကလည်း အသိဉာဏ်နည်းသော အမျိုးသမီး များ ဝေဝါးသွားနိုင်၏။ စကား ပြောသောအခါ မထေရ်လေသံ ကို အသုံးပြုသောကြောင့် မိန်းကလေးငယ်များက 'ဖုန်းဖုန်း၊ ဖုန်းဖုန်း' ဟု ခေါ်ကြသကဲ့သို့ ပြုံးပြုံး ပြုံးပြုံးဖြင့် စကားပြောတတ် သောကြောင့် ဉာဏ်ပညာနုံ့သူများ သဘောခွေ့ လွယ်ကြလေ သည်။

ဦးဓမ္မပါလ၏ အခြေအနေကို နယ်တွင်းမထေရ်တို့ လေ့လာ အကဲခတ်၍ သတိထားမိလာကြ၏။ မိမိတို့ ဒကာ ဒကာမများ(အချို့)ကိုယ်တိုင်က စာသင်သား ရဟန်းသာမဏေ တို့ကို မကြည်ညိုတတ်ကြသော်လည်း ရင်ဝ,ကို လေဟာပ် အောင် မက်လုံးပေး ပြောကြားတတ်ကြသော 'ခေတ်သစ် အစေလကများကိုမူ ကြည် ကြည်ဖြူဖြူ လှူဝံ့ကြပုံ။ မစားရ ဝ-ခမန်း စကားတို့ဖြင့် ယုံလောက်အောင် ပြောသံကြားရှင်

ချိုးရေကို ပရိတ်ရေ နာမည်တပ်၍ ပါးစပ်ထဲ ထည့်ပေးနေသည်ကိုပင် သူရ ငါရ အလုအယက် တိုးဝှေ့ တောင်းခံနေကြပြီး ဘာသာရေး ဗဟုသုတ၊ ပတ်ဝန်းကျင် အကြား အမြင် အားနည်းကြသဖြင့် ဝိနည်းမိုရ် ဂဏဝါစက စာချဆရာတော်တို့ အပေါ်၌ ဆက်ဆံရေးပင် ကျဲသလိုလို အပြစ်တင်နေကြသော မိရိုးဖလာ ဗုဒ္ဓဘာသာဝင်များ ဖြစ်ခြင်းကြောင့် မည်သို့ ဖျောင်းဖျ ဟောပြောရမည်ကို စဉ်းစားတော်မူ နေကြရလေသည်။ အချိန်ကြာ ၍ ဝါတွေသာ တိုးခဲ့ရသော်လည်း ဒါနတစ်မျိုးက လွဲလျှင် သူတို့ ဘဝင်မကျချင်ကြပေ။ ဒကာ ဒကာမဆိုသည်မှာ မိမိတို့၏ ကျေးဇူးရှင်များဖြစ်သောကြောင့် အကျပ်ကိုင် ဆုံးမရန်လည်း မသင့်လျော်သဖြင့် သင့်လျော်သလိုသာ အချိန်ယူ ဆုံးမတော်မူကြရသည်။

တောင်တွင်းကြီးနယ် ညောင်ပင်လှရွာ၌ 'နေမြင့်လေ၊ အရှုးရင့်လေ' ဟူသောစကားကဲ့သို့ ဦးမေ့ပါလသည်လည်း သူ့ဇာတိရပ်တို့ကို တစ်နေ့တစ်မျိုး မရိုးရအောင် ဖေါ်ထုတ်လာကြောင်း မျက်မြင်သမားများက လာရောက် လျှောက်ထားကြသဖြင့် အသေးစိတ် သိရှိပြီး ဖြစ်၏။

တစ်ခါတစ်ခါ သံဃမဟာနာယက ဆရာတော်ကြီးများနှင့် အုပ်ချုပ်သူ ဒကာတို့၏ အမည်နာမတို့ကို ဝိတ်အဖြစ်သုံးပြီး သာသနာ့ ဗိမာန်ကြီးပေါ်သို့ တက်၍ တရားဟောရန်ပင် ကြိုးစားပြင်ဆင်လာသည်ကို သတိမူမိ၏။ ဦးမေ့ပါလကို ပညာမပါသော ကြည်ညိုမှုဖြင့် အရမ်းကာရော ကြည်ညိုသူများ

ရှိသကဲ့သို့ သာသနာတော်၏ ဝိနည်းစည်းကမ်းကို အတွင်း ကျကျသိ၍ သက်တော်ထင်ရှားဗုဒ္ဓနှင့် အရိယာသံဃာတော်တို့ လို စိတ်မှာထားပြီး ကြည်ညိုသူများကလည်း အင်အားမနည်း လှသောကြောင့် ဦးဓမ္မပါလ သာသနာ့ဗိမာန် လှေခါးကို တက် ခွင့်မရရှာပေ။

'ပန်းသတင်း လေညှင်းဆောင်၊ လူသတင်း လူချင်း ဆောင်' ဟူသော စကားကဲ့သို့ တစ်ခါတစ်ရံ လူတစ်ယောက် အကြောင်းကို မစုံစမ်းရဘဲ စကားသံများက တဖွဲဖွဲရောက်လာ တတ်၏။

"အရှင်ဘုရားတို့နယ်မှာ ကျော်ကြားနေတဲ့ ဦးဓမ္မပါလ ရဲ့ လူနာမည်က 'ထွန်းအောင်ကျော်'တဲ့။ ရန်ကုန်မြို့၊ စမ်းချောင်း မြို့နယ်၊ အိမ်အမှတ်( )မှာ နေတယ်။ ၁၉၆၃-ခုနှစ်က မွေး တယ်။ ပညာအရည်အချင်း တက္ကသိုလ်ဒုတိယနှစ် တက်နေ တုန်း မိဘအိမ်က ထွက်ပြေးလာပြီး 'ညောင်လေးပင်မြို့နယ်၊ စမ်းကလေးရွာ' မှာ လာနေတယ်။

"အဲဒီရွာမှာ 'မိန်းမလျာငထွန်း' အဖြစ်နဲ့ ကွမ်းယာရောင်း တယ်။ လူချစ် လူခင်လည်း ပေါတယ်။ မိန်းကလေးတွေနဲ့ တွေ့ ရင် သံဝါသ ဖြစ်ရသည်အထိ သူက စည်းရုံးတယ်။ စည်းရုံးတဲ့ အတိုင်းလည်း အောင်မြင်မှု ရတယ်လို့ သိရတယ်။ မိဘတွေက မိန်းမလျာမှာ ယောကျ်ားစိတ် မရှိဘူးထင်ပြီး ယုံကြည်စိတ်ချစွာနဲ့ လွှတ်ထားကြတဲ့အတွက် ငထွန်းဟာ လွတ်လွတ်လပ်လပ် စည်းရုံးသိမ်းသွင်း ခွင့်ရတယ်။ သူ စည်းရုံးလို့ရတဲ့ မိန်းကလေး

တွေကလည်း ခေတ်စကားနဲ့ ပြောရင် ခပ်ပွမ်ပွမ်တွေပါ။

"မာနခဲကိုတော့ နှုတ်တောင် မဆက်ဝံ့ပါဘူးတဲ့။ ဒီလောက်တော့ 'အခြောက်ထွန်း' က သိပြီးသားပဲ။ ပြီးတော့ ကာလသားတွေနဲ့ တွေ့ရင် မိန်းမစိတ်ဝင်ပြီး လူပျိုတက်စလေးတွေ ရှေ့မှာ ဟိုလှုပ် ဒီလှုပ် လှုပ်ပြတတ်တော့ ကိုကို ကာလသားများက ထွန်းကို ပွေ့လိုက်၊ ဖက်လိုက်နဲ့ ပြဿနာ မတက်ဘဲ နေရတဲ့ရက် ရှည်သွားတာပေါ့။

"နောက်တော့ ထွန်းဟာ သင်္ကန်းဝတ်နဲ့နေပြန်တယ်။ ကြွေနဲ့ ဟန်ဆောင်မှုက ကောင်းပြန်တော့ လူတွေက သူ့ကို သံဃေ ရလို့ ဝတ်တာပဲ ဆိုပြီး ကြည်ညိုလေးစားကြပြန်တယ်။ ၁၉၉၀-၁၉၉၆ ခုနှစ်အတွင်းမှာ ဦးဇင်းထွန်း ခန္ဓာကိုယ်က ရောင်ခြည်တော်ထွက်တယ်လို့ သတင်းပြန့်ပွားလာတဲ့ အပြင်၊ ရဟန္တာအဖြစ်နဲ့တောင် ကျော်ကြားလာလို့ နိုင်ငံတော် သံဃမဟာနာယကအဖွဲ့က ခေါ်ယူ စစ်ဆေးပြီး ဘာမှမဟုတ်တဲ့အတွက် အမွေဝါဒအဖြစ် ဆုံးဖြတ်ပြီး လူဝတ်လဲ ပေးခဲ့ရဖူးတယ်။

"ထွန်းအောင်ကျော်ဟာ 'ဦးမွေပါလ၊ ဦးဝါခိန္ဒ၊ ထွန်း၊ ချစ်ထွန်း၊ ထွန်းထွန်း၊ မင်းသားကြီး၊ ငွေမင်းသား၊ ရွှေမင်းသား၊ စိန်မင်းသား' ဆိုတဲ့ နာမည်တွေနဲ့ ညောင်လေးပင်၊ ပဲခူး၊ တော်ပသီ၊ တော်ဝိ၊ တောင်ငူ၊ စတဲ့ မြို့ရွာတွေမှာ ပုံစံမျိုးစုံနဲ့ လိမ်စားခဲ့ဖူးတယ်။ လိမ်တာက ပိပိရိရိ ဆိုတော့ သူ့ချီးရေကို ပရိတ်ရေ (ဓာတ်ကူး၊ ဓာတ်ဆက်ရေ) အဖြစ်နဲ့တိုက်ပြီး အောက်လမ်းပညာနည်းနဲ့ မိန်းမချောလေးတွေကိုဖျက်ဆီးခဲ့ဖူးတယ်။ သင်္ကန်း

ဝတ်နဲ့နေတုန်းက ဒုလ္လဘဝတ်တဲ့ ကိုယ်တော်လေးတွေကို စည်းရုံးပြီး သူ့ကို မေထုန် မှီဝဲခိုင်းခဲ့ဖူးတယ်။

"ပဲခူး၊ ညောင်လေးပင်မြို့က အိမ်ဆောက်ပစ္စည်း ရောင်းတဲ့ ဆိုင်အချို့ကို ယုံလောက်အောင်ပြောပြီး လိမ်ခဲ့တယ်။ တစ်ဆိုင်က ၉သိန်းကျော်ဖိုး (၉၃၄၈၃ဝိ/) တစ်ဆိုင်က ၁၈- သိန်း၊ ဘဏ်အရာရှိ(ဗိုလ်ကြီး)ထံကလည်း သိန်းရှစ်ဆယ် လိမ် လည်ခဲ့ဖူးတယ်။ သူ့ခန္ဓာကိုယ်မှာ ထူးခြားတဲ့ အမှတ်အသား တစ်ခုကတော့ ညာဘက်လက်မှာ 'ချစ်'၊ ဘယ်ဘက်လက်မှာ 'ထွန်း'လို့ ဆေးမင်ကြောင်နဲ့ ထိုးထားတယ်။ ချဲဒိုင်လုပ်တယ်။ မတောက်တခေါက် သစ်အရောင်း အဝယ်လုပ်တယ်။ သူ့ရဲ့ စွဲစွဲမြဲမြဲအလုပ်ကတော့ မလိမ်ရရင် ကိုယ့်ပေါင်ကိုတောင် လိမ် တဲ့အလုပ်ကိုလုပ်တယ်။

"ချဲဒိုင် လုပ်တုန်းက 'တောင်ငူမြို့၊ အမျိုးသမီးဘော်ဒါ ဆောင်'က ချဲထိုးသားတစ်ယောက်ကို လျော်ကြေးမပေးဘဲ ထွက်ပြေး တိမ်းရှောင်ခဲ့ဖူးတယ်။ (လိမ်စားခဲ့ဖူးတဲ့သူဟာ နိဗ္ဗာန် ဆော်၊ ဘုရားဒကာ၊ ကျောင်းဒကာအဖြစ် နာမည်ခံထားပေမယ့် လိမ်ခဲ့ဖူးတဲ့အမည်းစက်တွေကို အလှူခံဖလားနဲ့ အုပ်ထားလို့ မရဘူး။ လူလိမ်ဟာ လူလိမ်ပါပဲ။) ထွန်းအောင်ကျော်က ဘိုး တော်လုပ်လိုက်၊ အရှိန်အဝါကြီးသူရဲ့ တပည့်ခံ အရှိန်သုံးပြီး သိက္ခာမတင် သိမ်မဝင်ဘဲ ရဟန်းအတုအယောင်ဘဝနဲ့ နေရာ ဒေသ တော်တော်များများမှာ လိမ်လည် ကျက်စားခဲ့ဖူးတယ်။ 'တော်ဝိ' မှာဆိုရင် ဘုရားတည်ယောင်ပြုပြီး ငွေရတော့ ထွက်

ပြေးသွားတယ်။

"အလံရှူးတပည့်တွေ မွေးတယ်၊ လခငွေ၊ ထောက်ပံ့ငွေတွေပေးပြီး လူတွေယုံလောက်မယ့် သတင်းထူး၊ သတင်းဆန်းတွေကို တီထွင်လန်ကြုတ်လုပ်ပြီး သတင်းဖြန့်ခိုင်းတယ်။ သတင်းဖြန့်တဲ့သူတွေထဲမှာ 'ပိုက်ဆံရရင် ပြီးရော' ဆိုတဲ့ ဂျာနယ်လစ် အချို့နဲ့ စာရေးဆရာ အညံ့စားတွေလည်း ပါကြတယ်။ ကဲ. . . ဘာသိချင်သေးလဲ၊ မေးစမ်းပါ"ဟူ၍ ဖြစ်၏။

မြတ်စွာဘုရားရှင်၏ အသက်၊ သွေး၊ ချွေးတို့ဖြင့် အရင်းတည်၍ တည်ထောင်တော်မူခဲ့ရသော ဤသာသနာတော်မြတ်ကြီးကို ယောက်ျားမဟုတ်၊ မိန်းမ,မဟုတ် နပုန်းပဏ္ဍုက်တစ်ယောက်က ဤမျှ အောက်တန်းကျသော အမှုများ ပြုကျင့်သည်ကို မနာကြည်းနိုင်သူတို့က ရှိပေသေး၏။ သာသနာချစ်သူ ရဟန်းရှင်လူတို့က ဝိုင်းဝန်း တိုင်တန်းမှုကြောင့် 'တောင်တွင်းကြီးမြို့နယ်၊ တရားရုံးက ပြစ်မှုကြီး အမှတ် ၉၇၉/၂၀၀၉ တွင် တရားခံ ဦးမမွှပါလ(ခ) ထွန်းအောင်ကျော်အား ပြစ်မှုဆိုင်ရာ ဥပဒေပုဒ်မ ၂၉၅-က/အရ အလုပ်ကြမ်း နှင့် ထောင်ဒဏ်(၂)နှစ် ကျခံစေရန် ပြစ်ဒဏ်ပေးလိုက်သည်'ကိုပင် သနားကရုဏာစိတ် ဝင်ပြီး မျက်ရည်တသွင်သွင် ကျလိုက်ကြသောဟူ၏။

ယင်းသို့သော အညံ့စား ဗုဒ္ဓဘာသာဝင်များ ရှိသကဲ့သို့ 'တောင်တွင်းကြီးမြို့၊ သာသနာ ထိန်းသိမ်းစောင့်ရှောက်ရေးအဖွဲ့' တွင် ပါဝင်တော်မူကြသော သံဃာတော်များ၊ 'မဥမ္မာဒွေး'

နှင့်တကွသော သာသနာချစ်သူ ဒကာ ဒကာမများတို့လို သာသနာကို ထိလာလျှင် မခံနိုင်အောင် နာတတ်ကြသူများက သာသနာတော် သန့်စင်လိုသော စိတ်ဖြင့် သာသနာ့ဗိမာန်ပေါ်သို့ တက်လာခဲ့သော 'ပိုးလောက်ထွန်း၊ ငရဲမင်းသားကြီး'အား နုပ်နုပ်စဉ်းလိုသော စိတ်ထားမျိုးသော မရှိကြလျှင် နောင်အနာဂတ် သာသနာအတွက် မတွေးဝံ့စရာပင် ဖြစ်တော့၏။

## လာဘသက္ကာရသံယုတ်

အတ္တ-စားကျက်ပေါ်၌ ကိလေသာန္တားများကို လွှတ်ထားသော အခွင့်ရေးသမားသည် 'ဘယ်သူသေသေ ငတေမာလျှင် ပြီးရော' ဟူသော စိတ်သဘောအဆိုးဖြင့် တွေ့ရာအပင်ကို ဆွဲချိုးကိုက်ဖြတ်တတ်သောကြောင့် ရှင်တော်ဗုဒ္ဓက 'လာဘသက္ကာရ သံယုတ်၌' . . .

"ရဟန်းတို့ အမွေးရှည်သော သိုးသည် ဆူးချုံထဲသို့ တိုးဝင်ရာတွင် မိမိအမွေးနှင့် ဆူးချုံကပ်ငြိ၍ အချုပ်အနှောင်ခံရကာ အသက်ဆုံးရှုံးရရှာ၏။ ထို့အတူ လာဘ်ပေါများခြင်း၊ နာမည်ကြီးခြင်းကို တပ်မက်မောသော ရဟန်းသည် ရွာသို့လည်းကောင်း၊ နိဂုံးသို့လည်းကောင်း၊ ဆွမ်းခံဝင်ရာတွင် မိမိ၏ တပ်မက်မောမှုနှင့် ဒကာ ဒကာမတို့အပေါ် ကပ်ငြိကာ အချုပ်အနှောင် ခံရ၏။ ရဟန်းတရား (သူတော်ကောင်းတရား) များ လက်လွှတ် ဆုံးရှုံးရပေသည်။

"ရဟန်းတို့ . . . ဤသို့အားဖြင့် လာဘ်ပေါများခြင်း၊

နာမည်ကြီးခြင်းသည် ခက်ထန်မာကျော၏။ လွှသွားကဲ့သို့ ထက်၏။ ကြမ်းတမ်း၏။ မြတ်သော နိဗ္ဗာန်သို့ မရောက်ရန် ဟန့်တားနိုင်၏။ အနှောင့်အယှက် ပြုတတ်၏။ ထို့ကြောင့် သင်ရဟန်းတို့ သည် လာဘ်ပေါ်များလိုသော တဏှာက မိမိစိတ်ကို ဖုံးကွယ်မသွားစေရန် ကျင့်ကြကုန်လော”ဟု သတိပေး ဟောကြားတော်မူခဲ့၏။

## အကွက်ကောင်းကို ချောင်းနေသူ

ရှင်တော်ဘုရား ယင်းသို့ သတိပေး ဟောကြားတော်မူခဲ့ပါသော်လည်း အရှင်ဒေဝဒတ် နားထဲသို့ မဝင်ချေ။ အတိတ်က ပြုခဲ့ဖူးသော(ရှေးဘုန်း ရှေးကံကြောင့် ဖြစ်ပေါ်လာသော) ပစ္စည်းပစ္စယကို လူက လုပ်ယူ၍ရသည်’ဟုသာခံယူထား၏။ လောက၏ မထီမဲ့မြင်ပြုမှုကို ငုံ့ခံတတ်သောလူညံ့မျိုး မဟုတ်ခြင်းကြောင့် မဟာသာဝကကြီးများကဲ့သို့ လာဘ်ပူဇော်သကာ များလိုသည့် အပြင် ကျောင်းနိမ့်စံ ဘဝမှလည်း ရုန်းထွက်လိုသည့် ဆန္ဒများ တဖွားဖွား ပေါ်ပေါက်လျက် ရှိ၏။

အများပြည်သူ၏ ကြည်ညိုမှုကို မခံယူရသော်လည်း ‘အရှိန်အဝါ သြဇာရှိသူ တစ်ဦးတစ်ယောက်ကို အပိုင်ရ-ထားလျှင် ဘယ်သူ လက်အုပ်မချီဘဲ နေဝံ့လေမလဲ’ ဟူသော ပျော့ကွက်ကို နားလည်ထားသူ ပီပီ ဘဝတစ်ခု၏ တိုးတက်မှု အညာကို လက်ဆုပ် လက်ကိုင် ထိထိမိမိ ဆုပ်ထားနိုင်ပြီ ဖြစ်၍ ဘုရင်ကိုးကွယ်ခံ ဖြစ်လာပါက ဘယ်သူ့ကိုမှ ထီထင်စရာ မလိုတော့

သကဲ့သို့ သူဌေးကို မျက်နှာချိုသွေးစရာ မလိုတော့ကြောင်း ကိုလည်း သတိထားမိသဖြင့် အနာထပိဏ်နှင့် ဝိသာခါတို့ကို စာရင်းပင် မသွင်းလိုတော့ပေ။

စိတ္တသူကြွယ်လို အခြေအနေကောင်းပြီး အတွေးထက် အပြောသွက်သူကိုလည်း တစ်ချက်ကလေးတောင် ငဲ့ကွက်စရာ မလိုသည့်အပြင် ငါးကြင်းသားကို ငါးကြင်းဆီဖြင့် ကြော်ရသည့် စနစ်ကိုလည်း တွက်စစ်ထားပြီး ဖြစ်၏။ ရေငတ်နေသူကို အဖျော်တစ်ခွက် တိုက်လိုက်လျှင် အမိုက်ခိုင်းဖို့တောင် မခဲယဉ်းကြောင်းကိုလည်း အတတ်သိထားပြီး ဖြစ်၏။ လူကြားသူကြား၌ ခေါင်းတစ်လုံး ပို၍ မြင့်ချင်သူအတွက် ဒေါက်ဖိနပ် အကူစွက်ယူရသကဲ့သို့ အတ္တကြီးသော အရှင်ဒေဝဒတ်သည်လည်း လူသား အချင်းချင်းကို ဖားတုံးအဖြစ် အသုံးချ၍ သူ့ဘဝမြင့်တက်ရေးအတွက် နင်းတက်ရမည့် အကွက်ကောင်းကို ချောင်းနေလေသည်။

## တန်ခိုးကြောင့် ဆွမ်းအိုးငါးရာ

အရှင်ဒေဝဒတ်သည် အဇာတသတ်မင်းသားကို 'မိမိ၏ ဒကာရင်းတစ်ယောက် ဖြစ်စေရမည်' ဟု ကြံစည်စဉ်းစားပြီးနောက် ခပ်ခြောက်ခြောက် ကောသမ္ဗီ မြို့ကလေးမှ ရာဇဂြိုဟ်ပြည်ကြီးသို့ တစ်ကိုယ်တည်း ထွက်လာခဲ့လေသည်။ ရာဇဂြိုဟ်ပြည်သို့ ရောက်သောအခါ ဈာန်အဘိညာဉ် တန်ခိုးပြာဋိဟာဖြင့် မိမိကိုယ်ကို လူငယ်တစ်ယောက်လို ဖန်ဆင်းလိုက်သည်။

ထိုလူငယ်၏ ခြေနှစ်ချောင်းပေါ်၌ မြွေဟောက်နှစ်ကောင်၊ လက်နှစ်ဖက်ပေါ်၌ မြွေဟောက်နှစ်ကောင်၊ လည်ပင်း၌ မြွေဟောက်တစ်ကောင်၊ ဦးခေါင်းထက်၌ ခေါင်းခုသဖွယ် ခွေထားသော မြွေဟောက်တစ်ကောင်၊ ပုခုံးတစ်ဘက်၌ စလွယ်သိုင်းထားသော မြွေဟောက်တစ်ကောင်၊ ဤသို့ဖြင့် တစ်ကိုယ်လုံး မြွေဟောက် ကကြိုးတန်ဆာများကို ရစ်ပတ်ပြီး ကောင်းကင်ခရီးမှဆင်းသက်၍ အဇာတသတ်၏ ရင်ခွင်ထက်၌ ထိုင်ချလိုက်လေသည်။

တန်ခိုး ဣဒ္ဓိပါဒ်ကို မမြင်ဖူးရှာသော အဇာတသတ်သည် အထိတ်ထိတ် အပျာပျာဖြင့် "ခင်. . ခင်. . ဗျား၊ ဘယ် . . သူလဲ" ဟု အော်ဟစ်ပြီး ထ-ပြေးမည်အပြုတွင် "မကြောက်ပါနဲ့ မင်းသား၊ အရှင်ဒေဝဒတ်ဆိုတာ ငါပဲလေ"ဟု ပြောရင်း လူငယ်တစ်ယောက်၏ အသွင်အပြင်ကို ရုပ်သိမ်းပြီး ရဟန်းတစ်ပါး အသွင်ဖြင့် ရပ်နေလေသည်။ အဇာတသတ်သည် တန်ခိုးဣဒ္ဓိပါဒ်နှင့် ပြည့်စုံသော အရှင်ဒေဝဒတ်ကို လက်တွေ့မြင်လိုက်ရသောအခါ လွန်မင်းစွာ ကြည်ညိုပြီး မိမိကို ဒကာရင်းတစ်ယောက်အဖြစ် အသိအမှတ် ပြုပါရန် လျှောက်ထားလိုက်သည်။

ဂယာသီသအရပ်၌ အရှင်ဒေဝဒတ်နေထိုင်ရန် သီးသန့်ကျောင်းတစ်ဆောင်လည်း ဆောက်လုပ် လှူဒါန်းပြီးလျှင် နံနက်တစ်ကြိမ်၊ ညနေတစ်ကြိမ် နေ့စဉ်ဆည်းကပ်ရင်း ဆွမ်းအိုးငါးရာတို့ကိုလည်း ပို့ဆောင် လှူဒါန်းလေသည်။ အဇာတသတ် မင်း

သား ပို့လှူသော ဆွမ်းအိုးငါးရာအနက် တစ်အိုး တစ်ခွက်လျှင် ဆယ်ပါးလောက် စားနိုင်ခြင်းကြောင့် အရှင်ဒေဝဒတ်ကိုယ်တိုင် ဆွမ်းခံစရာ မလိုတော့သည့်အပြင် နောက်လိုက် နောက်ပါများကိုပါ ကျွေးမွေးနိုင်လေသည်။ ထိုလာဘ်လာဘကို အကြောင်းပြု၍လည်း တပည့် ပရိသတ်တို့ ပေါများလာခဲ့ပါလေပြီ။ ဆွမ်းခံစားရန် ပျင်းရိသော ရဟန်းအချို့ပင် ရာဇဂြိုဟ်မှ ဂယာသီသသို့ နေ့ချင်းပြန် လာရောက်ပြီး အရှင်ဒေဝဒတ်ထံ၌ ဆွမ်းစားကြသည့် အခြေအနေသို့ ရောက်ရှိလာခဲ့သဖြင့် ဘုရားရှင် သိတော်မူသောအခါ တားမြစ်တော်မူရလေသည်။

## သူဋ္ဌေးဘုန်းကြီး အရှင်ဒေဝဒတ်

ဆီနှင့် မီးစာအပြည့်ရှိသော မီးခွက်သည် မီးတောက်အားကောင်းသလောက် ဆီခန်းခြောက်သွားသောအခါ မီးစာက စုပ်ယူထားသော ဆီငွေ့လေးဖြင့် မှိန်ပျပျလောက်သာ မီးတောက်ရာသကဲ့သို့ သတ္တဝါတို့သည်လည်း အတိတ်ကံ၊ ပစ္စုပ္ပန်ကံဟူသော ကံတရားတို့ အကြောင်း ညီညွတ်နေကြသောအခါ အကျိုးပေးများက သူမတူအောင် လျှမ်းလျှမ်းတောက် နေတတ်ကြပေသည်။ ကံ အကြောင်းတရားများ အားနည်း သွားသောအခါ လူမည်ရုံလေးမျှသာ ရှိပါလိမ့်မည်။ ('ဖွတ်ကျော ပြာစု၊ ခရုဆံကျွတ်' ဖြစ်သွားပါလိမ့်မည်။)

အရှင်ဒေဝဒတ်သည် ကြံစည်ထားသော ကိစ္စမှန်သမျှ (လုပ်လိုသော ကိစ္စအတွက် အခြေခံ အရင်းအနှီး) အားလုံး

ပြည့်ဝနေပြီ ဖြစ်၍ အချင်းချင်းအပေါ် လက်မ-ထောင်နိုင်ပါ လေပြီ။ ဘုရား အမှူးရှိသော သံဃာတော် အရှင်မြတ်တို့မှာ ဆွမ်းခံ၍ စားကြရပါသော်လည်း အရှင်ဒေဝဒတ်က 'ဂယာသီသ တောရ၌ အဇာတသတ်ပို့လှူသော ဆွမ်းအုပ် ငါးရာတို့နှင့် အတူ သူ့ခေတ် သူ့ခါ အလျောက် ပေါ်ပေါက်လာသော ခေတ်မီ ပစ္စည်းမျိုးစုံတို့ဖြင့် 'သူဌေးဘုန်းကြီး'ဟူသော ဘွဲ့တံဆိပ်ကို မူပိုင် ရရှိထားပြီ ဖြစ်သကဲ့သို့ ရာဇဂြိုဟ်မြို့တွင်း ချဉ်းနင်း ကြွရောက်သောအခါ၌လည်း လူကြီး လူငယ်၊ အထူးသဖြင့် အမျိုးသမီးများက သည်းသည်းလှုပ် တိုးဝှေ့၍ ကြည့်ရှုခြင်းကို ပင် ခံယူရလေသည်။

(ထိုခေတ် ထိုအခါက မော်တော်ဆိုင်ကယ် မပေါ်သေးသဖြင့် အလံကိုင်၍ မော်တော်ဆိုင်ကယ် စီးထားကြသော ရှေ့တော်ပြေး လူငယ်အဖွဲ့များ ပါကြလိမ့်မည် မဟုတ်ပါ)

အဇာတသတ်၏ အရှိန်အဝါအပြင် အရှင်ဒေဝဒတ်၏ ဟန်ပန်အမူအရာတို့သည် ဗုဒ္ဓနှင့် သွေးသားတော်စပ်ထားသူ ဖြစ်၍ အသားအရေ မျက်ခုံး၊ မျက်လုံး၊ ပြုံးယောင်သမ်းနေမည့် မျက်နှာ ရုပ်ရည် ရူပကာယ အဟော အပြော၊ အသံနေ အသံထားတို့က လူပြိန်းတို့ မနော၌ ပေါ်လောကြီးဖြစ်၍ ချစ်သူ၊ ခင်သူ ကြည်ညို လေးစားသူ များပြားပြီး၊ ဘာသာရေးစကား အချင်းချင်း ပြောကြားကြသော အခါ၌ပင် အရှင်ဒေဝဒတ်၏ ဘွဲ့နာမည် မပါပါက အရသာ မရှိကြတော့သလောက် ပေါက်

ရောက်နေပါလေပြီ။

ဟိုနေရာမှာ အရှင်ဒေဝဒတ်၊ သည်နေရာမှာ အရှင်ဒေဝဒတ်၊ အရပ်ပြဇာတ် က-ရာမှာတောင် သူ့အဆိုအမိန့်များ ပါဝင် ခေတ်စားလာသဖြင့် အရှင်သာရိပုတ္တရာနှင့် အရှင်မဟာမောဂ္ဂလ္လာန် မထေရ်မြတ်ကြီးတို့သည်ပင် လက်ဝေခံ အဆင့်လောက်သာ ရှိတော့၏။

အဖိုးတစ်သိန်းတန်သော သက်န်းတစ်ထည်ကို မဲစနစ်ဖြင့် သာ လှူဒါန်းကြရမည့် အခါမျိုး၌ အရှင်ဒေဝဒတ်၏ တန်ခိုးက "မဲဖေါက်မနေကြပါနဲ့ကွာ၊ ဂယာသီသတောရ-က ကြွလာတဲ့ အချောအလှ ကိုယ်တော် အရှင်ဒေဝဒတ်ကိုသာ လှူလိုက်ကြပါစို့" ဟူ၍ ဆိုလိုက်လျှင် အားလုံး သဘောတူကြပြီး ဖြစ်သဖြင့် အရှင်သာရိပုတ္တရာတို့မှာ အလိုအလျောက် ဗလာမဲပေါက်သွားကြလေသည်။

အရှင်ဒေဝဒတ်ကား ဆီ-မီး ဟူသော ကံစန်းထနေသည့် အချိန်အခါ ဖြစ်၍ အကျိုးပေး မီးတောက် မီးလျှံတို့သည်လည်း ထိန်ထိန်သာနေသည့်အပြင် ရေလျှောင်အိုးကြီးပမာ အချိန်မရွေး ပြည့်လျှံနေပါတော့သည်။ ပုထုဇဉ် လူသားတို့ကလည်း ရေများသည့် နေရာ၌ပင် မိုးရွာချင်ကြသည် မဟုတ်ပါလား။

# အခန်း(၂)

## လာဘ်လာဘနှင့် ဗုဒ္ဓမိန့်ခွန်းတော်

မြတ်စွာဘုရားသည် ရာဇဂြိုဟ်ပြည် ဂိဇ္ဈကုဋ်တောင်၌ သီတင်းသုံးတော်မူစဉ် အရှင်ဒေဝဒတ်၏ လာဘ်ပူဇော်သက္ကာရများပြားခြင်းကို အကြောင်းပြု၍ ရဟန်းတို့အား ဤသို့ မိန့်ကြားတော်မူလေသည်။

"ရဟန်းတို့ .. ဒေဝဒတ်၏ လာဘ်ပူဇော်သကာသည် မိမိကို သတ်ရန်၊ ပျက်စီးရန်အတွက်သာ ဖြစ်၏။ ဥပမာအားဖြင့် ငှက်ပျောပင်သည် မိမိကို သတ်ရန်အတွက် အသီးသီးခြင်းဖြစ်၏။ (ငှက်ပျောသီး သီးခြင်းသည် ငှက်ပျောပင် သေဖို့ ဖြစ်၏။) ဝါးပင်သည် မိမိကို သတ်ရန်အတွက် အသီးသီးခြင်းဖြစ်၏။ ကျူပင်သည် မိမိကို သတ်ရန်အတွက် အသီး သီးခြင်း ဖြစ်၏။ အဿတိုရ်မြင်းမသည်၊ မိမိကို သတ်ရန်အတွက် ကိုယ်ဝန်ဆောင်ခြင်း ဖြစ်၏။ ထို့အတူပင် ဒေဝဒတ်၏ လာဘ်ပူဇော်သကာသည် မိမိကို သတ်ရန် ပျက်စီးရန် အတွက်သာ ဖြစ်၏။

"ရဟန်းတို့ .. ဒေဝဒတ်၏ လာဘ်ပူဇော်သကာကို မနှစ်သက်ကြကုန်လင့်။ (အထင်မကြီးကြနှင့်) အဇာတသတ်သည် ယင်းသို့ တစ်နေ့နှစ်ကြိမ် သွား၍ ထမင်းအိုး ငါးရာတို့ကို

ပို့နေသမျှ သော ကာလပတ်လုံး ဒေဝဒတ်အား ကုသိုလ်တရား တိုးပွားမှုကို မျှော်လင့်၍ မရ။ ဆုတ်ယုတ် ပျက်ပြားခြင်းကိုသာ မျှော်လင့်ရပေသည်။ ရဟန်းတို့ . . ဥပမာသော်ကား . . ကြမ်းတမ်းသော ခွေး၏ နှာခေါင်း၌ ဝံသည်းခြေကို ပွတ်လျှင် အတိုင်းထက်အလွန် တိုး၍ ကြမ်းတမ်းရာသကဲ့သို့ အဇာသတတ်က ယင်းသို့ တစ်နေ့ နှစ်ကြိမ် သွား၍ ထမင်းအိုး ငါးရာတို့ကို ပို့နေသမျှသော ကာလပတ်လုံး ကုသိုလ်တရား တိုးပွားရန် မျှော်လင့်ချက်မရှိ။ ဆုတ်ယုတ် ပျက်ပြားရန်သာ ရှိပေသည်။

"ရဟန်းတို့ . . လာဘ်ပူဇော်သကာ အကျော်အစောသည် ခက်ထန်၏။ ထက်မြက်၏။ ကြမ်းတမ်း၏။ မာကျော၏။ အရဟတ္တဖိုလ် ရခြင်းအတွက် အနှောင့်အယှက် အန္တရာယ်ကို ပြုတတ်၏။ ရဟန်းတို့ . . . ဥပမာသော်ကား တံငါသည်သည် အစာတပ်သော ငါးမျှားချိတ်ကို နက်သော ရေအိုင်၌ ပစ်ချရာ၏။ အစာကို မြင်သော ငါးသည် ထိုငါးမျှားချိတ်ကို မျိုရာ၏။ ရဟန်းတို့ . . တံငါသည်၏ ငါးမျှားချိတ်ကို မျိုမိသော ထိုငါးသည် ဆင်းရဲခြင်း ပျက်စီးခြင်းသို့ ရောက်၏။ တံငါသည်၏ အလိုရှိတိုင်း ပြုနိုင်သည့် အဖြစ်သို့ ရောက်၏။

"ရဟန်းတို့ ဖြစ်ပေါ်လာသော လာဘ်ပူဇော်သကာ အကျော်အစောကို သာယာသူ၊ အလိုရှိသူ-မည်သည့်ရဟန်းကို မဆို ကိလေသမာရ် ငါးမျှားချိတ်ကို မျိုသည်ဖြစ်၍ ဆင်းရဲခြင်း၊ ပျက်စီးခြင်းသို့ ရောက်သူ၊ ယုတ်မာသော ကိလေသမာရ်၏ အလိုရှိတိုင်း ပြုနိုင်သည့် အဖြစ်သို့ ရောက်သူ-ဟူ၍ ဆိုအပ်၏။

ရဟန်းတို့ ... ဥပမာသော်ကား ကျင်ကြီးကို စားသော မစင်ပိုးသည် ကျင်ကြီးဖြင့်ပြည့်နှက်၏။ ထိုပိုး၏ ရှေ့မှာလည်း ကျင်ကြီးပုံကြီးသည် ရှိ၏။ ထို ကျင်ကြီးစားသော ပိုးသည် ထိုကျင်ကြီးဖြင့် တစ်ပါးသော မစင်ပိုးတို့ကို 'ငါသည် ကျင်ကြီးကို စား၏။ ကျင်ကြီးဖြင့် ပြည့်နှက်၏။ ငါ၏ ရှေ့မှာလည်း ကျင်ကြီးပုံကြီးသည် ရှိ၏'ဟု မထီမဲ့မြင် ပြုရာ၏။

"ရဟန်းတို့ ... ထို့အတူသာလျှင် ဤသာသနာတော်၌ အချို့သော ရဟန်းသည် လာဘ်ပူဇော်သကာ အကျော်အစော နှိပ်စက် သိမ်းကျုံး ယူငင်အပ်သော စိတ်ရှိသည် ဖြစ်၍ နံနက်အခါ၌ ကောင်းစွာ ဝတ်ရုံလျက် သပိတ်သင်္ကန်းကို ဆောင်ယူပြီးလျှင် ရွာသို့ ဖြစ်စေ၊ နိဂုံးသို့ဖြစ်စေ ဆွမ်းအလို့ငှာ ဝင်၏။ ထိုရဟန်းသည် ထိုရွာ၌ အလိုရှိတိုင်း ဆွမ်းစားပြီးသည်လည်း ဖြစ်၏။ နက်ဖြန်စားရန် အလို့ငှာ ဖိတ်ထားအပ်သော ဆွမ်းသည်လည်း ရှိ၏။ ထိုရဟန်းအား သပိတ်ပြည့်သော ဆွမ်းလည်း ရှိ၏။ ကျောင်းအာရာမ်သို့ သွား၍ ရဟန်းအပေါင်းတို့၏ အလယ်၌ 'ငါသည် ဆွမ်းကို အလိုရှိတိုင်း စားပြီးပြီ။ နက်ဖြန်စားရန်အလို့ငှာ ဖိတ်ထားသော ဆွမ်းလည်း ရှိသေး၏။ သပိတ်ပြည့်သော ဆွမ်းလည်းရှိ၏။ ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေး၊ အိပ်ရာ နေရာတို့ကိုလည်း ရ၏။ သင်ရဟန်းတို့သည် ဘုန်းကံနည်းကြကုန်၏။ ငါ့လောက် ဘုန်းကံ မရှိကြကုန်' ဟု ကြွားဝါး၏။

ထိုရဟန်းသည် လာဘ်ပူဇော်သကာ အကျော်အစောဖြင့် နှိပ်စက် သိမ်းကျုံး ယူငင်အပ်သော စိတ်ရှိသည်ဖြစ်၍ သီလ

ရှိကုန်သော အခြားရဟန်းတို့ကို မထိမဲ့မြင် ပြု၏။ ရဟန်းတို့ . . ထိုသို့ မှတ်ထင်ခြင်းသည် မင်ဖိုလ်မနီး အချည်းနှီးသော ထိုယောကျ်ားအား ရှည်စွာသော နေ့ညဉ့်တို့ ပတ်လုံး အစီးအပွါး မရှိခြင်းငှာ ဆင်းရဲခြင်းငှာ ဖြစ်၏။

"ရဟန်းတို့ . . . မြေခွေးအိုသည် ဝဲနာရောဂါဖြင့် တွေ့ထိအပ်သည် ဖြစ်၍ တွင်းသို့ ရောက်သော်လည်း မမွေ့လျော်။ သစ်ပင်ရင်းသို့ ရောက်သော်လည်း မမွေ့လျော်။ လွင်တီးခေါင်သို့ ရောက်သော်လည်း မမွေ့လျော်။ သွားလေရာရာ၊ ထိုင်လေရာရာ၊ အိပ်လေရာရာ၊ အရပ်တိုင်းတို့၌ ညည်းညူနေရပြီး ပျက်စီးခြင်းသို့ ရောက်ရ၏။ လာဘ်ပူဇော်သကာကို လိုလားသော ရဟန်းသည်လည်း ထို့အတူ ဖြစ်၏။ ရဟန်းတို့ . . ဇနပုဒ်၌ ကောင်းခြင်း ငါးရပ်နှင့် ပြည့်စုံ သော မိန်းမမြတ် တစ်ယောက်သည် ရဟန်းတစ်ပါး၏ စိတ်ကို သိမ်းကျုံး ယူငင်၍ မတည်နိုင်သော်လည်း လာဘ်ပူဇော်သကာ အကျော်အစောသည် ယင်းရဟန်း၏ စိတ်ကို သိမ်းကျုံး ဆွဲငင်၍ တည်နိုင်၏။

"ရဟန်းတို့ . . . လာဘ်ပူဇော်သကာ အကျော်အစောသည် အရေထူ၊ အရေပါး၊ အသား၊ အကြော၊ အရိုးတို့ကို ဖြတ်၍ ရိုးတွင်းခြင်ဆီကို ထိလျက် တည်၏။ ဥပမာသော်ကား အားကြီးသော ယောကျ်ားသည် ခိုင်မာလှစွာသော သားမြီးကြိုးဖြင့် ခြေသလုံးကို ရစ်ပတ်လျက် ပွတ်တိုက်ရာ၏။ ထိုသားမြီးကြိုးသည် အရေထူ၊ အရေပါး၊ အသား၊ အရိုးတို့ကို ဖြတ်၍ ရိုးတွင်းခြင်ဆီသို့ ထိလျက် တည်သကဲ့သို့တည်း"

## ဘုန်းတန်ခိုး အရှိန်၏ အန္တရာယ်

အထက်ပါ တရားတော်တို့သည် အရှင်ဒေဝဒတ်ကို အကြောင်းပြု၍ ဟောတော်မူရသော တရားတော်များ ဖြစ်၏။ မြတ်စွာဘုရားသည် အရှင်ဒေဝဒတ်နှင့်ပတ်သက်၍ဇာတ်တော်ပေါင်း (၇၇)ဇာတ်တိုင်အောင် ဟောတော်မူခဲ့ရသည့် နည်းတူ သုတ္တန်ပေါင်းလည်း မနည်းလှချေ။ ထိုဇာတ်တော်တို့နှင့် သုတ္တန်တို့ကို ဟောတော်မူရခြင်းသည် မနာလို မရှုဆိတ်၍ ဟောတော်မူရသည်မဟုတ်ဘဲ လာဘ်ပူဇော်သကာဟူသော လောကဓံတရား၏ ဆိုးရွားမှုကို တပည့်သာဝကတို့ သဘာဝကျကျ သိမှတ်၍ သံဝေဂ(ထိတ်လန့်မှု)ဖြစ်ကြစေရန်နှင့် မဂ်ဖိုလ် နိဗ္ဗာန်ရခြင်း၏ အနှောင့်အယှက် မဖြစ်ကြစေရန် အတွက်သာ ဟောကြားတော်မူရခြင်း ဖြစ်၏။ မြတ်စွာဘုရား သန္တာန်တော်၌ ဣဿာမစ္ဆရိယ တရားဆိုးတို့ကား အငွေ့အသက်ကလေးမျှပင် မရှိချေ။

မည်သို့ဆိုစေ အရှင်ဒေဝဒတ်သည် မိမိရည်မှန်းထားသော အကြံညဏ်နှင့် ရည်ရွယ်ချက်တို့က အတိုင်းအဆ မရှိအောင်မြင်လာပြီဖြစ်၏။ ပင်မဖြစ်သော ဇေတဝန်၊ ဝေဠုဝန်ကျောင်းတိုက်ကြီးတို့နှင့် ယှဉ်ပြိုင်မည်ဆိုလျှင် မိမိကသာ အနိုင်ရမည်ဟု တွက်ဆထားပြီး ဖြစ်၍ အလွန်ကျေနပ်နေလေသည်။ ခန္ဓာကိုယ်နှင့် သင့်တင့်လျောက်ပတ်သော ဓါတ်စာ၊ ဆေးဝါး၊ လှုပ်ရှားမှု အအိပ် အနေ တို့ကိုလည်း သတိထား ဆင်ခြင်ရသကဲ့သို့ ခန္ဓာကိုယ်ကို နေပူ မလောင်စေရန် လုံခြုံသော အခန်း

၌ နေထိုင်ဖို့အတွက် တပည့်များက ပြင်ဆင်ပေးထားကြလေသည်။ (အဲယားကွန်းမပေါ်သေး၍ တပ်ဆင်ထားခြင်း ရှိမည်မဟုတ်)လောက၌ ရွှေ ငွေ ဥစ္စာ စသော လောကီအာရုံ ကာမဂုဏ် တို့ကို ရှာကြံသောသူသည် လမ်းဆုံးသို့ ရောက်သောအခါ ထိုရွှေ ငွေ ဥစ္စာ စသော ကာမဂုဏ်များ ရရှိခံစားရသည်မှာ ဓမ္မတာဖြစ်သော်လည်း ကာမဂုဏ်ကို အတောမသတ်နိုင်ခဲ့သည်ရှိသော် ကျေးဇူးရှင်၏ ကျေးဇူးတရားတော်ကိုပင် မမြင်တော့သကဲ့သို့ ပျောက်ကွယ်သွားအောင်လည်း ပယ်ဖျက်တတ်ကြလေသည်။ ထိုမီးပွားရှာနည်းသည် အပါယ်လေးပါး ဟူသော မီးစာဖြစ်ရတော့၏။ ကြီးပွားခြင်းလည်း တာမရှည်တတ်ချေ။

အရှင်ဒေဝဒတ်သည် သာသနာတော်၏ အလံတံခွန်ဖြစ်သော သကျ်န်း၏အရှိန်အဝါကြောင့်လည်းကောင်း၊ ဗုဒ္ဓသာသနာတော်ဝယ် ရဟန်းတစ်ပါး ဖြစ်နေခြင်းကြောင့်လည်းကောင်း၊ အဇာတသတ်-စသော ဒကာ ဒကာမတို့၏ စားဦးစားဖျားကို အလွယ်တကူ ရရှိနေခြင်းကိုပင် အမှတ်မရနိုင်တော့ဘဲ သံဃာသင်းခွဲပြီး တစ်စင်ထောင်ရန် စိတ်ကူး ပေါ်ပေါက်လာပြီ ဖြစ်၏။ သွားစုံ၍ အစွယ်ပါ ထွက်လာသော သားဘီလူးသည် မိခင်၏ အသားမြတ်ကို ကိုက်ဖြတ်တတ်သကဲ့သို့ ကျော်ကြားမှုနှင့် လာဘ်လာဘ အစွယ်များ ထွက်လာသော ရဟန်းဆိုး အရှင်ဒေဝဒတ်သည်လည်း သာသနာ့မိခင်၏ ပဋိပတ္တိအသားမြတ်ကို ကိုက်ဖြတ်ရန် ကြံစည်လာပြီ ဖြစ်၏။ ထို့ကြောင့် လာဘ်

လာဘနှင့် တန်ခိုး အရှိန်အဝါ ထင်ပေါ်ကျော်ကြားမှုသည် ကြောက်စရာ ရွံစရာပင် ကောင်းလှပေတော့သည်။ မဂ်ကုသိုလ် ဘရိတ်မရှိသော တန်ခိုးအစွမ်းသည် အပါယ်ချောက်ထဲသို့ ထိုးဆင်းနိုင်သဖြင့် သူတော်ကောင်းများ ရှောင် ရှားကြကုန်၏။ မထင်ပေါ်စေရန်လည်း ပုန်းအောင်း၍ သိပ်သည်း စွာ နေထိုင် ကျင့်သုံးကြကုန်၏။

လာဘ်လာဘနှင့် ထင်ပေါ်ကျော်ကြားမှုသည် လူကို ယစ် မူးစေတတ်၏။ မာန်ဝင်၍ ဖဝါးအစွန်လည်း နင်းတတ်၏။ အကြောင်း အကျိုး အကောင်း အဆိုးတို့ကို မခွဲခြားတတ်တော့ ဘဲ ထင်ရာ စိုင်းတတ်၏။ အမှန်တရားကို မမြင်တော့သဖြင့် ဘဝ အညွန့်ကို တုံးစေတတ်၏။ အပြစ်ကြီးသော အမှုကိုလည်း ပြုတတ်၏။ ပိမိကိုယ်ကို သတ်ရာ ရောက်သကဲ့သို့ သူတစ်ပါး ကိုလည်း သတ်တတ်၏။ အရှင်ဒေဝဒတ်သည် လောကီစျာန် အဘိညာဉ် တန်ခိုးကို ပိုင်စိုး ရရှိထားသော ရဟန်းတစ်ပါးပင် ဖြစ်လင့်ကစား ကိလေသာအပြည့်ရှိသော ပုထုဇဉ်တစ်ယောက် သာ ဖြစ်ခြင်းကြောင့် လာဘ်ပူဇော် သကာနှင့် ထင်ပေါ် ကျော် ကြားလိုခြင်း ဟူသော အာသီသ၏ လွှမ်းမိုးမှုကို မတွန်းလှန် နိုင်ဘဲ သံဃာသင်းခွဲ ၍ ဘုရားတစ်ဆူ လုပ်ပြီး အုပ်ချုပ်လိုသော ဆန္ဒဆိုးပင် ပေါ်ပေါက်လာလေတော့သည်။

ကောသမ္ဗီပြည်၊ သာဝတ္ထိပြည်တို့၌ နေထိုင်ခဲ့စဉ်က ဘယ်သူမှ ခေါ်ခေါ် ပြောပြော မရှိခဲ့သော်လည်း မခံချင်စိတ်ဖြင့် 'တစ်ရွာမပြောင်း သူကောင်း မဖြစ်' ဟူသော စကားနှင့်အညီ

ရာဇဂြိုဟ်ပြည်သို့ ပြောင်းရွှေ့ပြီး ဖောက်ချ၍ ပြုလုပ်ခဲ့သော ထင်ပေါ် ကျော်ကြားမှုသည် အောင်မြင်ခြင်း အထွတ်အထိပ်သို့ ရောက်ခဲ့ပြီ ဖြစ်သောကြောင့် ယောက်ဖတော်စပ်ခဲ့သူ ဗုဒ္ဓနှင့် ပခုံးချင်းပင် ယှဉ်ချင်လာတော့သည်။

မြတ်စွာဘုရား၏ နေရာတော်သည် လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်း ပါရမီဖြည့်မှ ရနိုင်သော အရာဖြစ်ကြောင်းကို သတိမမူမိတော့ဘဲ'လုပ်ယူလျှင် ရနိုင်သည်'ဟုပင် သွေးနားထင်သို့ ရောက်နေလေတော့သည်။ ဘယ်သူနှင့် ပြိုင်ပြိုင် 'ငါနိုင်မည်'ဟု အပိုင်တွက်ထားလိုက်၏။

ပုထုဇဉ်၏ စိတ်နေစိတ်ထားသည် ကျော်ကြားမှုနှင့် ငွေကြေးဥစ္စာအတွက်ဆိုလျှင် အရှက်အကြောက် မရှိတော့ဘဲ စက်တိုင်ပင် တက်ရတက်ရ လောဘဖော တိုက်ကြပြီး အချင်းချင်းကိုလည်း လည်လှီးတတ်ကြ၏။ ခေါင်းပုံဖြတ်၊ အမြတ်ထုတ်၊ ကုပ်သွေးလည်း စုပ်ယူတတ်ကြ၏။ ဘဝကို ငွေဖြင့်ဖုံးနိုင်ကြသောအခါ ထုံးစံအတိုင်း အာဏာလိုချင် လာတတ်ကြ၏။ အသပြာနှင့် တဏှာ တဏှာနှင့် အာဏာ ဒွန်တွဲနေသဖြင့် ပုထုဇဉ်တို့၏ အန္တိမ ဆန္ဒကြီးပင် ဖြစ်၏။

ယင်းဆန္ဒ၏ အပူရှိန်သည် အရှင်ဒေဝဒတ်၏ ကိုယ်ခန္ဓာ၌ ရှိသော အဘိညာဉ်ကိုပင် ခန်းခြောက်သွားစေ၏။ (အလိုဆိုးရှိသောသူ၏ ကိုယ်ခန္ဓာ၌ မေတ္တာစသော စွမ်းအားများ ခန်းခြောက်နေမည် ဖြစ်ကြောင်းနှင့် သာသနာပြု အလုပ်လုပ်တိုင်းလည်း လုပ်သူ၏သန္တာန်၌ သာသနာမတည်တတ်ကြောင်း

သတိမူကြရာ၏။ ဒကာ ဒကာမများ၏ ကိုယ်ခန္ဓာမှ သက္ကာယ ဒိဋ္ဌိကို ထုံဆေးပင် မပါဘဲ အစိမ်းလိုက် ခွါတတ်သော်လည်း ကျောင်းလိုချင်သဖြင့် တစ်ပိုင်းသေနေသော မိမိကိုယ်ကို သတိ မမူ မိတတ်ကြပေ)

## အချိန်အဝါနှင့် စိတ်ယုတ်မာရှိသူ

စိတ်ယုတ်မာရှိသူတို့၏ တန်ခိုး အချိန်အဝါသည် တစ် ခဏမျှသာ ဖြစ်၏။ ပိန်းကြာရွက်ဖျားတွင် ရေမတင်သကဲ့သို့ လွင့်စဉ်သွားရမည် ဖြစ်၏။ သို့သော် ထွက်ပေါက် မရှိသော ရေသည် အိုင်ထွန်း၍'အင်း' ဖြစ်နေတတ်၏။ လူမိုက်တို့သည် လည်း ပရိယာယ်မာယာဖြင့် ဉာတကာတို့အကြား ကြီးပွားနေ တတ်ကြ၏။ မြစ်ချောင်း အင်းအိုင်တို့သည် နေနှစ်စင်း ထွက် လာသောအခါ အပူအရှိန်ကြောင့် ခန်းခြောက်ရသကဲ့သို့ အကု သိုလ် အပူအားကြီးသော လူမိုက်တို့၏ တန်ခိုး အရှိန်အဝါသည် လည်း 'နံနက်မှာ ကောသလ၊ ညနေ ဇရပ်ပေါ်က အသုဘ' ဖြစ်တတ်ကြသည်ကို သံသယ မဝင်သင့်ချေ။

ပျောက်ကွယ်သွားသော အရှိန်အဝါတို့သည် ဣန္ဒြေ ဆည် ဟန်လုပ်တတ်သူတို့အတွက် စားကွက် မပျက်တတ်သေး သည့် အားလျော်စွာ အဇာတသတ်ပို့လာသော ဆွမ်းအုပ်ငါးရာ က အရှင်ဒေဝဒတ်၏ အသက်ကို ဆက်ထားနိုင်ခဲ့သော်လည်း လောကီ တန်ခိုးအရှိန်အဝါ ဘာမှမရှိဘဲ ခရုအဆံ ကျွတ်သလို ဖြစ်နေသော အရှင်ဒေဝဒတ်၏ ဖြစ်အင်ကို ဘုရားရှင်နှင့် အရှင်

မောဂ္ဂလ္လာန်တို့ အပြင် သူတစ်ပါးစိတ်ကို သိမြင်တတ်ကြသော နတ်ပြဟ္မာများလည်း သိရှိကြလေသည်။

ရန်တုံ့မူတတ်သော အရှင်ဒေဝဒတ်၏ စိတ်ထားမျိုးနှင့်သာ အဆင်းကို ဘီးတပ်ပေးလိုက်မည် ဆိုပါလျှင် အရှင်ဒေဝဒတ်၏ စားဝတ်နေရေးသည် မတွေးဝံ့စရာပင် ဖြစ်၏။ သို့သော် . . .

"ရှင်တော်မြတ်ဘုရား . . ဒေဝဒတ်၏ သန္တာန်၌ ဈာန်အဘိညာဉ် တန်ခိုးတို့ ငုပ်လျှိုး ကွယ်ပျောက်သွားပါပြီ ဘုရား" ဟု အရှင်မောဂ္ဂလ္လာန် လျှောက်ထားသော စကားကို ကြားသိတော်မူသောအခါ မဟာကရုဏာတော်ရှင်ပီပီ တည်ကြည်သော နှလုံးသားဖြင့် မိန့်ကြားတော်မူလိုက်သည်မှာ

"မောဂ္ဂလ္လာန်၊ ဤစကားကို နှုတ်လုံ့ပါစေ။ သင့်နှုတ်ဖျားမှ တခြား တစ်နေရာသို့ ထွက်မသွားပါစေနှင့်။ မင်ဖိုလ်မနီးအချည်းနှီးသော ထိုယောကျ်ားသည် သူ့ထိုက်နှင့် သူ့ကံသာရှိပါစေတော့"ဟု ပိတ်ပင် တားမြစ်တော်မူလေသည်။

အရှင်ဒေဝဒတ်သည် တန်ခိုးပြပြီးစ အချိန်ဖြစ်၍ အဇာတသတ်နှင့် တကွ တန်ခိုးပြမှု ကြည်ညိုတတ်ကြသူတို့က အလွန်အကြူး ကြည်ညိုနေကြချိန်တွင် ဤသတင်းကို ပြောကြားပါသော်လည်း မည်သူမျှ ယုံကြည်ကြမည် မဟုတ်ပေ။ အရှင်ဒေဝဒတ် လာဘ်လာဘ များနေသည်ကို မလိုလား၍ ပြောသည်ဟု သာသနာကို မကြည်ညိုကြသူတို့က စွပ်စွဲစရာအကြောင်း ရှိပေသည်။ ဂုဏ်ရှိန်ကြီး၍ ကျော်ကြားသူ တစ်

ယောက် အပြစ်ရှိခြင်းကြောင့် တရားရုံးသို့ ရောက်လာရသည်ကိုပင် လေ့လာရေးခရီးစဉ် ဖြစ်နိုင်၏။

ဤလောက၌ ဟုတ်မှန်သော အကြောင်းအရာပင် ဖြစ်စေကာမူ ထုတ်ဖော်ပြောတိုင်း မကောင်းကြောင်းနှင့် ဘုရားအစရှိသော ပညာရှိ သူတော်ကောင်းတို့ပင် အချိန်အခါကို စောင့်စား တော်မူခဲ့ကြကြောင်း သတိမူသင့်ပေသည်။ ကြားဖူးသည်မှာ ကျောင်းဒကာနှင့် ကျောင်းအမတို့သည် မိမိတို့ ဘုန်းကြီးကို ရဟန္တာလောက်ပင် သဘောထား၍ ကြည်ညိုနေကြ၏။ အခါတစ်ပါးသော် အလှူတစ်ခု၌ သံဃာစဉ်ရာတွင် မိမိတို့ဘုန်းကြီးကို မမြင်ရသော ကျောင်းဒကာသည် ဘုန်းကြီး နေမကောင်းဘူး-ထင်၍ ကျောင်းသို့ သွားလေသည်။

ထိုအခါ မီးတင်းကုပ်မှ မီးခိုးထွက်နေသည်ကို မြင်၍ ချောင်းကြည့်မိရာ ဘုန်းတော်ကြီးကိုယ်တိုင် ကြက်ဥကြော်နေသည်ကို မြင်ရသဖြင့် ကြက်သီးထကာ စိတ်မချမ်းမသာနှင့် ကျောင်းအမကို ပြန်ပြောလေရာ ကျောင်းအမက 'ငါ့ကျောင်းဒကာ စိတ်ဖောက်ပြန်ပြီ'ဟု တွေးဆ၍ "အရပ်ကတို့ လာကြပါဦး၊ ကျုပ်တို့ ကျောင်းဒကာ ဘာဖြစ်လာမှန်း မသိဘူး"ဟု အော်ဟစ် ပြောဆိုလေရာ ကျောင်းဒကာသည် လွန်စွာရှက်လှ၍ သက်သက်အရှူးပျောက်သလိုလုပ်ကာ ရောက်လာသူတို့အား ဘာမှမဖြစ်ကြောင်း ပြောပြရလေသည်။

ထို့နောက် အိပ်ရာဝင်မှ တစ်ခါပြောပြန်လေရာ ရှေးနည်းအတိုင်း ကျောင်းအမက အော်မည်လုပ်ပြန်သောကြောင့်

ကျောင်းအမကို တောင်းပန်ကာ နောက်နောင်အခါ ဘုန်းကြီးကြက်ဥ ကျော်စားကြောင်း အမှုမှန်ကို ဘယ်သူ့ကိုမျှ မပြောဝံ့တော့ချေ။

ဤသို့ ဆိုလျှင် အချို့သော ဖြစ်ရပ်မှန်များကို ပြောကြားရာ၌ ပြောဆိုသူကိုပင် အရှုံးအထင် ခံရတတ်သောကြောင့် အခါအခွင့်ကို ကြည့်ကာ ပြောသင့်မှ ပြောကြရာ၏။ သို့ရာတွင် မိမိအိမ်သူ အိမ်သား-စသော အလွန်ရင်းနှီးနေသူတို့ကိုကား (မယုံချင်နေပစေ) ယုတ်မာသူကို အထင်ကြီးနေလျှင် ကြိုတင်၍ သတိပေးထားခြင်းသာ အမြော်အမြင်ကြီးရာ ရောက်သဖြင့် ထိုယုတ်မာသူ၏ အပြစ်ကို ပြောထားသင့်ပေသည်။ (ကိုယ်ကျင့်အဘိဓမ္မာ- စ-၇၁)

## လူမိုက်တို့၏ ဘဝနိဂုံး

လူမိုက်သည် ကာယကံ၊ ဝစီကံ၊ မနောကံ တည်းဟူသော ကံသုံးပါးတို့ကို မိုက်မှားစွာ ပြုကျင့်တတ်၏။ ထိုကံတို့ကို တန်ခိုး အရှိန်အဝါဖြင့် ဖုံးကွယ်တတ်၏။ ရုပ်ပြဖြစ်သော ဟန်ဆောင်မှုတို့ ဖြင့် လူထုရှေ့၌ သရုပ်ပြတတ်၏။ ပတ်ဝန်းကျင်ကိုလည်း လှည့်ပတ်တတ်၏။ ချစ်သူ ခင်သူ ပေါ်များအောင် ဟန်ဆောင်စကား ပြောကြားတတ်၏။ သို့ပါသော်လည်း ရွှေထမင်းအိုး အတွင်း၌ သိုးနေသော ဟင်းလျာများကို ထည့်ထားခြင်းကြောင့် အဖုံးပွင့်လာသောအခါ ရွှေထမင်းအိုးကြီးကိုပင် အားနာစရာ ကောင်းလှပေတော့သည်။

မင်းသားခေါင်း စွပ်ထားသော ဘီလူးသည် ပြုံးရယ်သောအခါ အစွယ်များ ထွက်လာသကဲ့သို့လည်းကောင်း၊ ဆင်သေကို ဆိတ်သားရေဖြင့် ဖုံးသကဲ့သို့လည်းကောင်း၊ မွေးကင်းစ ကလေးငယ်သည် မျက်နှာဝ ကျယ်သော မစင်အိုးကို အနံ့မထွက်ရန် သေးငယ်သော သူ၏လက်ဖြင့် ဖုံးအုပ်ထားသကဲ့သို့လည်းကောင်း၊ လူမိုက်သည် အင်ပါယာကောင်းကောင်းဖြင့် မိမိဘဝကိုထိန်းကျောင်းနေပါသော်လည်း အချည်းနှီးသာ ဖြစ်၏။ ဘုန်းကံကြီးသော သာသနာသည် လူယုတ်မာတို့ နားခိုရာ ကျွန်းကြီး မဟုတ်ချေ။

သို့သော် . 'တဈေကို လူက ပူး၍ ခွေးရူးက တုတ်ဆောင်ပြီး ကြောင်ကိုပင် ကြွက်ကချောင်းနေသော ကာလသို့ ရောက်ရှိနေပြီ' ဖြစ်၍ အချို့ ကျားသစ်များကို ဆိတ်ကစားခြင်းကြောင့် တောကြို့အုံကြားသို့ပင် ပုန်းအောင်း နေထိုင်ကြရပါလေပြီ။

လူမိုက်သည် မကောင်းမှုကို တစ်ကိုယ်တည်း ပြုသည် မဟုတ်။ အုံဖွဲ့၍ ပြုတတ်၏။ မစင်သည် အနည်းငယ်ပင် ဖြစ်သော်လည်း မကောင်းသော ရနံ့ကို ထုတ်ဆောင်နိုင်သကဲ့သို့ လူ မိုက်တစ်ယောက်၏ ဝါဒမှား အကျင့်ဆိုး တစ်ခုသည်လည်း ပညာ ဉာဏ်အားနှင့် စားဝတ်နေရေး ချို့တဲ့ရှာသူ (အချို့)အား ဆင့်ပွား ကူးစက်နိုင်လေသည်။

'သံသာရ ဝဋ္ဋဒုက္ခတော မောစနတ္ထာယ' ဖြင့် မြတ်ရှင်စော သာသနာသို့ ဝင်ရောက်တော်မူလာကြသည့် အရှင်မြတ်

ငါးရာတို့သည်ပင် အရှင်ဒေဝဒတ်၏ ဝါဒများ အကျင့်ဆိုးနောက်သို့ ကောက်ကောက်ပါအောင် လိုက်ပါသွားခဲ့ခြင်းကြောင့် လက်ယာရံ၊ လက်ဝဲရံမထေရ်မြတ်ကြီးတို့ ကိုယ်တော်တိုင် တရားပြ၍ ကောင်းကင်ခရီးမှ ပြန်လည် ခေါ်ဆောင်ခဲ့ကြရသည် မဟုတ်ပါလော။

အရှင်ဒေဝဒတ်သည် တန်ခိုး အရှိန်အဝါကို အသုံးချ၍ ဂုဏ်ပါဝါ ပြခဲ့၏။ လူတစ်လုံး သူတစ်လုံး ဖြစ်အောင်လည်း ထို တန်ခိုး အရှိန်အဝါဖြင့်ပင် မော်ကွန်းတင်ခဲ့၏။ 'ခြ' ဘုရင်သည် တောင်ပို့အတွင်း၌ မြေကြီးကို စားပြီးနေလျှင် အသက်ရှည်နိုင်စရာ မြင်သော်လည်း တောင်ပံများ တပ်ဆင်၍ ပလူကောင် အသွင်ဖြင့် ကောင်းကင်သို့ ပျံတက်လေသောအခါ မှုန်ဝါးသော မျက်စိအမြင်ဖြင့် မီးသီး၊ မီးချောင်းတို့ကို ရိုက်ပုတ်လိုက်ရာ မသန်မာသည့် အတောင်ပံများ ပြတ်ထွက်သွားခြင်းကြောင့် နောက်ဆုံးပုရွက်ဆိတ်တွင်း၌ နိဂုံးချုပ် ရရှာလေသည်။

တန်ခိုး ပါဝါတို့ဖြင့် မာန်မာန တက်နေကြသော လူမိုက်တို့သည်လည်း အဝီစိ ပါးစပ်တွင်း၌သာ သက်ဆင်း၍ နိဂုံးချုပ်ကြ ရပါလိမ့်မည်။

အရှင်ဒေဝဒတ်၏ သန္တာန်၌ တန်ခိုး အဘိညာဉ် ရှိနေခြင်းသည်ပင် အရှင်လတ်လတ် မြေမျို၍ အဝီစိရောက်ရန် အကြောင်းပင် ဖြစ်နေလေတော့သည်။ အရှင်ဒေဝဒတ်သည် လောကီဈာန် အဘိညာဉ်တန်ခိုးကို တစ်သက်လုံး သုံးမကုန်သော ဣဍ္ဍာသယ လွယ်အိတ်ကြီးပမာ အထင်ရောက်လျက်

ထီးပေါက်နန်းစံ အပူဇော်ခံလိုသော စိတ်ဖြင့် ဗုဒ္ဓကိုပင် ရန်ငြိုးဖွဲ့ခဲ့ပါလေပြီ။ အရှင်ဒေဝဒတ်၏ ပစ္စုပ္ပန် ရန်ငြိုးအစကား . . .

## အရှင်ဒေဝဒတ်၏ ရန်ငြိုး

အခါတစ်ပါး၌ မြတ်စွာဘုရားရှင်သည် ရဟန်းအပေါင်းနှင့်တကွ ဗိမ္ဗိသာရ မင်းတရားကြီး ပါဝင်သော ပရိသတ်၌ တရားဟောတော်မူလျက် ရှိ၏။ ထိုပရိသတ်ထဲတွင် အရှင်ဒေဝဒတ်လည်း ပါဝင်၏။ အရှင်ဒေဝဒတ်သည် ယခင်ကပင် အကြံရှိထားပြီး ဖြစ်သည့်အတိုင်း မိမိနေရာမှ ထ-ကာ မြတ်စွာဘုရားရှိရာသို့ လက်အုပ်ချီလျက် ရဲဝံ့စွာ လျှောက်ထားလေသည်။ "ဘုန်းတော်ကြီးတော်မူသော မြတ်စွာဘုရား . . ရှင်တော်မြတ်ဘုရားသည် အသက်အရွယ် ကြီးရင့်၍ အိုမင်းခဲ့ပါပြီ။

"နောင်တော်ဘုရားသည် ဖလသမာပတ် ဝင်စားပြီးကြောင့်ကြမဲ့ နေတော်မူပါတော့ဘုရား။ ရဟန်းအပေါင်းကိုလည်း တပည့်တော်အား လွှဲအပ်တော်မူပါဘုရား။ တပည့်တော်သည် ရဟန်းအပေါင်းကို သိမ်းပိုက်အုပ်ချုပ်၍စောင့်ရှောက်ပါမည် ဘုရား"

"မသင့်တော်ဘူး ဒေဝဒတ်၊ သင်သည် ရဟန်းအပေါင်းကို သိမ်းပိုက် အုပ်ချုပ်၍ စောင့်ရှောက်ရန် မလိုလား မနှစ်သက်ပါနှင့်"

အရှင်ဒေဝဒတ်သည် မြတ်စွာဘုရား တားမြစ်တော်မူသည်ကို အလေးမထားဘဲ သွေးသားက ဆန္ဒပြနေသည့် အ-

လျှောက် ဒုတိယအကြိမ်မြောက် ထပ်ဆင့် လျှောက်ထားပြန်လေသည်။ မြတ်စွာဘုရားကလည်း ရှေးနည်းအတိုင်း ပယ်မြစ်တော်မူပြန်၏။ သို့သော် အရှင်ဒေဝဒတ်သည် 'ငုပ်မိ သဲတိုင်၊ တက်နိုင်ဖျားရောက်' ဟူသောစကားကဲ့သို့ လုပ်ချင်သော အရာကို မဖြစ်မနေ နောက်မဆုတ်တမ်း လုပ်တတ်သူ ဖြစ်ခြင်းကြောင့် တတိယတစ်ဖန် ထပ်မံလျှောက်ထားပြန်သောအခါ ရှင်တော်ဗုဒ္ဓက အရှက်ရလောက်အောင်(နောက်ထပ် လျှောက်ထားစရာ စကား မရှိတော့လောက်အောင်) ခပ်တင်းတင်း မိန့်တော်မူလိုက်လေသည်။

"ဒေဝဒတ်၊ ငါဘုရားသည် ရဟန်းအပေါင်းကို သာရိပုတ္တရာ၊ မောဂ္ဂလ္လာန်တို့လို ကိလေသာ ကင်းစင်သူများကိုပင် အပ်နှံမည် မဟုတ်ပါဘဲလျက် အရိယာသူတော်ကောင်းတို့နှင့် ဒကာ ဒကာမ တို့က သဒ္ဓါတရားဖြင့် ထွေးထုတ်လိုက်သော အလျှုဒါန တံတွေးစက်ကို မျိုတတ်သည့် သင့်လို လူညံ့အား ဘာအတွက်အပ်နှံရမည်နည်း"

ဤမိန့်တော်မူသံကို ကြားသိလိုက်ရသော အရှင်ဒေဝဒတ်သည် နှလုံးသွေးများ ရပ်သွားရှေ့သလားဟုပင် ထင်ရလောက်အောင် စိတ်ထိခိုက်သွားသည့်အပြင် 'နောင်တော်ဘုရားရှင်သည် မင်းနှင့်တကွသော ပရိသတ်ဗိုလ်ပုံ အလယ်၌ ငါ့ကို တံတွေးမျိုသူ ဟူ၍ နှိမ်ချ ပြောဆိုရက်ပါပေသည်' ဟု အမျက်ထွက် ရန်ငြိုးထားပါလေတော့သည်။

အရှင်ဒေဝဒတ်သည် လာဘ်လာဘ ပေါမျာ:၍ ထင်

ပေါ် ကျော်ကြားသူ တစ်ဦး ဖြစ်ချင်သော ဆန္ဒများ ရှိခဲ့ပါသော်လည်း ရှင်တော်မြတ်ဘုရား အပေါ်၌ ရိုသေလေးစား၏။ ကိုယ်အမူအရာ နှုတ်အမူအရာတို့ကို ထိန်းသိမ်း၏။ အရိုအသေ တန်သော အမူအရာကိုပင် မပြခဲ့ချေ။ ကောက်ကျစ်သူတို့၏ ထုံးစံအတိုင်း ရင်ထဲတွင် သိုမှီးထား၏။ 'တံတွေးမျိုသူ' ဟူသော စကားကို သာမန်ပုဂ္ဂိုလ် (သာသနာတော်၌ သဒ္ဓါတရား မရှိသူ)သာဆိုလျှင် ဘုရားရှင်ကို ကက်ကက်လန်အောင် ရန်တွေ့(စကားဖြင့် နှုတ်လှံထိုး)မည်သာ ဖြစ်၏။

<u>နစ္စဇာတ်</u>

အခါတစ်ပါး၀ယ် ပစ္စည်းဥစ္စာ ပေါများကြွယ်၀လွန်းသော ရဟန်းတစ်ပါးအား ဘုရားရှင်က "အဘယ့်ကြောင့် ပစ္စည်းဥစ္စာတွေ များစွာ ရဘိသနည်း၊ အဘယ်အတွက် စုဆောင်း ထားရသနည်း" ဟု သံဃာပရိသတ်ကြားမှာ စစ်ဆေးမေးမြန်းတော်မူသောအခါ ရဟန်းက အမျက်ဒေါသထွက်ပြီး တစ်ကိုယ်လုံး ချွတ်ကာ "ဟောသလို ကျင့်ရမှာလား"ဟု မတ်တတ်ရပ် ပြလေသည်။

ရဟန်းသံဃာတော်များနှင့် ဒကာ ဒကာမများက ဝိုင်း၀န်း ကဲ့ရဲ့မှသာ ထိုရဟန်း ထွက်ပြေးသွားတော့၏။ လာဘ်လာဘကိစ္စနှင့် ပတ်သက်လာလျှင် ဘုရားရှင်ကိုပင် တစ်ကိုယ်လုံး ချွတ်ပြရဲကြောင်း သတိမူကြရာ၏။

အရှင်ဒေ၀ဒတ်သည် ထိုရဟန်းလောက် မမိုက်ရိုင်းသော်လည်း ကိလေသာရှိသူ တစ်ယောက်အဖြစ် သိသာသည့်

လက္ခဏာကား ထင်မထားသော စကားကို ကြားရသဖြင့် အတွင်းစိတ်ကို မျက်နှာလောက်သာ ပြခဲ့၏။ မျက်နှာသည် စိတ်၏ ထွက်ပေါက် မဟုတ်ပါလား။ အရှင်ဒေဝဒတ်၏ မျက်နှာသည် ချက်ချင်း ညှိုးမှိန်ပြီး ခက်ထန်သည့်အသွင်ကို ပြသလျက် ရှိ၏။

ကိလေသာ စိတ်၏ တွန်းအားကြောင့် ကိုယ်အမူအရာများ ခက်ထန် ကြမ်းထမ်း(ပေါက်ကွဲ) လာဖွယ်ရှိသော်လည်း ဤမျှ ခမ်းနား ကြီးကျယ်သော ပရိသတ် ရှေ့မှောက်၌ တောက်တစ်ချက်ပင် မခေါက်မိရလေအောင် ဟန်ဆောင် မျိုသိပ်ထားနိုင်ခဲ့၏။ 'ဥပဇ္ဈာယ်ဆရာက အပြစ်မြင်တိုင်း နာနာကျင်ကျင် ဆိုဆုံးမသည့် စကားကို နှုတ်လုံမထိုးဘဲ ငုံ့၍ ခံယူတတ်သည့် အကျင့်(စရိုက်)သည်ပင်လျှင် ဘုန်းကြီးရန် အချက်တစ်ချက်ဖြစ်ကြောင်း' အရှင်ဒေဝဒတ် ရိပ်စားမိဟန် ရှိသဖြင့် ရိုင်းစိုင်းသော အမူအရာကို မပြဘဲ ရိုသေစွာ ရှိခိုး ဦးချ၍ ပြန်လာခဲ့လေသည်။

## အရှင်ဒေဝဒတ်နှင့် ပကာသနီယကံ

မြတ်စွာဘုရားသည် အရှင်ဒေဝဒတ် ထွက်သွားသောအခါ ရန်ငြိုးဖွဲ့မှန်း သိတော်မူသဖြင့် ရဟန်းတို့အား ဤသို့မိန့်ကြားတော်မူ၏။ "ရဟန်းတို့ . . . ဒေဝဒတ်၏ စိတ်နေစိတ်ထားသည် ယခင်ကနှင့်မတူ တစ်မူထူးခြားနေလေပြီ။ ထို့ကြောင့် ရဟန်းအပေါင်းသည် ဒေဝဒတ်အား ရာဇဂြိုဟ်ပြည်၌ 'ပကာသနီယကံ'ကို ပြုကြလော။ 'ဒေဝဒတ်သည် အကြင်အမူ

ကို ကိုယ်ဖြင့်လည်းကောင်း၊ နှုတ်ဖြင့်လည်းကောင်း ပြုလုပ်၏။ ထိုအမှုသည် ဘုရား၊ တရား၊ သံဃာတို့နှင့် မပတ်သက်။ ဒေဝဒတ်ပြုသော အမှုသည် ဒေဝဒတ်နှင့်သာ တိုက်ရိုက် သက်ဆိုင်သည်'ဟု ထင်ရှားပြခြင်း (ပြောဆိုခြင်း) အမှုကို ပြုကြလော"

ဤအမိန့်တော်သည် အရှင်ဒေဝဒတ်အား ပကာ သနိယ ကံ ပြုစေတော်မူခြင်း ဖြစ်၏။ ပကာသနိယကံ- ဟူသည် ရှေးအခါက အရှင်ဒေဝဒတ်၏ အမူအကျင့်သည် သာသနာတော်၏ ဝိနည်း သိက္ခာပုဒ်များနှင့် တရားကို တရားအတိုင်း လိုက်နာ၍ ရိုးသားစွာ ကျင့်သုံး နေထိုင်လေ့ရှိသဖြင့် သာကီဝင် နွယ်ဖွား ဘုရားသား တပည့်စာရင်းတွင် ပါဝင်လေသည်။

ယခုမူကား ထိုသို့မဟုတ် ကိလေသာ ရောပြွမ်း၍ ပုပ်ဆွေးသောစိတ်ဖြင့် သံဃာသင်း ခွဲပြီးလျှင် ဘုရားတစ်ဆူလုပ်ချင်လာ၏။

ထင်ရာ မြင်ရာများကို တရားလုပ်ပြီး သံဃာ့ပရိသတ်၊ လူ့ပရိသတ်တို့ကို ဟောပြော အုပ်ချုပ်ချင်လာ၏။ ထို့ကြောင့် အရှင်ဒေဝဒတ် ပြုသောအမှုတို့သည် ဘုရား၊ တရား၊ သံဃာတို့နှင့် မသက်ဆိုင်ဘဲ အရှင်ဒေဝဒတ်နှင့်သာ တိုက်ရိုက်သက်ဆိုင်ကြောင်းကို သံဃာအား ဉတ္တိကမ္မဝါစာ ဖတ်၍ ပကာသနိယ ကံ ပြုကြလေသည်။

ထို့နောင်မှ သံဃာက ဘုရားရှင်အမိန့်တော်အရ အရှင်သာရိပုတ္တရာကို (ရာဇဂြိုဟ်ပြည်၌ အရှင်ဒေဝဒတ်အကြောင်းကို ဟုတ်တိုင်းမှန်စွာ ပြောမည့်ပုဂ္ဂိုလ်ဖြစ်ကြောင်း) ဉတ္တိဒုတိယ

ကမ္မဝါစာဖြင့် သမုတ်ရသည်။ ထိုသို့ သမုတ်ပြီးသောအခါ အရှင်သာရိပုတ္တရာသည် ရဟန်းများစွာ ခြံရံလျက် ရာဇဂြိုဟ်ပြည်တွင်းသို့ ဝင်ရောက်ပြီးလျှင် 'ရှေးအခါက ဒေဝဒတ်၏ အမူအကျင့်သည် တစ်မျိုးဖြစ်၏။ ယခုအခါ၌ အမူအကျင့်ကား တစ်မျိုးဖြစ်၏။ ဒေဝဒတ်သည် အကြင်အမှုကို ကိုယ်ဖြင့်လည်းကောင်း၊ နှုတ်ဖြင့်လည်းကောင်း ပြုရာ၏။ ထိုအမှုဖြင့် မြတ်စွာဘုရားဟူ၍လည်းကောင်း၊ တရားတော်ဟူ၍လည်းကောင်း၊ သံဃာတော်ဟူ၍ လည်းကောင်း မမှတ်ယူအပ်။ ထိုအမှုသည် ဒေဝဒတ်နှင့်သာ သက်ဆိုင်သည်ဟု မှတ်ယူရမည်' ဤသို့ တရားဝင် ပြောဆိုတော်မူခြင်းကို ပကာသနိယကံပြု သည်ဟု ခေါ်ပါသည်။

အချုပ်ကား . 'အရှင်ဒေဝဒတ် ဘာလုပ်လုပ်၊ ဘာပြောပြော၊ သာသနာတော် တစ်ခုလုံးနှင့် မသက်ဆိုင်တော့ဘဲ အရှင်ဒေဝဒတ် ပြုသော အမှုသည် အရှင်ဒေဝဒတ်နှင့်သာ သက်ဆိုင်ပါကြောင်း' မြို့သူ မြို့သားအပေါင်း အဖြစ်အမှန်ကို သိအောင် ကြေညာ ပြောဆိုခြင်းပင် ဖြစ်၏။ တစ်နည်းဆိုရလျှင် စိတ်မမှန်တော့သော ရဟန်းအား သာသနာမှ ကြဉ်ဖယ်လိုက်ခြင်းပင် ဖြစ်၏။

အပြစ်ကို သတိသံဝေဂရ၍ တောင်းပန်လျှင် ရဟန်းကောင်းတစ်ပါး ဖြစ်နိုင်ချေရှိသော်လည်း ဝန်မခံသမျှ သာသနာ့ရန်သူစာရင်းတွင် ပါဝင်လေသည်။

## အရှင်ဒေဝဒတ်ပေးသော အကြံဉာဏ်

ယင်းသို့ ကြေညာလိုက်သောအခါ အရှင်ဒေဝဒတ် ရွံ့သွား လေသည်။ မိမိသန္တာန်၌ မည်သည့် တန်ခိုးမျှ မရှိတော့ ကြောင်းကိုလည်းအတတ်သိထား၏။ လက်မြှောက်အရှုံး မပေး ချင်သော်လည်း အများနှင့်တစ်ပါး ဖြစ်ခြင်းကြောင့် တင်းထား သော မာန်ညွှန့်များ ကျိုးကျသွားပြီ ဖြစ်၏။ ကျောင်းပြင်သို့ မထွက်ဝံ့တော့ဘဲ ကျောင်းတွင်းပုန်းလုပ်နေလေသည်။ သို့ သော်လည်း စိတ်က မကျေနပ်။ "ယောက်ဖတော် ဗုဒ္ဓသည် ငါ့ကို စွန့်ပယ်လိုက်ပြီ။ ရတယ်၊ ငါလည်း ဒီနေ့ကစပြီး ယောက်ဖ တော် အကျိုးမဲ့ ဖြစ်စေမယ့် အလုပ်တွေကိုပဲ လုပ်တော့မယ်" ဟူ၍ ဆုံးဖြတ်လိုက်၏။

မြတ်စွာဘုရားသည် 'အရှင်ဒေဝဒတ်က ရန်ငြိုးဖွဲ့၍ အကျိုးမဲ့လုပ်ရပ်များကို ပြုလုပ်လိမ့်မည်'ဟူသောအချက်ကို အရှင်ဒေဝဒတ် သာသနာ့ဘောင်သို့ မဝင်မီကပင် ကြိုတင်၍ သိထားပြီး ဖြစ်၏။ သို့သော်လည်း ' ဗုဒ္ဓေါလောကေ၊ သမုပ္ပန္နော၊ ဟိတာယ၊ သဗ္ဗပါဏိနံ- လောက၌ မြတ်စွာဘုရား ပွင့်တော်မူ လာခြင်းသည် အလုံးစုံသော သတ္တဝါတို့၏ အကျိုးစီးပွား အလို့ ငှါ ပွင့်တော်မူခြင်းဖြစ်၍' အရှင်ဒေဝဒတ်ကဲ့သို့သော သံချေး တက်နေသည့် သံချောင်းအား ဓါးကောင်းတစ်လက် ဖြစ်ရေး အတွက် 'ခေဋ္ဌာသက- အရိယာတို့ ၏ တံတွေးစက်ကို မျိုသူ'ဟု ခပ်တင်းတင်း မိန့်တော်မူပြီး ပကာသနိယကံပြုလုပ်၍ ထုနှက် ရ၏။

သာသနာတော်ကလည်း လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်း ကြာအောင် ပါရမီဖြည့်ပြီး ဘုရားဖြစ်လာခါမှ တည်ထောင်ရသော သာသနာတော်ကြီး ဖြစ်ခြင်းကြောင့် အရှင်ဒေဝဒတ်ကဲ့သို့ လာဘ် လာဘမက်မောပြီး အတ္တကြီးသူအား မည်သည့်နည်းနှင့်မျှ အပ်နှင်းလိမ့်မည် မဟုတ်ပါ။

ဗုဒ္ဓသာသနာကလည်း ဥက္ကဋ္ဌကွယ်လွန်သဖြင့် နောက်ထပ် တစ်ယောက် ရွေးကောက်တင်မြှောက်ရသော သာသနာမျိုး မဟုတ်ခြင်းကြောင့် သဒ္ဓါတရားခေါင်းပါးပြီး လာဘ် လာဘများရေး၊ တပည့် ဒကာ ဒကာမ အခြံအရံများပြားလျက် ကိုယ်ကျိုးသက်သက်ကိုသာ ကြည့်သောသူအား ဤသာသနာတော်တစ်ခုလုံးကို လွှဲအပ်လိုက်မည်ဆိုပါက အမည်နာမလေးတောင် ကျန်လိမ့်မည် မဟုတ်ကြောင်း ဗုဒ္ဓ မသိဘဲ နေပါမည်လော။

ထို့ကြောင့် ဗုဒ္ဓကိုယ်စားတော်ဖြစ်သော ဤသာသနာတော်ကြီး မပျက်စီးရေးအတွက် သာသနာ့ရန်ဆူး ရန်ငြောင့်တို့ကို လက်ထက်တော်၌ပင် စံပြသန့်ရှင်းရေး လုပ်တော်မူကြောင်း အရှင်ဒေဝဒတ် နားလည်လိမ့်မည် မဟုတ်ပါ။ ယင်းသို့ နားမလည်ခြင်းကြောင့်ပင် အဇာတသတ်မင်းသားထံသို့ သွားပြီး သူ၏ မူဝါဒလမ်းစဉ်များကို အသေးစိတ် ချပြလေသည်။

"မင်းသား၊ ရှေးတုန်းက လူတွေ အသက်ရှည်ရှည် နေကြရတယ်။ ယခုခေတ် လူတွေကတော့ အသက်တိုကြတယ်။ မင်းသားလည်း ငယ်ငယ်ရွယ်ရွယ်နဲ့ သေနိုင်တာပဲ။ အကယ်၍ အသက် မသေရသေးဘဲ နေရစေဦး၊ သင်မင်းသား

အရွှယ်နှောင်းကာမှ မင်း အဖြစ်ကို ရမယ်ဆိုရင် ကာမဂုဏ်ခံစားရတဲ့ ကာလအချိန် အနည်းငယ်လေးပဲ ရလိမ့်မယ်။ ဒါကြောင့် သင့်ဖခင်ရဲ့ အရိုက်အရာကို လွှဲပြောင်းပေးမယ့် အချိန်ကာလအထိ စောင့်မနေတော့ဘဲ ဖခင်ကို သတ်ပြီး နန်းရပ်ကို အမြန်ယူပေတော့။ ငါလည်း ဂေါတမကို သတ်ပြီး ဘုရားလုပ်တော့မယ်"

အရှင်ဒေဝဒတ်သည် လောကီဈာန်အဘိညာဉ် တန်ခိုးကို အပိုင်ရခဲ့သူ ဖြစ်၏။ ထိုတန်ခိုးကို ရအောင် အားထုတ်ရသော သမာဓိသည် သေးသေးကွေးကွေးမဟုတ်။ သာမန်ပုဂ္ဂိုလ်များကို မဆိုထားဘိ သုက္ခဝိပဿက အရိယာပုဂ္ဂိုလ်တို့ပင် အချိန်ကြာမြင့်စွာ အားထုတ်ယူမှ ရနိုင်သော သမာဓိမျိုးကို ပိုင်စိုးစွာ အားထုတ် နိုင်ခဲ့သဖြင့် လုလင်ငယ်အသွင်ကို ယူကာ အဇာတသတ်မင်းသားအား တန်ခိုး ပြာဋိဟာများဖြင့် လှည့်စားပြသနိုင်ခဲ့၏။

ယင်းသို့ ပြသနိုင်ခဲ့သော်လည်း အဘိညာဉ်သည် လောကီသာဖြစ်သဖြင့် ဝိဇ္ဇာဉာဏ် မပေါက်ရောက်နိုင်ခြင်းကြောင့် အရိယာစာရင်း မဝင်ဘဲ အဝိဇ္ဇာအမှောင်ကျကာ ဗုဒ္ဓကိုပင် သတ်ရန်ကြံစည်လေတော့သည်။ လောကီဈာန်ရသူပင် ဤအကြံမျိုးကို ကြံဝံ့သည်ဆိုပါက ငါးပါးသီလကို အသက်အောင့်၍ စောင့်နေရသော အဇာတသတ်လိုလူအတွက် အဘယ်အကုသိုလ်မျိုးကိုမျှ လွန်ကျူးရန် ခက်ခဲလိမ့်မည် မဟုတ်ပါ။

ထို့ကြောင့် အရှင်ဒေဝဒတ် ပြောလိုက်သည့် စကားသံကို ကြားရသောအခါ အဇာတသတ်မင်းသား၏သန္တာန်၌ ဤသို့ အကြံဖြစ်လေသည်။ "အရှင်ဒေဝဒတ်သည် တန်ခိုးအာနုဘော်ကြီးသူဖြစ်၏။ မသိသောအရာဟူ၍မရှိ။ အကြောင်းအကျိုးကို မှန်ကန်စွာ သိမြင်လို့သာ ငါ့ကို ပြောကြားခြင်း ဖြစ်ပေလိမ့်မည်"ဟု စဉ်းစားပြီး ပေါင်၌ ဓါးမြှောင်တစ်ချောင်းကို ချည်နှောင်ကာ မျက်နှာအမူအရာပျက်လျက်ထိတ်ထိတ်လန့်လန့်ဖြင့် ဖခင်ရှိရာနန်းတွင်းသို့ အဆောတလျင် ပြေးဝင်လေတော့သည်။

ဖခင် မင်းတရားကြီး ၏ သက်တော်စောင့် အမတ်တို့သည် ယင်းသို့ အဆောတလျင် ပြေးဝင်လာသော မင်းသားကို ဖမ်းပြီး ရှာဖွေစစ်ဆေးကြသောအခါ ပေါင်၌ ချည်နှောင်ထားသည့် ဓါးကို တွေ့ရသဖြင့် . . .

"မင်းသား၊ ဒီဓါးကို ဘာလုပ်ဖို့ ယူလာခဲ့ရတာလဲ"

"ခမည်းတော်ကိုသတ်မလို့ ယူလာခဲ့တာပဲ အမတ်ကြီး"

"ခမည်းတော်ကို ဘာဖြစ်လို့ သတ်ချင်ရတာလဲ မင်းသား"

"ကျုပ် ဘုရင်ဖြစ်ချင်လို့ပေါ့ဗျ"

"ဒီအကြံဉာဏ် ဘယ်သူ့ထံက ရသလဲ မင်းသား"

"ဘယ်သူ့ထံက ရရမလဲ။ ကျုပ်ကိုးကွယ်နေတဲ့ တန်ခိုးရှင် ဘုန်းကြီး ဦးဒေဝဒတ်ထံက ရတာပေါ့ဗျ"

အဇာတသတ်မင်းသားထံက ဖြောင့်ချက်အမှန်ကို သိသွားကြသော အမတ်ကြီးတို့သည် တစ်ယောက်မျက်နှာ တစ်ယောက် ကြည့်ပြီး . . .

"ဟာ . . အမတ်ကြီးတို့ ဒီနည်းအတိုင်းဆိုရင် မင်းသားနဲ့ အရှင်ဒေဝဒတ်ကို အသေသတ်သင့်တယ်။ ကျုပ်သဘောအရ ပြောရရင် နန်းတွင်းရေးကိစ္စကို ဝင်ရောက် စွက်ဖက်တဲ့ ရဟန်း သံဃာအားလုံးကိုလည်း အရှင်မထားသင့်ဘူး။ သေအောင် သတ်သင့်တယ်။ အမတ်ကြီးတို့ သဘောကိုလည်း ပြောကြပါအုံးဗျ"

"အို . . အမတ်ကြီးကလည်း ဒီကိစ္စမှာ ရဟန်းသံဃာတော်များနဲ့ ဘာမှမဆိုင်ပါဘူးဗျာ။ မင်းသားနဲ့ အရှင်ဒေဝဒတ်တို့မှာသာ တိုက်ရိုက် အပြစ်ရှိတာမို့ သတ်ခြင်းသတ် သူတို့နှစ်ဦးကိုပဲ သတ်သင့်တယ်လို့ ကျုပ်တော့ မြင်တာပဲဗျ"

"ဘယ်လိုလဲ အမတ်ကြီးတို့ရဲ့။ အတင့်ရဲလိုက်ကြတာပါလား။ ခင်ဗျားတို့ ကျုပ်တို့ဟာ အမတ်တွေလေဗျာ။ အမတ်ဆိုတာ နာမည်နဲ့ လိုက်အောင် တည့်တည့်မတ်မတ် ရှိရမယ်မဟုတ်လား။ ဒီတော့-ကျုပ်တို့သဘောတစ်ခုတည်းနဲ့ဘယ်သူ့ကိုမှ မသတ်သင့်ဘူး။ ကျုပ်တို့ အထက်မှာ ဘုရင်မင်းမြတ်ကြီးလည်း ရှိနေသေးတာမို့ ဒီလောက်ကြီးလေးတဲ့အမှုကို ကိုယ်တော်မြတ်ကြီးထံ သံတော်ဦး တင်ပြီး အမိန့်သံ နာခံကြရင် ကောင်းလိမ့်မယ်ဗျ။ ကဲ . . . ပြောနေကြာတယ်။ ကိုယ်တော်မြတ်ကြီးထံ အခစားဝင်ပြီး သံတော်ဦး တင်ကြစို့ရဲ့"

## အဇာတသတ်နှင့် မင်းစည်းစိမ်

အမတ်ကြီးတို့သည် မင်းသားကို ဖမ်းဆီး တုပ်နှောင်ပြီး

ခမည်းတော်မင်းကြီးထံ အကြောင်းစုံ တင်ပြလျှောက်ထားကြသောအခါ မင်းတရားကြီးက-

"အမတ်တို့ . . တရားစစ် တရားမှန်ကို သိမြင်တော်မူသော ဘုရားရှင်နှင့်တကွ အရိယာသံဃာတော်တို့သည် ဤအမှုမျိုးကို ဘယ်သောအခါမျှ ပြုကြလိမ့်မည် မဟုတ်။ စိတ်ယုတ်ရှိသော အရှင်ဒေဝဒတ်သာလျှင် မဆင်မခြင် ပြုပေလိမ့်မည်။ စောစောကပင် အရှင်ဒေဝဒတ်ကို ပကာသနီယကံ ပြုထားတဲ့အတွက် အရှင်ဒေဝဒတ် ပြုလုပ်ပြောဆိုသော အမှုသည် အရှင်ဒေဝဒတ်နှင့်သာ တိုက်ရိုက်သက်ဆိုင်တယ်။ သံဃာတော်များနှင့် ဘာမှမသက်ဆိုင်ဘူး အမတ်တို့။ သံဃာတော်များကို မပြစ်မှားကြနဲ့။ စိတ်နဲ့ မကောင်းကြံမိရင်တောင် ဝန်ခံတောင်းပန်လိုက်ကြကွယ်တို့"ဟု ပြောဆိုပြီး သားတော် အဇာတသတ်မင်းသားအား ဆက်လက် စစ်ဆေးလေသည်။

"သားတော်၊ ဘာကြောင့် ခမည်းတော်ကို သတ်ချင်ရတာလဲ"

"မှန်လှပါ ခမည်းတော်ဘုရား၊ သားတော် မင်းစည်းစိမ်ကို လိုချင်လို့ပါဘုရား"

"အို . . သားတော်ရယ် . . ။ မင်းစည်းစိမ်ကို လိုချင်လို့များဖြင့် ခမည်းတော်ကို သတ်စရာမလိုပါဘူး။ စောစောက သံတော်ဦး တင်ရောပေါ့ကွယ်။ ကဲ. သားတော်၊ မင်းစည်းစိမ်ကို လိုချင်တယ်ဆိုရင် ယခုချက်ချင်း ယူစေဗျား။ ဒီစည်းစိမ်အားလုံးဟာ သားတော်ရဲ့ စည်းစိမ်လို့သာ မှတ်ပေရော့"

ဗိမ္ဗိသာရ မင်းတရားကြီးသည် သောတာပတ္တိမဂ်ကို ရ-ထားသူဖြစ်ခြင်းကြောင့် လူသားအရိယာကြီး ဖြစ်၏။ အရိယာတို့ မည်သည် မိမိအပေါ် သတ်လိုသောသူကို ပြန်လည် သတ်ဖြတ်လို သည့် အာဃာတစိတ်မျိုး မရှိဘဲ မင်းစည်းစိမ်ကို လွယ်လွယ်လေးဖြင့်ပင် ပေးအပ်လိုက်လေသည်။ သာမန်တရားမရှိသော မင်းမျိုးသာဆိုလျှင် သားသမီးဟူသော မျက်နှာကိုပင် ထောက်ဆတော့မည်မဟုတ်ဘဲ ရှေ့တော်မှောက် ရောက်ကတည်းက 'သတ်စေ အမိန့်တော်'ဟု ချမှတ်၍ မျက်နှာတော် လွှဲလိုက်မည်သာ ဖြစ်၏။ အကယ်၍ ဗိမ္ဗိသာရ မင်းတရား၏ နေရာတွင် အရှင်ဒေဝဒတ်နှင့် အဇာတသတ်တို့သာဆိုလျှင် ဘာမျှ ဆင်ခြင် စဉ်းစားနေကြလိမ့် မည် မဟုတ်။ ရှေ့တော်၌ပင် သန်လျက်ဖြင့် ခုတ်သတ်ကြပေလိမ့်မည်။

ယခုအခါ အဇာတသတ်သည် မိနစ်ပိုင်းအတွင်း မင်းစည်းစိမ်ကို ရလိုက်ပြီဖြစ်၍ ကျေနပ် ဝမ်းမြောက်နေသည့်အပြင်၊ အရှင်ဒေဝဒတ်ထံသို့လည်း 'မိမိ လိုအင်ဆန္ဒများ အားလုံး ပြည့်ဝပြီဖြစ်ကြောင်း' လျှောက်ထားလိုက်လေသည်။ သူ့အား ဖမ်းဆီးတုပ်နှောင်ခဲ့သော အမတ်များအား ရာဇအပြုံးဖြင့် အသက်ချမ်းသာခွင့်ပေးပါမည်လော။ အသက်ကို သေအောင် မသတ်သည့်တိုင်အောင် အမတ်အဖြစ်ဖြင့် အနား၌ ခစားခွင့်တော့ ရကြလိမ့်မည် မဟုတ်ပေ။ အဇာတသတ်သည် ကျောင်းသားအရွယ် ငယ်စဉ်ကပင် အငြိုးကြီး၏။ သူဌေးပစ္စည်းကို အလကား သိမ်းပိုက်ရန် ကြံစည်ခဲ့ဖူး၏။

ယခု ဘုရင်ဖြစ်လာသောအခါ အဘယ်ဆိုဖွယ်ရာ ရှိပါတော့မည်နည်း။ အနီး၌ မြှောက်ထိုးပင့်ကော် လုပ်ပေးနေသော အရှင်ဒေဝဒတ်က သူ့ဘဝအတွက် သရဖူဆောင်းပေးခဲ့သူ ဖြစ်ခြင်းကြောင့် ရာဇဂုရု(မင်းဆရာ)အဖြစ် သတ်မှတ်ပြီး ရှေ့ခရီးကို လျှောက်လှမ်းရန် ဆုံးဖြတ်ထားခြင်းသည်ပင် ခွေးဆိုး နှာခေါင်း၌ ဝံသည်းခြေ သုတ်ပေးလိုက်သကဲ့သို့ ဖြစ်နေပါလေပြီ။ ကြည့်ပါဦး။

"မင်းသား၊ သင်မင်းသားဟာ မြေခွေးကို အတွင်းက ထားပြီး စည်ကျက်တဲ့ ယောက်ျားလိုပါပဲလား။ သင့်ဖခင်ဟာ မုန့်တောင်းတဲ့ ကလေးကို မုန့်ပေးသလို လွယ်လွယ်ပေးပြီး လွယ်လွယ်ပဲ ပြန်ယူပေလိမ့်မယ်၊ သဟာကို စဉ်းစားမိရဲ့လား မင်းသား"

"ဒါဆိုရင် ဘယ်လိုလုပ်ရမလဲ၊ အမိန့်ရှိပါဦးဘုရား"

"မင်းသား၊ မင်းစည်းစိမ်ဆိုတာ ကလေးကစားစရာ မဟုတ်ဘူး။ ကလေးပါးစပ်ထဲကို မုန့်ခွံ့ကျွေးတာနဲ့လည်း မတူဘူး။ 'ရက်စက်မှ ကြေကွဲ၊ ရဲမှ မင်းဖြစ်'ဆိုတာလို မိဘဆွေမျိုးဆိုပြီး ညှာတာ နေရင် အသင်မင်းသားရဲ့ နန်းသက်ဟာ တစ်နံနက်ပဲ သက်တမ်း ရှည်လိမ့်မယ်။ ဒီတော့ သင်မင်းသား ဘုရင်သက်တမ်းရှည်ချင်ရင် ရက်စက်ရတယ်။ ရဲရင့်ရတယ်။ ဆုံးဖြတ်ချက် မြန်ရတယ်။ မင်းစည်းစိမ်က လွဲရင် အခြား ဘာကိုမှ မကြည့်ရဘူး။

"မင်းစည်းစိမ်နဲ့ ပတ်သက်လို့ ဖခင်ဖြစ်အုံးတော့

အနှောင့်အယှက်၊ အဟန့်အတား၊ အပိတ်အပင် ဖြစ်တယ်ဆိုရင် ရန်သူပဲ။ ကိုယ်က လက်ဦးမှုယူပြီး အပြတ်ရှင်းပစ်ရမယ်။ ကိုယ်မရှင်း သူက ရှင်းမှာပဲ မင်းသား။ ဒီတော့-ဘာလုပ် သင့်တယ်ဆိုတာ အမြန်သာ ဆုံးဖြတ်ပေတော့"

"အရှင်ဘုရား တပည့်တော်ရဲ့ ခမည်းတော်ဟာ လက်နက်နဲ့ သတ်ထိုက်သူ မဟုတ်တဲ့အတွက် ဘယ်သို့ ဆောင်ရွက်ရပါ့မလဲ ဘုရား"

"လွယ်ပါတယ် မင်းသား၊ ထောင်သွင်း အကျဉ်းချထားပြီး အစာဖြတ် သတ်လိုက်ရုံပဲပေါ့။ ဘာခက်တာလိုက်လို့"

အဇာတသတ်သည် အရှင်ဒေဝဒတ် နည်းပေးလမ်းညွှန်ချက်အတိုင်း ခမည်းတော်ကို အကျဉ်းချထားစေ၏။ 'မယ်တော်မှ တစ်ပါး အခြားဘယ်သူမျှ မဝင်ရ'ဟူ၍လည်း အမိန့်ထုတ်ပြန်ထားလိုက်၏။

ခမည်းတော်ကို ချုပ်နှောင်ထားသည့် အကျဉ်းထောင်ကား သက်သက်သာသာနေရသော နေရာမျိုးမဟုတ်၊ လူဆိုးလူယုတ်တို့ကို ချုပ်နှောင်သော နေရာ ဖြစ်၏။ ရာသီဥတုအေးသော်လည်း အမြဲတမ်း ပူလောင်၍ အခိုးအလျှံ ထနေအောင် စီစဉ်ထားသော နေရာဖြစ်လေသည်။

'တမာ-ခွေးတောက်၊ ပင်ချင်းနှောက်က၊ ချိုလောက်သရက် ဩဇာပျက်၏'ဟူသော ဆုံးမစကားကဲ့သို့ အဇာတသတ်၏ ပင်ကို ခါတ်ခံသည် အလွန်ဆိုးရွားသော လူယုတ်မာ ခါတ်ခံ မဟုတ်သော်လည်း တမာပင်၊ ခွေးဘောက်ပင်တို့နှင့်

ရောပြွမ်း၍ စိုက်ပျိုးထားသော သရက်ပင်ပမာ အဇာတသတ်၏ သန္တာန်၌ သူတော်ကောင်း အချိုဓါတ်များ ပျက်ပြယ်ပြီး အရှင် ဒေဝဒတ်ထံက လူယုတ်မာ အခါးဓါတ်များ ကူးစက်ကာ ထီး နန်းစိတ်ကြောင့် ကျေးဇူးရှင် ဖခင်-ဟူ သော အသိတရားပင် ပျောက်ကွယ်ခဲ့ပါလေပြီ။ မင်းစည်းစိမ်ပေါ်၌ တပ်မက်သော ရာဂ, တဏှာ, လောဘသည် ကြောက်မက်ဖွယ်ကောင်းသည့် အပြင် ဘဝမှာ လူပေါင်း မမှားရန်လည်း လိုအပ်ကြောင်း မီး မောင်းထိုးပြသလို ထင်ရှားလှပေတော့သည်။

## အမိုးအကာ မရှိသောအိမ်

တပ်မက်ခြင်းကို 'ရာဂ' ဟုခေါ်၏။ ယင်း ရာဂ-ကို မထိန်းချုပ်နိုင်သူသည် ကောဓ- အမျက်ထွက်ခြင်း၊ ဉပနာဟ- ရန်ငြိုးဖွဲ့ခြင်း၊ မက္ခ-သူ့ကျေးဇူးကို ချေဖျက်ခြင်း၊ ပဠာသ-ဂုဏ်တု ဂုဏ်ပြိုင်ပြုခြင်း၊ ဣဿာ-ငြူစူခြင်း၊ မစ္ဆရိယ-ဝန်တိုခြင်း၊ မာယာ- လှည့်ပတ်ခြင်း၊ သာဌေယျ- စဉ်းလဲခြင်း၊ အဟိရိက-ဒုစရိုက်ပြုရန် မရှက်ခြင်း၊ အနောတ္တပ္ပ-ဒုစရိုက်ပြုရန် မကြောက်လန့်ခြင်း ဟူ သော တရားဆိုးများ တိုးပွားနေတတ်၏။

မမြတ်သော ကာယကံ၊ ဝစီကံ၊ မနောကံတို့ကို နေ့စဉ် ပြုလုပ်၊ ပြောဆို ကြံစည်နေတတ်၏။ ထိုတရားဆိုးများ ချုပ် ပျောက်သွားစေရန် သမထ ဝိပဿနာတရားတို့ကို ပွားများအား ထုတ်ရမည် ဖြစ်၏။ အမိုးအကာမရှိသော အိမ်၏ အတွင်းသို့ မိုးရေ မိုးပေါက်တို့နှင့်တကွ အလွန်တောက်ပလှသော နေအပူ

ရှိန်များ ဝင်ရောက်လာသဖြင့် ဆင်းရဲစွာ နေထိုင်ရသကဲ့သို့ တရားတည်းဟူသော အမိုးအကာ မရှိသူ၏ သန္တာန်၌လည်း ကိလေသာ တရားဆိုး အပူရှိန်များ ပူလောင်ခြင်း၊ ကိလေသာ မိုးရည်တို့ စိုစွတ်ခြင်း-စသော ဒဏ်တို့ကို မုချ ခံရမည်ဖြစ်၏။

အဆင်းမလှ ပုကွ၍ အနာရောဂါများပြီး မျက်စိအလင်းမရဘဲ ကိုယ်ခန္ဓာ အောက်ပိုင်း သေနေသူသည် 'လူအပေါင်းတို့က ဤမည်သော မင်းသားကို မင်းအဖြစ် ဘိသိက် သွန်းလောင်းလိုက် ကြသတဲ့'ဟူသော သတင်းစကားကို ကြားရသောအခါ 'ငါ့ကို လူအပေါင်းတို့က ဘယ်တော့များ မင်းဘိသိက်သွန်းကြလေမလဲ'ဟူ၍ အကြံအစည် မဖြစ်တော့သကဲ့သို့ ရာဂထူပြောပြီး ကိလေသာ မှွန်၍ ဉာဏ်အလင်း မရှိဘဲ ကိုယ်ကျင့်သီလ တစ်ခြမ်းသေနေသော လူမိုက်သည် 'ဘယ်တော့များ မဂ်ဖိုလ်နိဗ္ဗာန်ကို ရပါလေမလဲ'ဟု တွေးတော ဆင်ခြင်မှု မရှိနိုင်တော့ချေ။

ထို့ပြင် တပ်မက်မှု ရာဂ အားကြီးသူသည် ယင်းရာဂကို ချုပ်ပျောက်ရန် ကျင့်ကြံနေသူအား အထင်အမြင်သေးတတ်၏။ မထီမဲ့မြင်လည်း ပြုတတ်၏ အပုပ်ချ ပြောဆိုတတ်၏။ 'ဇီးကွက်လောက်တော့ ငှက်တိုင်းလှသည် ' ဟူ၍ ကြံစည် သတ်မှတ်ထားတတ်၏။ လှပသော ငှက်အချို့ မစင်စွန့်ရုံမျှသာ အခြေခံရှိသည်ကို မရိပ်မိချေ။ ကိုယ်တိုင်က ချုပ်ပျောက်ရန် ရှေးမရှုဘဲ တိုးပွားရေးကိုသာ အားပေးနေတတ်လေသည်။ မိမိက အတ္တကို ရှေ့တန်းတင် ထားခြင်းကြောင့် အပါယ်ဩဘ်နှံ့ နံလာ

သောအခါ မိတ်ဆွေ အခြံအရံများကလည်း ခွဲခွါသွားကြသဖြင့် အဖော်ကင်းနေတတ်၏။

ရာဂဟူသော တပ်မက်မှုများ သက်ဝင် နှောင်ဖွဲ့အပ်သည် ဖြစ်၍ ကိလေသာနွံ၌ ကျွံနစ်နေသော ထိုသူသည် မိမိထံက မိတ်ဆွေ အခြံအရံများ အခြားတစ်နေရာသို့ ရောက်နေလျှင် စိတ်ကြည်လင်မှု မရှိတော့ဘဲ ကြမ်းတမ်းသော စကားတို့ဖြင့် ဆဲရေးတိုင်းထွာ နေတတ်၏။ ကျေးငှက်ရှင်ကို ကျေးငှက်ရှင်မှန်း မသိတတ်တော့သကဲ့သို့ မေတ္တာ၏ အနက်အဓိပ္ပါယ်များကိုလည်း နားမလည်နိုင်တော့ပေ။

တုန်လှုပ် ပျံ့လွင့်လျက် အခြောက်တိုက် တက်ကြွသော မာန်မာန ခြေလှမ်းတို့ဖြင့် ဖဝါးအစွန် နင်းနေတတ်၏။ ရောက်တတ်ရာရာ စကားတို့ကို ပြောဆိုပြီး သတိလွတ်ကင်းစွာ နေထိုင်တတ်၏။ အကြောင်းအကျိုး အကောင်းအဆိုးတို့ကို ဆင်ခြင်နိုင်သော ဉာဏ်မရှိခြင်းကြောင့် ပေါ်လွင်ထင်ရှားလိုသော စိတ်ဖြင့် အနှစ်မဲ့သည့် ဣန္ဒြေကို ဆယ်ယူထားတတ်၏။ ထောင်ထားသော လက်မလည်း ရှိ၏။

ထိုသူသည် အာသဝေါ တရားများ တိုးပွားပြီး အပါယ်သွားရမည့်သူ ဖြစ်ကြောင်းနှင့် အမိုးမရှိသော အိမ်နှင့်တူသူသာ ဖြစ် ကြောင်း ဘုရားအစရှိသော အရိယာ သူတော်ကောင်းများ မိန့်ကြားတော်မူခဲ့ကြလေသည်။ အဇာတသတ်သည် ဖြူစင်သော အဝတ်အထည်ပမာ အလွန်နှစ်သက်ဖွယ် ကောင်းသော လူငယ်လေး တစ်ယောက်ဖြစ်သော်လည်း ကိလေသာ အား

ကြီးသူ အရှင် ဒေဝဒတ်၏ စနက်ကြောင့် အထက်က ဆိုခဲ့သော တရားဆိုးတို့ဖြင့် အမှား အမျိုးမျိုးတို့ကို ဆက်တိုက်ကျူးလွန်လျက် ဖခင်-ဟူသော ကျေးဇူးရှင်၏ မျက်နှာကိုပင် မထောက်ထားတော့ဘဲ အလင်းရောင် မရှိသည့် အကျဉ်းထောင်၌ သွင်းကာ အစာဖြတ်၍ သတ်ရန် ပြင်ဆင်နေပါလေပြီ။ ဖခင်၏ မေတ္တာကို ကျော်ခိုင်း၍ အရှင် ဒေဝဒတ် အမိန့်အတိုင်း ပြည်ဖုံးကား ချလိုက်ပြီ ဖြစ်၏။

ခမည်းတော် ဗိမ္ဗိသာရ မင်းတရားကြီးသည် သားတော် အဇာတသတ်ကို အသက်တစ်မျှ ချစ်ခဲ့၏။ မိမိကို သတ်မည့်သူ ဖြစ်ကြောင်း ဗေဒကဝိ ပညာရှိ ပုဏ္ဏားအပေါင်းတို့က ဟောစာတမ်း ထုတ်ခဲ့ကြသည်ကိုပင် အလေးမထားဘဲ သားမျက်နှာကို မမြင်ခင် ကတည်းက ချစ်ခြင်းမေတ္တာကို ရင်ထဲမှာ သိုလှောင်ထားခဲ့၏။

ဟောစာတမ်းအရ 'သူယုတ်ကို အရောဝင် ချစ်ခင်ခြင်းသည် ကြမ်းကြုတ်သည့် မြွေကို မွေးမြူထားရသကဲ့သို့ ဖြစ်ကြောင်း' နားလည်သည့်အပြင်၊ မွေးဖွားပြီး၍ လူဖြစ်လာသောအခါ သားလက်မှာ အနာပေါက်ပြီး ပြည်တည်နေသည်ကိုပင် အာခံတွင်းမှာ ငုံထားပေးရာ အပူငွေ့ကြောင့် အနာပေါက်ထွက်လာသဖြင့် သွေးပြည်ပုပ်တို့ကို ထွေးမပစ်ဘဲ မျိုချခဲ့လေသည်။

သားကလည်း ပြည်ကိုက်၍ အိပ်မပျော်ဘဲ ငိုယိုနေခဲ့ရာ ဖခင်က အာခံတွင်းမှာ ငုံထားမှသာ အိပ်ပျော်ရှာ၏။ ဖခင်၏ မေတ္တာသည် သားသမီး ကိုယ်ခန္ဓာမှ ထွက်ပေါ်လာခဲ့သော

အညစ်အကြေးကို ရွံစရာဟု မထင်မှတ်နိုင်ဘဲ မေတ္တာဖြင့် ဖုံးအုပ်ခဲ့၏။

ယခု အရွယ်ရောက်လာသောအခါ ထီးနန်းကို (မိမိ၏အရိုက်အရာကို) လိုချင်သည်ဟု ဆိုလာသောအခါ၌လည်း မည်သူ့ကိုမျှ မတိုင်ပင်ဘဲ မုန့်တစ်ဖွဲ့ပမာ သဘောထားကာ အလွယ်နှင့် ပေးအပ်လိုက်လေသည်။ အရိယာ ဖခင်ကြီး၏ မေတ္တာသည် သား နှင့် ပတ်သက်လာလျှင် အသေခံ၍ ချစ်ရန် ဝန်လေးမည် မဟုတ်ပါ။

ဖခင်ဘက်က ဤမျှ မေတ္တာ ဝတ္တရား ကျေပွန်စွာ ထားခဲ့ငြားသော်လည်း အတိုင်းတိုင်း အပြည်ပြည်က ကြား၍မျှ မလျော်သောအမှုကို သားတော် အဇာတသတ်က အဆက်မပြတ် ပြုလုပ်လာသောအခါ ချစ်ခြင်းမေတ္တာကို အကာအကွယ်ပြုပြီး နေထိုင်လေသည်။ အဇာတသတ်သည် ဘုရင်ဟူသော အမှတ်လက္ခဏာရှိပြီ ဖြစ်သော်လည်း ပြုလုပ်သော ကံတို့ကား ကြောက်မက်ဖွယ် ကောင်းလှ၏။ ထို့ကြောင့် ဗုဒ္ဓက 'ဘယသုတ်'၌ ဤသို့ ဟောကြားတော်မူခဲ့ပေသည်။

"ရဟန်းတို့. . . ဖြစ်ပေါ်သမျှသော ကြောက်လန့်ဖွယ်ဘေးအားလုံးတို့သည် လူမိုက်ကြောင့် ဖြစ်ပေါ်ကုန်၏။ ပညာရှိလူလိမ္မာကြောင့် မဖြစ်ပေါ်ကုန်။ ဖြစ်ပေါ်သမျှသော 'မငြိမ်သက်ခြင်း ဥပဒ္ဒဝေါ'တို့သည် လူမိုက်ကြောင့် ဖြစ်ပေါ်ကုန်၏။

ပညာရှိ လူလိမ္မာကြောင့် မဖြစ်ပေါ်ကုန်။ ဖြစ်ပေါ်သမျှသော'စိတ်ဆင်းရဲခြင်း-ဥပသဂ္ဂ'အားလုံးတို့သည် လူမိုက်ကြောင့်

ဖြစ်ပေါ်ကုန်၏။ ပညာရှိ လူလိမ္မာကြောင့် မဖြစ်ပေါ်ကုန်။

"ရဟန်းတို့. . . ကျူမိုး ကျူကာ အိမ်မှသော်လည်းကောင်း၊ မြက်မိုး မြက်ကာ အိမ်မှသော်လည်းကောင်း၊ လောင်စွဲ လွင့်ထွက်လာသော မီးသည် အင်္ဂတေ လိမ်းကျံ၍ လေးလံကုန်သော အထွက် တပ်ဆင်ထားသည့် အိမ်ကြီး အိမ်ကောင်းတို့ကိုလည်း လောင်ကျွမ်းသကဲ့သို့ ဤအတူသာလျှင် ဖြစ်ပေါ်လာသမျှသော ကြောက်လန့်ခြင်း၊ မငြိမ်သက်ခြင်း၊ စိတ်ဆင်းရဲခြင်းတို့သည် လူမိုက်ကြောင့်သာ ဖြစ်ကုန်၏။ ပညာရှိ လူလိမ္မာကြောင့် မဖြစ်ကုန်"

## မိခင်မေတ္တာနှင့် ဖခင်မေတ္တာ

အရှင်ဒေဝဒတ် ရှိုလိုက်သော မီးသည် အဇာတသတ်ကို လောင်၏။ သောတာပန်အရိယာ ဗိမ္ဗိသာရဖခင်ကြီးတည်းဟူသော အင်္ဂတေတိုက်ကြီးကိုလည်း လောင်မြိုက်ခြင်း ခံရပါလေပြီ။ 'အဆိုးထဲက အကောင်း' ဟု ဆိုရလေမည်လား။ သားတော်က 'မယ်တော်မှအပ မည်သူမျှ မဝင်ရ'ဟု ဆိုသဖြင့် ရွှေခွက်၌ ပွဲတော်စာများ ထည့်ကာ ရင်ခွင်ထဲမှာ ကွယ်ဝှက်ပြီး ထောင်အတွင်းသို့ ဝင်ခဲ့လေသည်။ ခမည်းတော် ဘုရင်ကြီးသည် ထိုပွဲတော်စာဖြင့် အသက်ရှင်နေရ၏။

ဤကိစ္စကို အဇာတသတ် သိသွားသောအခါ 'မယ်တော်ဘုရားကို တစ်စုံတစ်ခု ရင်ခွင်ပိုက်ပြီး မဝင်စေနှင့်'ဟု အမိန့်ထုတ်ပြန်လိုက်လေသည်။ နောက်တစ်နေ့တွင် မယ်တော်ဘုရား

က ဆံထုံးထဲမှာ ကွယ်ဝှက်ပြီး ဝင်ပြန်သောအခါ သားတော်ဘုရင် အဇာတသတ်က တားမြစ်ပြန်သောကြောင့် ခြေနင်းဖိနပ်ထဲ ဝှက်၍ ယူဆောင်သွားရလေသည်။

ဇင်းကိုလည်း တားမြစ်ပြန်သောကြောင့် ခန္ဓာကိုယ်ကို ရေ သန့်စင်အောင် ချိုးပြီး စတုမဓုများ လိမ်းကျံ၍ ဝင်ရောက်လာခဲ့ခြင်းကြောင့် ခမည်းတော်မင်းကြီးသည် မိဖုရားကြီး၏ခန္ဓာကိုယ်ကို လျှာဖြင့်လျှက်ကာ အသက်ဆက်ရရှာလေသည်။ ထိုသတင်းကို သားတော် အဇာတသတ် သိသွားပြန်သောအခါ 'ယနေ့ကစပြီး မယ်တော်ကြီးကို လုံးဝ မဝင်စေနဲ့တော့'ဟူ၍ အမိန့်ထုတ်ပြန်လိုက်လေသည်။

"မောင်တော်ဘုရား. . . သားတော်ကို ချစ်လိုက်တာဆို။ ခုတော့ ချစ်ပါအုံးလား ဘုရာ့။ ချစ်ရကျိုးတွေ နပ်ပြီလား ဘုရာ့။ ဒီသားမိုက် ဗိုက်ထဲမှာရှိတုန်းကတည်းက 'အဘကို သတ်မယ့်သား'ဆိုတဲ့ ဟောစာတမ်း ရှိခဲ့တာမို့ ဒီကိုယ်ဝန်ကို ဖျက်ချလိုက်မယ် ဆိုတာတောင် မောင်တော်ဘုရား လက်မခံခဲ့ဘူး။ ခုတော့. ခုတော့ သတ်ပြီလေ မောင်တော်ရဲ့။ သားတော်ဘုရားကို ဘာအမိန့်တော်မှ ထုတ်ပြန်(တောင်းပန်တိုးလျှိုး) လို့ မရနိုင်တော့ဘူးလား။ မောင်တော်ဘုရားရဲ့ မျက်နှာတော်ကို ဒါနောက်ဆုံး ဖူးတွေ့ရခြင်းဖြစ်တာမို့ နှမတော်မှာ အပြစ်ရှိရင် သည်းခံခွင့်လွှတ်ပါတော့ မောင်တော်ဘုရား။

"အို. . . မောင်တော်ဘုရား . . . နှမတော် နှုတ်ဆက်ကန်တော့ခဲ့ပါတယ်ဘုရား"

မယ်တော်ကြီးသည် ဤသို့ နောက်ဆုံးစကား ပြောကြားပြီး မျက်ရည်စက်လက်ဖြင့် ထွက်လာခဲ့ရလေသည်။ ထိုအခါမှစ၍ ဗိမ္ဗိသာရမင်းကြီးသည် မည်သည့် အာဟာရမျှ မစားရတော့ဘဲ မဂ်ချမ်းသာ ဖိုလ်ချမ်းသာဖြင့် စင်္ကြံလျှောက်ပြီး နေလေသည်။ ယင်းသို့ စင်္ကြံလျှောက်နေသောကြောင့် အသက်မသေသည့်အပြင် ခန္ဓာကိုယ်က ပို၍ ကျန်းမာနေသဖြင့် အဇာတသတ်က-

"မင်းချင်း ယောကျ်ားများ၊ ငါ့ကိုယ်တော်မြတ်ရဲ့ ခမည်းတော် အခြေအနေကို သံတော်ဦး တင်ကြစမ်း"

"မှန်လှပါ အရှင်မင်းကြီး၊ ခမည်းတော်ကြီးသည် အချိန်ပြည့် စင်္ကြံသွားနေခြင်းကြောင့် ခန္ဓာကိုယ်တော်သည် ခါတိုင်းထက်ပင် ကြည်လင်လျက် ရှိနေကြောင်းပါဘုရား"

"ဩော. . . ဒီလိုလား။ ကောင်းပြီလေ ဒါဆိုရင် ခမည်းတော်ရဲ့ ခြေဖဝါးကို ဓါးနဲ့ခွဲ၊ ဆားနဲ့သိပ်၊ ရှားမီးခဲ ရဲရဲဖြင့် ကင်ကြစေဗျား"

ဤသို့ အမိန့်ပေးပြီး ဆတ္တာသည်များကို စေလွှတ်လိုက်လေသည်။ ဗိမ္ဗိသာရ မင်းကြီးသည် ဆတ္တာသည်များကို မြင်သောအခါ "ဩော်. . . သားတော်ကို တစ်စုံတစ်ယောက်က ဖျောင်းဖျ ပြောဆိုလို့ သဘောပေါက်ပြီး ငါ့ကိုလွှတ်ဖို့ ဆတ္တာသည်တွေကို လက်ဦး စေလွှတ်လိုက်တာ ထင်တယ်။ အင်း. . ဟုတ်ပါရဲ့။ မုတ်ဆိတ်မွေးတွေတောင် အတော်လေး ရှည်နေပြီပဲ" ဟု စဉ်းစားပြီး "အမောင် ဆတ္တာသည်တို့ ဘာကြောင့်

လာကြတာလဲကွယ့်" ဤသို့ မေးမြန်းတော်မူသောအခါ ဆတ္တာသည်များက အကြောင်းစုံ လျှောက်ထားလိုက်ကြလေသည်။

"အမောင် ဆတ္တာသည်တို့ . . ဒီလိုဆိုရင် သင်တို့ဘုရင် ခိုင်းစေတဲ့ အတိုင်း အလိုရှိသလိုသာ ဆောင်ရွက်ကြပေတော့ဗျား" ဟု ခွင့်ပြုလိုက်သောအခါ "မှန်လှပါ အရှင်မင်းကြီးဘုရား ကျွန်တော်မျိုးတို့ကို အမျက်ထွက်တော် မမူပါနှင့်။ ဘုရင့် အမိန့်ကြောင့် တာဝန်အရ ဆောင်ရွက်ရမှာပါဘုရား။ အမှန်တကယ်ဆိုရင် ဒီအမှုမျိုးဟာ အရှင်မင်းကြီးတို့ကဲ့သို့သော တရားမင်းများနှင့် အလျှင်းပင် မလျောက်ပတ်တဲ့ ကိစ္စရပ်တစ်ခုဖြစ်ပါတယ်ဘုရား။ ဒီအမှုကို မဆောင်ရွက်လို့ဘူးဆိုရင်လည်း ကျွန်တော်မျိုးတို့၏ အသက်အိုးအိမ် စည်းစိမ်ဥစ္စာတွေပါ ပျက်စီး ပျောက်ကွယ်သွားနိုင်တာကြောင့် အမိန့်တော်ကို မလွန်ဆန်ရဲတဲ့အတွက် ဆောင်ရွက်ကြရမှာမို့ ခြေဆင်းပြီးတော့သာ ထိုင်တော်မူပါတော့ဘုရား"

ဆတ္တာသည်တို့သည် ဗိမ္ဗိသာရမင်းကြီး၏ ခြေဖမျက်ကို ကိုင်ပြီး သင်တုန်းဓါးဖြင့် ခွဲလိုက်ကြလေသည်။ ခွဲပြီးသောနေရာကို ဆားဖြင့်သိပ်၏။ မင်းတရားကြီး ဆတ်ဆတ်တုန်အောင် နာကျင် နေချိန်တွင် ရဲရဲတောက်နေသော ရှားမီးခဲတို့ဖြင့် ကင်ကြသည်။ မင်းတရားကြီးသည် ဝေဒနာ ပြင်းထန်စွာ ခံစားနေရသော်လည်း "မြတ်စွာဘုရားသည် တစ်ထောင့်ငါးရာ ကိလေသာတို့၊ ဝါသနာ ငွေ့၊ အထုံငွေ့မျှ မငွေ့မရိပ်၊ ဝင်းဝင်းဖိတ်သို့၊ ရွှေစိတ်ပျံ့သင်း၊ လွန်သန့်ရှင်း၍၊ မင်းမင်းပြည်သူ၊

ကြည်ဖြူကော်ရော်၊ အလှူတော်မှန်၊ အပူဇော်ကို ခံတော်မူ ထိုက်ပါပေသည်တကား။

"တရားတော်သည်၊ ကြားနာရုံပင်၊ အပူစင်၍၊ ကျင့်လျှင် ချမ်းသာ၊ ကျင့်ပြီးခါလည်း၊ လွန်စွာငြိမ်းချမ်း၊ နိဗ္ဗာန်နန်းနှင့်၊ စခန်းသင့်အောင်၊ မှန်းလင့်ရည်ရော် ကောင်းမွန်စွာ ဟောကြား တော်မူခဲ့သော 'သွာက္ခာတဂုဏ်'နှင့် ပြည့်စုံတော်မူပါပေသည် တကား။

"သံဃာတော် အရှင်မြတ်တို့သည် နတ်ရွာနိဗ္ဗာန်ကို အာရုံပြု၍ လှူဒါန်းအပ်သော မြတ်သော အလှူကို ခံတော်မူ ထိုက်ကြပါပေ၏။ တစ်လောကလုံး၊ ကိုင်းညွတ်ရုံးလျက်၊ ရွှင်ပြုံးကြည်ညို၊ ရိုသေမြတ်နိုး၊ လက်အုပ်မိုး၍ ရှိခိုးခြင်းကို ခံယူ တော်မူထိုက်ကြပါပေ၏။ ဘုရား . . . တရား . . . သံဃာ . . . ရတနာမြတ်သုံးပါးတို့အား . . . တပည့် . . . တော် . . . ရှိ . . . ခိုး . . . ကန် . . . တော့ . . . ပါသည် . . . ဘု . . . ရား . . ."

ဤသို့ ရတနာမြတ်သုံးပါး၏ ဂုဏ်တော်တို့ကို တစ်လုံး ချင်း အောက်မေ့ ဆင်ခြင်လျက် နတ်ရွာစံတော်မူလေသည်။ (စတုမဟာရာဇ်နတ်ပြည်၌ ဝေဿဝဏ်နတ်မင်းကြီး၏ အလုပ် အကျွေးဖြစ်သော 'ဇဝနသဘ' အမည်ရှိသည့် နတ်သား ဖြစ်လေ သည်။)

ခမည်းတော်မင်းကြီး နတ်ရွာစံသော အချိန်တွင် ဘုရင် အဇာတသတ်၏မိဖုရားကလည်း သားတော်လေးတစ်ယောက်

ဖွါးမြောက်လေသည်။ နန်းတွင်းမှာ နာရေးနှင့် သာရေးသတင်း စုံဆင်းပေါ်ထွက်နေပေရာ နာရေးကို နောက်ထား၍ သား ဖွားခြင်းသတင်းကို ဦးစွာပထမ တင်ပြလျှောက်ထားကြသော အခါ အဇာတသတ်၏ ကိုယ်ခန္ဓာ၌ သားတည်းဟူသော ချစ် ခြင်းမေတ္တာသည်တစ်ကိုယ်လုံးကို ပျံ့နှံ့ချောက်ချားလျက် ရိုး တွင်းခြင်ဆီသို့ တိုင်အောင် စိမ့်ဝင်သွားလေသည်။

သားတည်းဟူသောချစ်ခြင်းမေတ္တာက ရာဇဏ္ဍန္ဓြေပျက် လောက်အောင် ရိုက်ပင့်ပေးလိုက်သောအခါ အဇာတသတ် ၏ နှလုံးသား အမှောင်ထဲမှာ ဖခင်ကြီးကို လျှပ်စီးလက်လိုက် သလို ဝင်းခနဲ မြင်လိုက်ရ၏။ "သြော်. . . ခမည်းတော်၊ ခမည်း တော် ငါ့ကို မွေးတုန်းကလည်း ဒီလိုချစ်ရှာမှာပဲ"ဟု စဉ်းစားပြီး၊ သားတစ်ယောက်ရမှ အဘ၏ မေတ္တာကို နားလည်လာသဖြင့် "မင်းချင်းတို့ . . . ငါ့ခမည်းတော်ကို အမြန်လွှတ်လိုက်ကြ"ဟူ၍ အမိန့်ပေးလေသည်။ ထိုအခါ အမတ်များက ခမည်းတော်ကြီး နတ်ရွာစံ ကံတော်ကုန်ကြောင်း သဝဏ်လွှာကို ဆက်သလိုက် ကြရာ ဘုရင်အဇာတသတ် အစအဆုံး ဖတ်ရှုပြီးသည်နှင့် အသည်းနှလုံးများ ဆတ်ဆတ်ခါပြီး ငိုကြွေး မြည်တမ်းရင်း မယ်တော်ထံသို့ သွား၍ မေးမြန်းလေသည်။

"မယ်တော်ဘုရား . . သားရဲ့ခမည်းတော်ဟာ သား အပေါ်မှာ ချစ်ခြင်းမေတ္တာ ရှိခဲ့ပါရဲ့လားဘုရား"

"မိုက်လိုက်ပါဘိ သားရယ်၊ မင်းဘယ်လိုများ ပြော လိုက်တာလဲ၊ မင်းဖခင်ဟာ မင်းအပေါ် ဘယ်လောက်ချစ်သလဲ

ဆိုတာ ပြောရမယ်ဆိုရင် မင်းငယ်ငယ်က လက်မှာ အနာပေါက်တယ်လေ၊ အနာက ကိုက်ခဲလို့ သားအငိုမတိတ်နိုင်တဲ့အတွက် တရားရုံးမှာ အလုပ်တစ်ဖက်နဲ့ ဗျာများနေတဲ့ မင်းဖခင်ထံကို ပို့ပေးလိုက်ရတယ်။ မင်းဖခင်ဟာ သားရဲ့ အနာပေါက်နေတဲ့ လက်ကို ပါးစပ်နဲ့ ငုံထားရှာတယ်။ အဲသလို ငုံထားရင်းကနေ အနာက ပြည်ပေါက်သွားတော့ အိပ်ပျော်နေတဲ့ သား နိုးသွားမှာစိုးလို့ သွေးပြည်တွေကို -ထွေးမထုတ်ဘဲ မျိုချရှာတယ်။ အဲဒါ မင်းဖခင် မင်းအပေါ် ချစ်ခဲ့တဲ့ အပိုင်းအစ တစ်ခုပဲကွယ့်။ မင်းအရွယ်ရောက်တော့ ဒီမင်းစည်းစိမ်ကို လိုချင်ပါတယ် ဆိုတုန်းကလည်း မျက်နှာတစ်ချက် မပျက်ဘဲ လွယ်လွယ်လေးနဲ့ လွှဲပေးခဲ့တာပဲ မဟုတ်လား"

အဇာတသတ်သည် မယ်တော့်ထံမှ စကားသံများကြားရသောအခါ ယူကျုံးမရဖြစ်ပြီး ငိုကြွေးမြည်တမ်းရင်း ခမည်းတော်၏ ရုပ်ကလာပ်ကို ကောင်းမွန်စွာ သဂြိုဟ်လေသည်။ အမိုးအကာ မရှိသော အိမ်တွင်းသို့ မိုးရည်မိုးပေါက်များ ဝင်ရောက်လာကြသောအခါ တစ်အိမ်လုံး စိုစွတ် ဆွေးမြေ့ပြီး ပျက်စီးရသကဲ့သို့ အရှင်ဒေဝဒတ်၏ လောဘကြောင့် အဇာတသတ်သည် ပိတုဃာတက ကံဟူသော အဘကိုသတ်သည့် ပဉ္စာနန္တရိယ ကံကြီးကို ကျူးလွန်လိုက်ရပါလေပြီ။

ဗုဒ္ဓ၏ကျောင်းဒကာဖြစ်သော လူ့အရိယာသူတော်ကောင်း ဖခင်ဘုရင်ကြီး ဗိမ္ဗိသာရသည်လည်း 'လူ့သမိုင်းတွင် အချစ်ဆုံး သားက သတ်ဖြတ်သည်' ဟူသော အမည်းစက်

ကြီးက လောကအတွင်း၌ ထင်ကျန်သွားခဲ့ပါလေပြီ။

မိခင်ကြီးကလည်း ခမည်းတော် စိတ်ကြောင့်ပင် နတ်ရွာစံခဲ့သောကြောင့် အဇာတသတ်၏ အနီး၌ အကောင်းအဆိုးကို ဝေဖန်ပိုင်းခြားပေးမည့်သူ မရှိတော့ဘဲ အရှင်ဒေဝဒတ်သာလျှင် အနီးအနားမှာ ရှိနေသောကြောင့် ဖွပ်သည်ထက် ညစ်ရန်ပင် အကြောင်း ရှိလေတော့သည်။

# အခန်း(၃)

**အရှင်ဒေဝဒတ်၏ ဆန္ဒ**

အရှင်ဒေဝဒတ်သည် 'နေမြင့်လေ၊ အရှူးရင့်လေ'ဟူသော စကားကဲ့သို့ လာဘ်လာဘနှင့် ထင်ပေါ်ကျော်ကြားလိုမှုတို့သည်လည်း တစ်နေ့တခြား ပို၍ပို၍ ဆိုးရွားလာလေသည်။ ဗိမ္ဗိသာရမင်းတရားကြီး နတ်ရွာစံပြီးသောအခါ နန်းတွင်းသို့ ရောက်လာခဲ့ပြီး . . .

"မင်းမြတ်၊ မင်းမြတ်ရဲ့ အလိုဆန္ဒကတော့ ပြည့်ဝသွားပြီ။ ဘုန်းကြီးရဲ့ အလိုဆန္ဒပဲ ကျန်တော့တယ်။ အဲဒီဆန္ဒ ပြည့်ဝရေးအတွက် အသင်မင်းမြတ်ရဲ့ အကူအညီတွေ လိုအပ်တယ်"

"အရှင်ဘုရားရဲ့ ဆန္ဒက ဘာပါလဲဘုရား။ အမိန့်ရှိတော်မူပါ။ ဒကာတော်အလွယ်တကူပင် ကူညီပါမည်ဘုရား"

အရှင်ဒေဝဒတ်၏ လာဘ်ပူဇော်သကာ အကျော်အစော မက်မောမှု လောဘနှင့် ဗုဒ္ဓအပေါ် ထားရှိသော ဒေါသ ရန်ငြိုးကား အတွင်း၌ ပုပ်ဆွေးသော အနာကဲ့သို့ တဖြည်းဖြည်း လိုဏ်ဖွဲ့ကာ ခန္ဓာကိုယ် တစ်ခုလုံး အရည်ပျော်အောင် လှိုက်၍ စားနေလေသည်။ (ဗုဒ္ဓကို ဘယ်နည်းနဲ့ သေအောင် သတ်ရမလဲ-ဟု အမြဲ တွေးတောနေလေသည်။) ဗုဒ္ဓကို သတ်ဖြတ်ရန်ကိစ္စ၌ မင်းမြတ်ကပါ သူ့ကိစ္စကို ကူညီမည်ဟု ဆိုသဖြင့် ဝမ်းမြောက်ဝမ်းသာဖြစ်ကာ-

"မင်းမြတ်၊ ဘုန်းကြီးအလိုဆန္ဒကတော့ ဂေါတမဗုဒ္ဓကို သတ်ဖြတ်ရေးအတွက် လက်ဖြောင့်လေးသည်တော်များ အလို ရှိတယ်။ အမြန်သာ စေလွှတ်ပေးပေရော့ ဒကာတော်မင်းကြီး"

"ကောင်းပါပြီဘုရား"

## အရှင်ဒေဝဒတ်၏ သတ်ဖြတ်ရေးလမ်းညွှန်

အဇာတသတ်မင်းသည် လေးသည်တော် ငါးရာတို့ကို စုဝေးစေပြီး လက်ရွေးစင်အဖြစ် လေးသည်တော် သုံးဆယ့်တစ် ယောက် ရွေးချယ်ကာ အရှင်ဒေဝဒတ်ထံသို့ စေလွှတ်လိုက်ပါ သည်။ အရှင်ဒေဝဒတ်သည် ထိုလေးသမားတို့၏ အကြီးအကဲ ဖြစ်သူကို ခေါ်ပြီး လုပ်ကြံရမည့် အခြေအနေအားလုံး ညွှန်ကြား ပြောဆိုလေသည်။

အရှင်ဒေဝဒတ်၏ ညွှန်ကြားချက်ထဲတွင် ခေါင်းဆောင် လုပ်သူ လက်ဖြောင့်လေးသမားကြီးက ဂိဇ္ဈကုဋ်တောင်၌ သီတင်း သုံးတော်မူသော ဗုဒ္ဓအား အသက်သေရန် အဆိပ်လူး မြားဖြင့် ပစ်ပြီး ပြန်လာခဲ့ရန်၊ ပြန်လာခဲ့သော လေးသည်တော် ကြီးကို နှစ်ယောက်က စောင့်၍ သတ်ရန်၊ အဆိုပါ နှစ်ယောက် အား လေးယောက်က စောင့်သတ်ရန်၊ လေးယောက်ကို ရှစ် ယောက်က စောင့်သတ်ရန်၊ ရှစ်ယောက်ကို တစ်ဆယ့်ခြောက် ယောက်က စောင့်သတ်ရန်-စသည်ဖြင့် ဆင့်ကဲမှာကြား ထား လေသည်။ ပြစ်မှု မပေါ်အောင် ဆင့်ကဲဆင့်ကဲ နှုတ်ပိတ်လိုက် ခြင်း ဖြစ်၏။ (မြတ်စွာဘုရားကို အရှင်ဒေဝဒတ်က သတ်ဖြတ်

ကြောင်း သတင်း မပေါက်ကြားရန် စီစဉ်ခြင်း ဖြစ်၏။)

အကယ်၍ သိသွားလျှင် ကြည်ညိုမှု ပျက်ပြားပြီး မိမိ မက်မောသော စားဝတ်နေရေး၊ လာဘ်လာဘ၊ ထင်ပေါ်ကျော် ကြားမှုတို့နှင့် ဝေးကွာသွားမည်ကို ကြိုတင်တွက်ချက်ထားပြီး နောက်မဆုတ်သော သတ္တိဖြင့် ပိပိရိရိ ကြံစည်ခြင်းဖြစ်၏။

သို့သော် ဗုဒ္ဓလို ပုဂ္ဂိုလ်မြတ်ကြီးမျိုးအတွက် ဟာသ ပြကွက် တစ်ခုသာ ဖြစ်၏။ ကြည့်ပါဦး . . .

## ဗုဒ္ဓနှင့် လေးသမားများ။

လေးသမားကြီးက လေးကိုတင်၍ မြားကို ပြင်ကာ အားကုန်ဆွဲပြီး ပစ်လွှတ်လိုက်မည် ပြုသောအခါ ပစ်လွှတ်၍ မရတော့ဘဲ တန်းလန်းကြီး ဖြစ်နေလေသည်။ မြားကို ပြန်ချ သော်လည်း မရ။ လက်ကလည်း လှုပ်၍ မရတော့ဘဲ ကျောက် ရုပ်ကြီးလို ဖြစ် နေသည်။ ယင်းသို့ ဖြစ်နေသည်ကို မြတ်စွာ ဘုရားက သိမြင်တော်မူသဖြင့် "အို . . ဒကာ၊ မကြောက်ပါလင့်၊ ငါ့ထံသို့ လာခဲ့လော"ဟုမိန့်တော်မူလိုက်သောအခါ လေးသမား ကြီး လေးကို ချနိုင်ပြီး ယင်းလေးကို စွန့်ပစ်ကာ မြတ်စွာဘုရား ထံသို့ အပြေးလာလျက် ခြေတော်ရင်းတွင် ကန်တော့လေ သည်။

"မြတ်စွာဘုရား . . သည်းခံတော်မူပါ။ တပည့်တော် သည် မိုက်မဲတွေဝေ၍ မလိမ္မာသည့်အလျောက် ဤအပြစ်ကို ကျူးလွန်မိပါသည်ဘုရား။ သူတစ်ပါး ကျေးဇူးတရားကို မသိ

တတ်သည့် အရှင်ဒေဝဒတ်၏ စကားကို နားထောင်မိပြီး ရှင်တော်မြတ်ဘုရားကို သတ်ရန် လာခဲ့ခြင်းဖြစ်ပါသည်ဘုရား။ ဤအမှုအားလုံး အရှင်ဒေဝဒတ်၏ အကြံအစည်သာ ဖြစ်ပါသည် မြတ်စွာဘုရား"

မြတ်စွာဘုရားသည် လေးသမားကြီး လျှောက်ထားသော စကားကို သည်းခံတော်မူပြီး တရားဟောတော်မူလေရာ ဒေသနာတော်၏ အဆုံး၌ လေးသမားကြီး သောတာပတ္တိဖိုလ် တည်လေသည်။ သောတာပတ္တိဖိုလ် တည်ပြီးသောအခါ ဗုဒ္ဓက လာသည့် လမ်းအတိုင်း မပြန်ခိုင်းဘဲ အခြားလမ်းက ပြန်ရန် မိန့်တော်မူလေသည်။ လေးသမားကြီးလာလျှင် လုပ်ကြံရန် စောင့်နေကြသော လေးသမားနှစ်ဦးက "အင်း. . . လေးသမားကြီး ပြန်လာဖို့ အချိန်တန်ပြီ။ ဘာကြောင့် ပြန်မလာသေးတာလဲ"ဟု စဉ်းစားပြီး လိုက်လာကြသောအခါ မြတ်စွာဘုရားကို ဖူးတွေ့ကြရသဖြင့် တရားကို နာယူ၍ သောတာပတ္တိဖိုလ်သို့ ရောက်ကြပြန်လေသည်။

သောတာပန်ဖြစ်ပြီးသောအခါ ဗုဒ္ဓကလာသည့် လမ်းအတိုင်း မပြန်ခိုင်းဘဲ အခြားလမ်းက ပြန်ကြရန် မိန့်တော်မူလိုက်သည်။ လေးသမားကြီး အန္တရာယ်ကင်းစွာဖြင့် ရောက်ရှိလာပြီး အရှင်ဒေဝဒတ်အား "အရှင်ဘုရား၊ မြတ်စွာဘုရားကို သတ်ရန် မလွယ်ကူပါဘုရား။ မြတ်စွာဘုရားသည် တန်ခိုးအာနုဘော်ကြီးမားလှပါသည်ဘုရား" ဟု လျှောက်ထားလိုက်သောအခါ အရှင်ဒေဝဒတ်က "ကောင်းပြီ၊ ဒါဆိုရင် မင်းတို့ မသတ်နဲ့။

ငါကိုယ်တိုင် သတ်မယ်”ဟု ကြိမ်းဝါး ပြောဆိုလေသည်။

အရှင်ဒေဝဒတ်သည် လူမသိ သူမသိအောင် တိတ်တိတ်ပုန်း စီစဉ်ခဲ့သော်လည်း မောင်းကြေးနင်း ခတ်လိုက်သကဲ့သို့ တစ်မြို့လုံး အုန်းအုန်းကျွက်ကျွက်ဖြစ်သွား၏။ “အရှင်ဒေဝဒတ်က အဇာတသတ်ထံ လေးသည်တော်များအလျှုခံပြီး ဗုဒ္ဓကိုသေကြောင်း ကြံသတဲ့ကွာ”ဟူ၍ တစ်မြို့လုံး အော်ဟစ် ပြောဆိုကြလေသည်။

## စန္ဒကုမာရဇာတ်

ရဟန်းတို့ကလည်း “အရှင်ဒေဝဒတ်ဟာ မိမိတစ်ဦးတစ်ယောက် ကောင်းစားရေးအတွက် အသက်ပေါင်း များစွာ သေကြေ ပျက်စီးအောင် ကြံရက်ပါပေရဲ့”ဟု ပြောဆိုနေကြသောအသံကို ဘုရားရှင် ကြားသိတော်မူလေသောအခါ “ဒေဝဒတ်ဟာ တစ်ယောက်ကောင်းစားရေးအတွက် အသက်ပေါင်းများစွာ သေကြေ ပျက်စီးစေခဲ့တာ ဒီဘဝ၌သာ မဟုတ်သေး။ ဟိုရှေးရှေးဘဝတွေတုန်းကလည်း ကြံစည် လုပ်ကိုင်ခဲ့ဖူးတယ်”ဟု မိန့်တော်မူပြီး ‘စန္ဒကုမာရဇာတ်’ကို ဟောကြားတော်မူလေသည်။

စန္ဒကုမာရဇာတ်တော်၌ အရှင်ဒေဝဒတ်အလောင်း ‘ခဏ္ဍဟာလပုရောဟိတ်’က တံစိုးလက်ဆောင် မစားရခြင်းကြောင့် ဘုရားအလောင်း ‘စန္ဒကုမာရမင်းသား’အား ရန်ငြိုးဖွဲ့ပြီး မင်းသား မင်းသမီးများကိုသတ်၍ ယဇ်နတ်ပူဇော်ရန် အကြံပြု

ခဲ့သော ဇာတ်လမ်းဖြစ်သဖြင့် ဘုရားအလောင်းတော်နှင့် တွေ့ရသည့်ဘဝတိုင်း အရှင်ဒေဝဒတ်၏ ဒေါသက အထွတ်အထိပ်သို့ပင် ရောက်ခဲ့ရ၏။

ယခုဘဝသို့ ရောက်သောအခါ၌လည်း လေးသမားသုံးဆယ်ကျော်ဖြင့် သတ်ရန် စီစဉ်ခဲ့သော်လည်း ယခင် အစီအစဉ်မအောင်မြင်ခြင်းကြောင့် ကိုယ်တိုင် သတ်ရန် အားထုတ်လေတော့သည်။ မြတ်စွာဘုရားရှင်သည် အရှင်ဒေဝဒတ်က လုပ်ကြံရန် စီစဉ်နေသည်ကို သိတော်မူပါ၏။ သိပင် သိငြားသော်လည်း အခြားကျောင်းသို့ ပြောင်းရွှေ့တော်မမူဘဲ ဂိဇ္ဈကုဋ်တောင် အရပ်ရှိ ကျောင်းငယ်၌ပင် သီတင်းသုံး နေထိုင်တော်မူလေသည်။

စင်္ကြံ ကြွမည့်အချိန်၊ ဆွမ်းခံချိန်တို့ကို ပုံမှန်အတိုင်း ဆောင်ရွက် သီတင်းသုံးတော်မူ၏။

## အရှင်ဒေဝဒတ်၏ လုပ်ကြံမှု

တစ်နေ့သောအခါ မြတ်စွာဘုရားသည် ဂိဇ္ဈကုဋ်တောင် ကျောင်းလေးအနီးတွင် စင်္ကြံ ကြွနေတော်မူ၏။ ထိုအခါ အရှင်ဒေဝဒတ်သည် ဂိဇ္ဈကုဋ်တောင်ပေါ်သို့ တက်ပြီး အိမ်လုံးခန့် ပမာဏရှိသော ကျောက်တုံးကြီးကို ကုတ်ဖြင့် ကော်၍ 'ယောက်ဖ တော်စပ်ခဲ့ရသည့် ဗုဒ္ဓ၊ မှုန့်မှုန့်ညက်ညက် ဖြစ်ရောလဟယ်'ဟုကြံစည်ပြီး ဗုဒ္ဓအပေါ်သို့ ပစ်ချလိုက်လေသည်။

သို့သော် မြတ်စွာဘုရားရှင်တို့၏ အသက်တော်ကို

တစ်စုံတစ်ယောက်သောသူ၏ လုံ့လပယောဂဖြင့် အသက်အန္တရာယ် ဖြစ်နိုင်စရာ အကြောင်းမရှိပါ။ ထို့ကြောင့် ရှေးရှုကျလာသော ကျောက်တုံးကြီးကို အသက်မရှိသည့် တောင်ထွတ် နှစ်ခုတို့ကပင် အညီအညွတ် ခံပေးကြရ၏။

သို့ပါသော်လည်း အရှိန်ပြင်းစွာ ကျရောက်လာသော ကျောက်တုံးကြီးကို အောက်က ခံရသဖြင့် ကျောက်ချပ်လွှာ တစ်ခု ကွာထွက်လာခဲ့ပြီး မြတ်စွာဘုရား၏ ခြေဖမိုးတော်ကို ထိမှန်လေသည်။ ဗုဒ္ဓ၏ ခြေဖမိုးတော်သည် တူဖြင့် ထုလိုက်သကဲ့သို့ အတွင်းကြေ ကြေကာ သွေးစိမ်းတော်များ ရဲရဲနီလာလေတော့သည်။ (ဘုရားရှင်၏ ကိုယ်ကာယကား မပြိုမကွဲ မပျက်စီးနိုင်သောကြောင့် အသားအရေတော် စုတ်ပြတ် အက်ကွဲ၍ သွေးသံရဲရဲ မရှိချေ။)

ဗုဒ္ဓသည် ကျောက်ချပ်လွှာဖြင့် မိမိဖမိုးကို ထိမှန်လာခြင်းကြောင့် အထက်သို့ မော့ကြည့်တော်မူပြီး အရှင်ဒေဝဒတ်အား ဤသို့ မိန့်ကြားတော်မူလိုက်သည်။

"အို. . . မင်ဖိုလ်မနီး အချည်းနှီးသော ယောကျ်ား၊ သင်သည် ငါဘုရားအား အသက်သေစေလိုသော စိတ်စေတနာဖြင့် ကျောက်မောင်းဆင်၍ လုပ်ကြံခဲ့၏။ ဤသို့ ပြုခြင်းကား အကုသိုလ်မှန်သမျှကို ပြုပြီးသည် မည်တော့၏။ ယုတ်မာမိုက်မဲလေစွတကား"

ဗုဒ္ဓ ဤသို့ မိန့်ကြားတော်မူပြီးသည့် နောက်၌ ရဟန်းသံဃာတော်များ ရောက်ရှိလာကြသဖြင့် ထပ်ဆင့် မိန့်ကြား

တော်မူလေသည်။

"ရဟန်းတို့. . . ဒေဝဒတ်သည် ငါဘုရားကို သေစေလိုသော စိတ်စေတနာဖြင့် သွေးစိမ်းတည်အောင် ပြုလေ၏။ ဤ အမှုသည် စုတိ၏ အခြားမဲ့၌ မကောင်းကျိုးပေးတတ်သော အနန္တရိယကံကို ရှေးဦးစွာ ပြုခြင်းပင် ဖြစ်တော့၏"

ဤသို့ မိန့်ကြားတော်မူပြီးသောအခါ ရဟန်းသံဃာတော်များက ဗုဒ္ဓကို ဖေးမလျက် ကျောင်းတွင်းသို့ ပင့်ဆောင်ပြီး ပြုစုကြလေသည်။ ဗုဒ္ဓသည် သတ္တဝါတို့အပေါ်၌ သနားငဲ့ညှာတော်မူသော မဟာကရုဏာတော် စိတ်ဖြင့် လေးသချေ်နှင့် ကမ္ဘာတစ်သိန်းကြာအောင် မိမိဘဝကို စွန့်လွှတ် အနစ်နာခံ၍ သတ္တဝါတို့ အကျိုးစီးပွားကို သယ်ပိုးတော်မူခဲ့ရသော်လည်း အရှင်ဒေဝဒတ်ကဲ့သို့သော မစွန့်ဘဲ စားလိုသူနှင့် တွေ့ရသောအခါ ဘုရားဖြစ်တော်မူသည့် ဘဝမှာပင် လုပ်ကြံခြင်း ခံရတော်မူလေသည်။ ဝဋ်ရှိ၍ ခံရသော်ငြားလည်း လူပေါ်ခွေးခွသော ဖြစ်ရပ်ကြီးကား အသည်းယားစရာ ကောင်းလှ၏။

ခန္ဓာကိုယ်တစ်ခုလုံး မစင်ဖုံး၍ မကောင်းနံ့ ထွက်နေသော ချေးစားဝက်က သားတို့သေဌ်နင်း ခြေသေ့်မင်းကို ယှဉ်ပြိုင်ရန် စိန်ခေါ်လာသောအခါ 'ဇယံ သမ္မ ဒဒါမိ တေ- သင့်အားအောင်မြင်ခြင်းကို အလွယ်တကူ ပေးပါ၏'ဟု သူတော်ကောင်းစိတ်ဖြင့် ခွင့်လွှတ် သည်းခံတော်မူရသော်လည်း မစင်ကို စား၍ မစင်ကို လိမ်းကျံပြီး အာဇာနည် သူတော်ကောင်းကြီးကို အနိုင်ယူသည်မှာ အလွန်လည်း ရွံစရာကောင်းလှပေတော့သည်။

ဤလုပ်ကြံသော အမှုကြီးကို ကြားသိသော ရဟန်းသံဃာတို့သည်လည်း မြတ်စွာဘုရား၏ အနီးအနားသို့ စုဝေးရောက်ရှိ လာကြပြီး ဝန်းရံစောင့်ရှောက်ကြသောအခါ အရှင်ဒေဝဒတ်ကလည်း သူ့ပရိသတ်နှင့်အတူ ရောက်ရှိလာခဲ့၏။ ဤကိစ္စသည် သူနှင့် မည်သို့မျှမပတ်သက်သလို ဣန္ဒြေဆည်လိုက်ခြင်းဖြစ်၏။ လင်ယောကျ်ားကို အဆိပ်ခတ်သတ်ပြီး လင်ငယ်နှင့် ပျော်ပါးလိုသော မိန်းမယုတ်သည် ယောကျ်ားအလောင်းကို ဖက်၍ဖက်၍ ငိုသကဲ့သို့ အကုသိုလ် ကြီးကြီးမားမား ပြုသောသူတို့သည်လည်း ဟန်ဆောင်ကောင်းတတ်ကြ၏။

ဤပြစ်မှုကို လုပ်လိမ့်မည်-ဟု ထင်ရက်စရာ မရှိအောင် သရုပ်ဆောင် ကောင်းတတ်ကြ၏။ သို့သော် သူတစ်ပါးစိတ်ကို သိတော်မူကြသော ဘုရား-ရဟန္တာ၊ နတ်ဒေဝတာတို့နှင့် မိမိကိုယ်ကို ဘယ်သို့ ညာမည်နည်း။

## ဓါတ်တူသူနှင့် မတူသူ

ပုထုဇဉ် ရဟန်းတို့သည် သူတစ်ပါးစိတ်ကို သိတတ်သည့် ဉာဏ်မရှိကြသော်လည်း အရှင်ဒေဝဒတ်၏ လုပ်ရပ်တို့ကို အကြိမ်ကြိမ် အခါခါ တွေ့မြင်ရသောကြောင့် အရှင်ဒေဝဒတ်အား ဗုဒ္ဓ၏ အနီးအနားသို့ ချဉ်းကပ်မလာစေရန် မောင်းထုတ်လိုကြသော်လည်း ဗုဒ္ဓကို ရိုသေလေးစားကြသည်က တစ်ကြောင်း၊ ဆင်ပြောင်ငါးစီးအား ရှိသော အရှင်ဒေဝဒတ်ကို မယှဉ်ဝံ့ကြသည်က တစ်ကြောင်းကြောင့် မျက်နှာမသာမယာ

ဖြင့် အံကြိတ်၍သာ နေကြရလေသည်။

အရှင်သာရိပုတ္တရာ၊ အရှင်မောဂ္ဂလ္လာန်-စသော ရဟန္တာမထေရ်ကြီးတို့သည် အရှင်ဒေဝဒတ်၏ လုပ်ရပ်ကို သိရှိတော်မူကြသော်လည်း စကားတစ်ခွန်းမျှ မိန့်ကြားတော် မမူကြဘဲ နောက်ထပ် မကျူးလွန်နိုင်စေရန်သာ တပည့်ပရိသတ်တို့နှင့်အတူ ဝန်းရံ စောင့်ရှောက်တော်မူကြလေသည်။

အရှင်မဟာကဿပ၊ အရှင်အနုရုဒ္ဓါ၊ အရှင်ပုဏ္ဏ၊ အရှင်ဥပါလိ၊ အရှင်အာနန္ဒာတို့သည်လည်း တပည့်ပရိသတ်များနှင့်အတူ ဝန်းရံတော်မူကြ၏။ အချို့က စကြံလျှောက်နေကြသည်။ ယင်းသို့ အုပ်စုအလိုက် စောင့်ရှောက်ကြသောအခါ တန်ခိုးအရာ၊ ပညာအရာ၊ ဓုတင်ဆောင်သောအရာ၊ ဒိဗ္ဗစက္ခု ဈာန်အဘိညာဉ် အရာတို့တွင် အသီးသီး စွမ်းဆောင်တော်မူနိုင်ကြသော သံဃာ့ပရိသတ်များကို သီးခြားစီ ဖူးတွေ့ရသကဲ့သို့ အလိုဆိုးရှိသော အရှင်ဒေဝဒတ်၏ ပရိသတ်တို့ကိုလည်း တစ်သီးပုဂ္ဂလအဖြစ် မြင်တွေ့ကြရသဖြင့် ဗုဒ္ဓက ဤသို့ မိန့်ဟတော်မူလေသည်။

"ရဟန်းတို့. . . သတ္တဝါတို့သည် အဇ္ဈာသယ(ကိုယ်တွင်း အခံဓါတ်)ဖြင့် ရောနှော ပေါင်းဖော်မိကြကုန်၏။ ညီညွတ်ကြကုန်၏။ ယုတ်မာသော နှလုံးသွင်း ရှိကြကုန်သော သူတို့သည် ယုတ်မာသော နှလုံးသွင်းရှိသူတို့နှင့်သာ ရောနှော ပေါင်းဖော်မိကြကုန်၏။ ညီညွတ်ကြကုန်၏။ ကောင်းသော နှလုံးသွင်း ရှိကြကုန်သော သူတို့သည် ကောင်းသော နှလုံးသွင်းရှိကြ

ကုန်သော သူတို့နှင့်သာ ရောနှော ပေါင်းဖော်မိကြကုန်၏။ ညီညွတ်ကြကုန်၏"

ဤဒေသနာတော်ကို ထောက်ရှုသောအားဖြင့် မည်သည့်ကိစ္စ၌ မဆို ဓါတ်တူချင်းသာ ပေါင်းဖော်နိုင်ကြကြောင်း ထင်ရှား လှ၏။ သာသနာရေး၊ ဘာသာရေး၊ လူမှုရေး၊ နိုင်ငံရေး၊ စီးပွားရေး၊ စသော အရေးပေါင်းများစွာတို့ကို လုပ်ကိုင် ဆောင်ရွက်ကြရာ၌ သူ့အုပ်စု၊ ကိုယ့်အုပ်စုတို့ကို တွေ့မြင်ရပါလိမ့်မည်။ ထင်ရှားအောင် တင်ပြရလျှင် ပညာရှိက ပညာရှိနှင့် ပေါင်းဖော်စုဝေးနေသကဲ့သို့ လူယုတ်မာကလည်း လူယုတ်မာအုပ်စုတို့နှင့် အတူ တွဲနေကြသည်ကို သလဲသီးပမာ အကန့်လိုက် မြင်တွေ့ရပါလိမ့်မည်။

တစ်ခါတစ်ရံ 'စားဖါး'များသည် ပညာရှိကို ခုတုံးလုပ်၍ အမြတ်ထုတ်လိုသောအခါ ပွင့်တော့မည့် ဘဂဝါမျက်နှာမျိုးဖြင့် တိတ်တခိုး ချဉ်းကပ်လာတတ်ကြ၏။ (အုပ်စုဝင်အဖြစ် ဘက်ထရီ အားသွင်းသလို လူရည် လူသွေး သွင်းယူသွားတတ်ကြ၏) ကြက်သည် ရေကို ဘယ်လောက် သောက်သောက် ကျင်ငယ် မပေါက်တော့သကဲ့သို့ ပညာရှိထံမှောက်က အရှိန်အဝါ လူရည်လူသွေး ရသွားသော လူယုတ်မာသည်လည်း ထိုပညာရှိကို မည်သည့် ကောင်းကျိုးမျှ ပေးလိမ့်မည် မဟုတ်ပေ။

သာသနာတော်၌ ဆဗ္ဗဂ္ဂီ-ဟု အမည်ရသော ရဟန်း(၆) ပါး ရှိလေရာ ၎င်းတို့ အုပ်စုကြောင့် သိက္ခာပုဒ်(ဥပဒေ) အများဆုံး ပညတ်ထုတ်ပြန်ရ၏။ ဆိုးလိုက်ကြသည့် ဖြစ်ခြင်း။ သို့သော်

ထိုဆဗ္ဗဂ္ဂီ ရဟန်းဖျင်းတို့သည် အရှင်သာရိပုတ္တရာ၊ အရှင်မဟာမောဂ္ဂလ္လာန်တို့၏ တပည့်များ ဖြစ်ကြလေသည်။

ထို့ပြင် ကျောင်းတိုက်တစ်တိုက် တိုးတက်ရေးအတွက် မြို့တွင်းသို့ အလှူခံကြွကြရာတွင် တစ်ဖွဲ့က အလှူခံရရှိသောငွေများကို တစ်ပြား တစ်ချပ်မျှ မသုံးဘဲ ကျောင်းတိုက်အတွက် လှူလိုကြသည်။ ဧည့်ခံစရိတ်- စသည်တို့ကို မိမိအိတ်ထဲမှ စိုက်ထုတ်၍ (ကိုယ့်အစီအစဉ်ဖြင့်သာ) လုပ်လိုကြပါသော်လည်း ကျန်တစ်ဖွဲ့က တီးဝိုင်းစရိတ်၊ အသံချဲ့စက်ငှားရမ်းခ၊ ဖလားကိုင်မိန်းမနှင့် ကလေးများအတွက် ကျွေးမွေးစရိတ်တို့ကို နှုတ်၍ ငါးကြင်းသားကို ငါးကြင်းဆီဖြင့် ကြော်လိုကြ၏။

ငွေတစ်ထောင်ကျပ်-လှူသူသည် ကျောင်းတိုက်အတွက် ရည်စူး၍ လှူ၏။ အလှူခံဖလားကိုင်တို့အတွက် စသောစရိတ်များ မပါဝင်။ ထို့ကြောင့် မသုံးအပ်။ မသုံးကောင်း။ ကျန်တစ်ဖွဲ့က ကျောင်းအတွက် ဝေယျာဝစ္စ လုပ်ခြင်းဖြစ်၍ သုံးကောင်းသည် ဟု တင်ပြကြရာ ပထမအဖွဲ့က လူနည်းစုသာဖြစ်သဖြင့် ခေါင်းမထောင်နိုင်တော့ကြဘဲ တစ်ဖွဲ့က တစ်ထောင်လျှင် တစ်ရာကျပ်ပင် ကော်မရှင် ဖြတ်ကြခြင်းကြောင့် အကြွေးပင် တင်သွားကြောင်း ကြားသိလိုက်ရ၏။

ထို့ပြင် အလှူခံကို ကန်ထရိုက် စနစ်ဖြင့် အဖွဲ့ဖွဲ့၍ပင် မြို့ပတ်၍ ကြေးစည်ရိုက်ကြသကဲ့သို့ ရထားတွဲပေါ်၌လည်း နိဗ္ဗာန် အကျိုးမျှော်၍ ဆူညံစွာ နှိုးဆော်နေကြလေသည်။ မည်သို့ဆိုစေ ဓါတ်တူချင်းသာ ပေါင်းဖက်ကြသည် မဟုတ်ပါလား။

## ရဟန်းတို့၏ လုံခြုံရေး

မြတ်စွာဘုရားရှင်ကို အရှင်ဒေဝဒတ်က ကျောက်တုံးဖြင့် ပစ်ချပြီး သေကြောင်းကြံသော သတင်းသည် ပို၍ ပို၍ ကျယ်ပြန့်သွားပြီဖြစ်၏။ မြတ်စွာဘုရား၏ အခြေအနေကို ဖူးတွေ့ စောင့်ရှောက်ရန် ရောက်ရှိလာကြသော ပရိသတ်အစုံတို့သည်လည်း ကျောင်းနှင့်အပြည့် ဖြစ်နေသည့်အပြင် မြတ်စွာဘုရားရှင် သီတင်း သုံးတော်မူသော ဂန္ဓကုဋိကျောင်း ပတ်ဝန်းကျင်၌ သင့်လျော်သလို နေထိုင်ကာ မြတ်စွာဘုရားကို ကြည့်ရှုစောင့်ရှောက်ကြသော ရဟန်းတို့၏ စကားပြောသံ၊ တရားဒေသနာ ရွတ်ဖတ်သံတို့က ဆူညံလျက် ရှိသောကြောင့် မြတ်စွာဘုရားက-

"အာနန္ဒာ၊ စကားပြောသံရော၊ တရားရွတ်ဖတ်သံတွေပါ ကျယ်လောင် များပြားလှပါကလား။ သူတို့ ဘာလုပ်နေကြတာလဲ"

"မှန်လှပါ အရှင်ဘုရား၊ 'ဒေဝဒတ်က မြတ်စွာဘုရားကို သတ်ရန် ကြံစည် အားထုတ်နေကြသတဲ့'လို့ ကြားသိကြတဲ့အတွက် မြတ်စွာဘုရားကို အစောင့်အရှောက် ဖြစ်စေဖို့၊ လုံခြုံမှုရစေဖို့၊ အသက်အန္တရာယ်ကို ကာကွယ်ဖို့၊ အချို့ ရဟန်းများက စကြံ လျှောက်နေကြပါတယ်ဘုရား။

အချို့ ရဟန်းများကတော့ 'မြတ်စွာဘုရား အန္တရာယ်ကင်း ဘေးရှင်းပါစေ'လို့ ရည်ရွယ်ပြီး ရွတ်ဆို ဆုတောင်း မေတ္တာပို့သရင်း ထိုင်နေကြပါတယ်ဘုရား"

"ဒါဆိုရင် အာနန္ဒာ၊ အဲဒီရဟန်းတွေကို သွားခေါ်ချေ"

"မှန်ပါ၊ ကောင်းပါပြီ အရှင်ဘုရား"

အရှင်အာနန္ဒာလည်း မြတ်စွာဘုရား၏ အမိန့်တော်ဖြင့် ရဟန်းတို့ကို သွားရောက် ခေါ်ဆောင်ခဲ့ရာ ရဟန်းသံဃာတော်များ ရောက်လာကြသောအခါ မြတ်စွာဘုရားက ဤသို့မိန့်တော်မူလေသည်။

"ရဟန်းတို့ .. ငါဘုရားရှင်၏ ဇီဝိတိန္ဒြေ(အသက်)ကို တစ်စုံတစ်ယောက်သော သူ၏ လုံ့လပယောဂဖြင့် သတ်ဖြတ်၍ ရနိုင်သော အကြောင်းအရာသည် မရှိ၊ ပကတိသဘောဖြင့်သာလျှင် ပရိနိဗ္ဗာန် ဝင်စံကြရကုန်၏"

<u>ဆရာ-(၅)မျိုး</u>

ရဟန်းတို့ . . .

(၁) စင်ကြယ်သော သီလမရှိဘဲ မိမိသည် သီလ စင်ကြယ်သူဖြစ်သည်-ဟု ဝန်ခံသော ဆရာ။

(၂) စင်ကြယ်သော အသက်မွေးမှု မရှိဘဲ မိမိသည် စင်ကြယ်သော အသက်မွေးမှုရှိသူ - ဟု ဝန်ခံသော ဆရာ။

(၃) စင်ကြယ်သော တရားဒေသနာ ဟောပြောမှု မရှိဘဲ မိမိသည် စင်ကြယ်သော တရားဒေသနာ ဟောပြောမှု ရှိသူ-ဟု ဝန်ခံသောဆရာ။

(၄) စင်ကြယ်သော ပြဿနာ ဖြေရှင်းမှု မရှိဘဲ မိမိ

သည် စင်ကြယ်သော ပြဿနာ ဖြေရှင်းမှု ရှိသူ
ဟု ဝန်ခံသောဆရာ။

(၅) စင်ကြယ်သော ဉာဏ်အမြင် မရှိဘဲ မိမိသည်
စင်ကြယ်သော ဉာဏ်အမြင်ရှိသူ-ဟု ဝန်ခံသော
ဆရာ-ဟူ၍ ဆရာ(၅)မျိုး ရှိ၏။

ဤသို့သော ဆရာတို့သည် မိမိတို့၏ သီလ-စသည် မစင်ကြယ်ကြောင်း လူအများ သိမည်စိုး၍ တပည့်တို့က အမှန်အတိုင်း ဖွင့်မပြောဘဲ စောင့်ရှောက်ပေးရန် (ကွယ်ဝှက်ဖုံးဖိပေးရန်) လိုလား တောင့်တကြကုန်၏။

တပည့်ရင်းတို့ကလည်း ဆရာဖြစ်သူ၏သီလ မစင်ကြယ်ကြောင်းကို သိပါသော်လည်း နောင်သောအခါ သူ့အလိုလို သိလိမ့်မည်-ဟု လူအများတို့အား ထုတ်ဖော် ပြောကြားခြင်း မရှိဘဲ စောင့်ရှောက် (ကွယ်ဝှက်ဖုံးဖိ) ပေးကြကုန်၏။

"ငါဘုရားကား စင်ကြယ်သော သီလရှိ၏။ စင်ကြယ်သော အသက်မွေးမှုလည်း ရှိ၏။ စင်ကြယ်သော ဒေသနာဟော ပြောမှု၊ စင်ကြယ်သော ပြဿနာဖြေရှင်းမှု၊ စင်ကြယ်သော ဉာဏ်အမြင် အားလုံးလည်း ရှိ၏။ ထို့ကြောင့် ငါဘုရားသည် မိမိ၏ သီလ-စသည်တို့အတွက် တပည့်တို့က စောင့်ရှောက်(ကွယ်ဝှက်ဖုံးဖိ) ပေးရန် တောင့်တတော်မမူ။

"တပည့်တို့ကလည်း ငါဘုရား၏ သီလစသည်တို့အတွက် စောင့်ရှောက်ကာကွယ် မပေးကြရကုန် (ပေးစရာမလို) ရဟန်းတို့ သူတစ်ပါးတို့၏ လှံ့လ ပယောဂဖြင့် မြတ်စွာဘုရားကို

ဇီဝိတိန္ဒြေမှ ချနိုင်ရာသော အကြောင်းသည် မရှိ။ အရာလည်း မဟုတ်။ သူတစ်ပါးတို့၏ လုံ့လပယောဂ မရှိဘဲသာလျှင် ပရိနိဗ္ဗာန် ဝင်စံကြရကုန်၏။

"ရဟန်းတို့ . သင်တို့သည် သင့်လျော်ရာ ကျောင်းသို့ သွားကြကုန်လော့။ မြတ်စွာဘုရားတို့မည်သည် သူတစ်ပါးက စောင့်ရှောက်ပေးရသော ပုဂ္ဂိုလ်မျိုး မဟုတ်ကြကုန်"

## မဒ္ဒကုစ္ဆိမှ သရက်ဥယျာဉ်သို့

မြတ်စွာဘုရား ဤသို့ မိန့်ကြားတော်မူသောအခါ အနီးအနား၌ ထိုင်နေကြသော ရဟန်းသံဃာတော်များ သင့်လျော်ရာ ကျောင်းသို့ ကြွသွားတော်မူကြသော်လည်း ဘိက္ခုပရိသတ်၊ ဘိက္ခုနီ ပရိသတ်၊ ဥပါသကာ ပရိသတ်၊ ဥပါသိကာမ ပရိသတ်တို့က အဆမတန် များပြားလာပြန်သဖြင့် ဗုဒ္ဓက-

"ရဟန်းတို့ . ဤကျောင်းကား အလွန်ကျဉ်းမြောင်းလှ၏။ ပရိသတ်တို့ကလည်း အလွန် များပြားလာခြင်းကြောင့် ငါဘုရားကို ညောင်စောင်းထမ်းစင်ဖြင့် မဒ္ဒကုစ္ဆိဥယျာဉ်သို့ ပို့ဆောင်ပေးကြလော့"

ရဟန်းသံဃာတော်တို့သည် မြတ်စွာဘုရား၏ အမိန့်တော်အတိုင်း မဒ္ဒကုစ္ဆိဥယျာဉ်သို့ ညောင်စောင်း ထမ်းစင်ဖြင့် ပို့ဆောင်ပေးကြလေသည်။

မဒ္ဒကုစ္ဆိဥယျာဉ်ဟူသည် ဝေဒေဟီ မိဖုရားကြီးက အဇာတသတ်မင်းသားကို ကိုယ်ဝန်ဆောင်ရသောအခါ 'ခမည်းတော်

ကို သတ်မည့်သားဖြစ်သည်'ဟု 'နေမိတ္တိကဝိဇ္ဇာ ဗေဒင်ပညာရှိ' တို့က ဟောစာတမ်းဖြင့် အဆိုပြုကြသောကြောင့် ကိုယ်ဝန် ပျက်ကျရန် ဝမ်းကိုနှိပ်နယ်စေခဲ့သော ဥယျာဉ်ဖြစ်သည်။

မဒ္ဒကုစ္ဆိဥယျာဉ်သို့ရောက်သောအခါ မြတ်စွာဘုရား၏ ဒဏ်ရာသည် ပို၍ဆိုးရွားလာ၏။ သာမန် ပုထုဇဉ်တစ်ယောက် သာဆိုလျှင် 'အမေကယ်ပါ၊ အဖေကယ်ပါ'ဟု အော်ဟစ်ညည်း တွားပြီး ငိုယိုနေရလောက်အောင် ဝေဒနာက ပြင်းထန်လှပေ သည်။ သို့ပါသော်လည်း မြတ်စွာဘုရားရှင်သည် ဆင်းရဲဝေဒနာ ကို သတိသမ္ပဇဉ်ဖြင့် သည်းခံ၍နေတော်မူလေသည်။

နံနက်မိုးသောက်သို့ ရောက်သောအခါ ဆရာဇီဝက၏ သရက်ဥယျာဉ်သို့ ကြွလိုကြောင်း မိန့်တော်မူခြင်းကြောင့် ရဟန်း တို့က ညောင်စောင်း ထမ်းစင်ဖြင့် ပို့ဆောင်ပေးကြသည်။ ဆရာ ဇီဝက ကလည်း မြတ်စွာဘုရားထံသို့ ရောက်ရှိလာပြီး ဒဏ်ရာ ကို ကြည့် ရှုကုသ၏။ မြတ်စွာဘုရား၏ အလိုတော်ဖြင့် ဒဏ်ရာ ကို ခွဲပြီး မကောင်းသော သွေးတို့ကို ထုတ်နုတ်ဆေးကြောကာ အနာနှင့် သင့်လျော်သော ဆေးကို ထည့်သွင်းစည်းနှောင် ပေး လေသည်။

## ဆရာဇီဝက-၏ သောက

"မြတ်စွာဘုရား၊ တပည့်တော် မြို့တွင်းမှာအရေးပေါ် လူနာတစ်ယောက်ကို ဆေးကုထားပါတယ်ဘုရား။ အဲဒီလူနာ ကို သွားရောက် ကြည့်ရှုလိုတဲ့အတွက် အရှင်ဘုရားရဲ့ ခြေတော်

မှာ စည်းနှောင်ထားတဲ့ အဝတ်ကို တပည့်တော် ပြန်လာသည် အထိ ဒီအတိုင်းပဲ ရှိနေစေချင်ပါတယ် ဘုရား”ဟု လျှောက်ထား ပြီး ထိုအရေးပေါ် လူနာထံသို့ သွားရောက်၍ ကုသခြင်း ကိစ္စပြီး ဆုံးသွားသောအခါ အချိန်လင့်ပြီဖြစ်သောကြောင့် မြို့တံခါး ပိတ်သွားသဖြင့် ပြန်လာခွင့် မရတော့ပေ။ ထိုအခါ ဆရာဇီဝက ၏ ရင်၌ သောကမီးတို့ တောက်လောင်လာပါလေပြီ။

“ဩော် ငါ့နှယ်နော်။ ငါဟာသာမန်လူနာတစ်ယောက် လို သဘောထားပြီး မြတ်စွာဘုရားရဲ့ ခြေတော်ကို အစွမ်းထက် လှတဲ့ ဆေးတွေနဲ့ စည်းနှောင်ထားခဲ့မိပြီ၊ ခုလောက်ဆိုရင် ဖြည် ရတော့မှာ၊ မဖြည်ဘဲ တစ်ညလုံးသာ စည်းထားရင် မြတ်စွာ ဘုရားရဲ့ ကိုယ်ခန္ဓာတော်ဟာ ပူလောင်နေတော့မှာပဲ။ အရေး ထဲ မြို့တံခါးက ပိတ်သွားလိုက်သေးတယ်။ အင်း . . ဘယ်လို လုပ်ရရင် ကောင်းမလဲ”

ဆရာဇီဝက ဤသို့ပူပန်မှုဖြစ်နေချိန်တွင် မြတ်စွာဘုရား က အရှင်အာနန္ဒာကို ခေါ်တော်မူပြီး-

“အာနန္ဒာ၊ ဆရာဇီဝကသည် ငါ့ထံသို့ ပြန်လာသော အခါ မြို့တံခါးပိတ်ချိန်နှင့် ပက်ပင်းပါ တိုးနေသောကြောင့် ယနေ့ည ရောက်လာနိုင်တော့မည်မဟုတ်။ စည်းနှောင်ထားခဲ့ သော အနာကိုဖြည်လိုသော စိတ်အကြံလည်း ဖြစ်နေ၏။ ထို့ ကြောင့် စည်းထားသော အနာကို ဖြည်လိုက်လော”

အရှင်အာနန္ဒာသည်၊ မြတ်စွာဘုရား မိန့်တော်မူသည့် အတိုင်း စည်းနှောင်ထားသော အနာကို ဖြည်လိုက်သောအခါ

ခွဲစိတ်ထားသော ဒဏ်ရာသည် သစ်ခေါက်ကို အခွံခွါလိုက်သကဲ့သို့ ကွာကျသွားလေသည်။ ဆရာဇီဝကသည်လည်း အရုဏ်တက်ချိန် အတွင်း၌ပင် မြတ်စွာဘုရား အထံတော်သို့ အလျင်အမြန်ရောက်လာပြီး-

"ဘယ်လိုပါလဲ မြတ်စွာဘုရား၊ အရှင်ဘုရား၏ ခန္ဓာကိုယ်တော်သည် တစ်ညလုံး ပူလောင်မှုဒဏ်ကို ခံလိုက်ရသည် မဟုတ်ပါလား ဘုရား"

မြတ်စွာဘုရားသည် အနီးရှိ ပရိသတ်ကို တရားရစေခြင်း အကျိုးငှာ အနာ၌တင်သော ဆေးကြောင့် ကိုယ်ခန္ဓာတော် ပူလောင်မှု အကြောင်းကို မိန့်တော်မမူဘဲ ကိလေသာကြောင့် ဖြစ်ပေါ်လာသော ပူလောင်မှုဒဏ် မခံရကြောင်းကိုသာ ဟောတော်မူလေသည်။

"အို့ ဇီဝက၊ ကိလေသာ အနှောင်အဖွဲ့ မရှိသူသည် ပူလောင်မှု မဖြစ်နိုင်။ ငါဘုရားသည် ကိလေသာ အနှောင်အဖွဲ့ကို အကြွင်းမဲ့ ပယ်သတ်ထားပြီးဖြစ်၍ အဘယ်မှာ ပူလောင်မှု ဒဏ်ကို ခံရပါလေမည်နည်း"

## ပုထုဇဉ်၏ ဆန္ဒဆိုး

ရွှာဝက်သည် မစင်ကို မရွံသကဲ့သို့ ကိလေသာ ရှိသူသည် အကုသိုလ်ပြုရန် မကြောက်။ ထိုသို့ မကြောက်ကြခြင်းကြောင့်ပင် ကိလေသာ၏ အပူဒဏ်ကို ခံနေကြရပေသည်။ သို့သော် ပူမှန်းကား မသိချေ။ ပုထုဇဉ်၏ စိတ်သည် အတ္တဖြင့်

တည်ဆောက်ထားခြင်းကြောင့်လည်း ပတ်ဝန်းကျင်ကို စိုးမိုးလိုသော ဆန္ဒဆိုးများ တိုးပွားနေတတ်ပေသည်။ အစနှင့် အဆုံးကို ကြည့်လျှင် . . .

- ဆွေမျိုးတစ်သိုက်၊ ငါ့အကြိုက်၊ လိုက်ကို လိုက်ရမည်။
- သားသမီးများ၊ ငါ့စကား၊ ထောင်နားစိုက်ရမည်။
- ငါ့ခန္ဓာကိုယ်၊ ဘာမဆို၊ ငါ့အလိုကျ ဖြစ်ရမည်။
- အဲသလိုပဲ၊ ငါ့စိတ်ထဲ၊ ထင်လွဲမိခဲ့သည်။
- ယခုသော်ကား၊ ဆွေမျိုးများ၊ ပစ်သွားခဲ့ကြပြီ။
- သားသမီးများ၊ ငါ့စကား၊ ထောင်နား မစိုက်ပြီ။
- တစ်အိုးတစ်အိမ်၊ လူစည်းစိမ်၊ မိုးတိမ်သို့လည်း တက်ကြပြီ။
- ငါ့ကိုလည်းခွဲ၊ သူချစ်သည်း၊ အမြဲတွဲကြပြီ။
- ငါ့ခန္ဓာကိုယ်၊ အရွယ်အို၊ အသားစိုလည်း ပြိုခဲ့ပြီ။
- မာကျောသားဆိုင်၊ ပျော့ဖတ်ယိုင်၊ တုတ်ကိုင်၍လည်း လျှောက်ရပြီ။
- ဖြူဖွေးသွားတွေ၊ မည်းညစ်ပေ၊ ကျွတ်လေ မရှိပြီ။
- တဖြောက်ဖြောက်ဝါး၊ ဆာတိုင်းစား၊ ခုကားထောင်းလို့ဝါးရပြီ။
- ထောင်းပင်ထောင်းစား၊ ဝါးလေးငြား၊ စာကား မကြေပြီ။
- အစာမကြေ၊ ဗိုက်အင့်နေ၊ ဆေးတွေ စားရသည်။
- ဆေးစားသော်ငြား၊ ခန္ဓာကား၊ သွားငြား သချိုင်းဆီ။
- ဆရာတွေစုံ၊ ဆေးမျိုးကုန်၊ ရောက်တုံ မရဏာပြည်။
- လောကလူ့ရွာ၊ ခိုင်မြဲတာ၊ ဘယ်ဟာ မရှိပြီ။

* * * * *

# အခန်း(၄)

## မဟာကပိဇာတ်

မြတ်စွာဘုရားသည် အနာရောဂါ ရှင်းရှင်းပျောက်ကင်းတော်မူပြီ ဖြစ်၍ လက္ခဏာတော်ကြီး ၃၂-ပါး၊ လက္ခဏာငယ် ရှစ်ဆယ်တို့ဖြင့် တင့်တယ်တော်မူပြီး ရဟန်းအပေါင်းခြံရံလျက် ရှေးနည်းအတူ ကြွသွားတော်မူနိုင်ပြီ ဖြစ်၏။ မြတ်စွာဘုရားရှင် ဤသို့ အနာတရ ဖြစ်တော်မူရခြင်းသည် အရှင်ဒေဝဒတ်၏ ရက်စက်ကြမ်းကြုတ်သော ဒုတိယအကြိမ်မြောက် သေကြောင်းကြံစည်ခြင်း၊ ရလဒ်တစ်ခုပင် ဖြစ်၏။

ယင်းသို့ ရက်စက် ကြမ်းကြုတ်စွာ သေကြောင်း ကြံစည်ခြင်းကြောင့် ရဟန်းအပေါင်းတို့က ပြစ်တင်ကဲ့ရဲ့ကြလေသည်။ ရဟန်းတို့ ကဲ့ရဲ့ကြသော စကားသံများကို မြတ်စွာဘုရားရှင် ကြားသိတော်မူသောအခါ "ရဟန်းတို့၊ ဒေဝဒတ်သည် ယခုမှသာ ငါဘုရားအား ကျောက်တုံးဖြင့် ထုခဲ့သည် မဟုတ်သေး။ ရှေးကလည်း ထုသတ်ခဲ့ဖူးလေသည်" ဟု မိန့်တော်မူပြီး 'မဟာကပိဇာတ်' ကို ဟောကြားတော်မူ၏။

မဟာကပိဇာတ်တွင် နွားပျောက်ရှာရင်း မျက်စိလည်လမ်းမှား၍ ဟိမဝန္တာတောသို့ ရောက်သွားပြီး သဖန်းသီး ခူးစားရာမှ အတောင်ခြောက်ဆယ်ခန့်နက်သော ချောက်ထဲ၌ ကျနေသည့် အရှင်ဒေဝဒတ်အလောင်းပုဏ္ဏားကို ဘုရားလောင်း

မျောက်မင်းက သနားသဖြင့် ကုန်းပေါ်သို့ ထမ်းပြီး ပို့ဆောင်ပေးလေသည်။

ကုန်းပေါ်သို့ ရောက်သောအခါ ပုဏ္ဏားကို ထမ်းပြီး ချောက်ကမ်းပါးမှ ခုန်တက်ခဲ့ရသဖြင့် အလွန် ပင်ပန်းလှသောကြောင့် ခေတ္တခဏအနားယူ အိပ်စက်နေသော ဘုရားလောင်း မျောက်မင်းအား ပုဏ္ဏားက အနီးရှိ ကျောက်တုံးကို ယူ၍ ထုသတ်လေသည်။ ဘုရားအလောင်းမျောက်မင်းသည် လျင်မြန်စွာ သစ်ပင်ပေါ်သို့ တက်ပြီး ပုဏ္ဏားကို ကြည့်ရှုနေလေသည်။

မျောက်မင်း၏ မျက်လုံးများကား အဓိပ္ပါယ်အပြည့်အဝပါ၏။ လူသားတစ်ယောက် ဖြစ်သည့်အပြင် ကျေးဇူးရှင်အသက်သခင်ကိုပင် ဤမျှ လုပ်ရက်ရသလား-ဟု စဉ်းစားပြီး နေရာ၌ ပစ်ထားခဲ့စရာကောင်းသကဲ့သို့ ပြန်လည်တိုက်ခိုက်မည်ဆိုပါကလည်း ကယ်သူမနီး တောကြီး မျက်မည်းထဲ၌ ဖြစ်သောကြောင့် အလွယ်လေးပင် တိုက်ခိုက်အနိုင်ယူနိုင်ပေသည်။

သို့သော် ဓါတ်ခံခြင်း မတူသည့်အတွက် အပြစ်မှခွင့်လွှတ်ပြီး ယိုစီးလာသော သွေးများကို လမ်းပြ အလံပြုလုပ်ကာ တစ်ပင်မှ တစ်ပင်သို့ ခုန်ကူး၍ ပုဏ္ဏားနေသော ရွာဦးထိပ်ကို မြင်ရသည့်တိုင်အောင် ပို့ဆောင်ပေးလိုက်ပါသေးသည်။ ပုဏ္ဏားလည်း ဘုရားလောင်း မျောက်မင်းကို ပြစ်မှားသော အကုသိုလ်ကံကြောင့် မျက်မှောက်ဘဝ၌ပင် နူနာရောဂါ စွဲကပ်၍ လူပြိတ္တာဘဝဖြင့် နိဂုံးချုပ်ရရှာလေသည်။

## ပြုသူအသစ်၊ ခံသူအဟောင်း

မြန်မာစကားပုံ၌ 'ပြုသူအသစ်၊ ခံသူအဟောင်း'ဟူ၍ ဆိုထားပေရာ ဗုဒ္ဓမြတ်စွာကို အရှင်ဒေဝဒတ်က ကျောက်မောင်းဆင်ကာလုပ်ကြံသော၍ပြုသနာသည် အရှင်ဒေဝဒတ်အတွက် အကုသိုလ် အသစ်ဖြစ်သော်လည်း ဗုဒ္ဓအဖို့ကား အလောင်းတော်ဘဝက အကုသိုလ်ကံ ဝဋ်ကြွေးကို ပေးဆပ်လိုက်ရခြင်း ဖြစ်၏။

တစ်ခုသော ဘဝတွင် ဘုရားအလောင်းတော် ကလေးသူငယ်တစ်ယောက်သည် လမ်းမကြီးပေါ်၌ကစားနေရင်း ဆွမ်းခံကြွလာသော ပစ္စေကဗုဒ္ဓါအရှင်မြတ်ကိုတွေ့မြင်ရ၍ ဘာရယ်မဟုတ်ဘဲ ခြေဆော့လက်ဆော့ သဘောမျိုးဖြင့် ကျောက်ခဲကို ကောက်ပြီး ပစ္စေကဗုဒ္ဓါ၏ ခြေဖမိုးကို ပစ်ထုလိုက်လေရာ အရှင်မြတ်၏ ခြေဖမိုးတော်ကွဲ၍ သွေးများ နီရဲသွားလေသည်။

ထိုကလေးငယ်သည် ၎င်းအကုသိုလ်ကံကြောင့် အပါယ်ငရဲ၌ နှစ်ပေါင်းများစွာ ခံခဲ့ရပြီး ကံကြွင်းကံကျန်တို့က ဤဗုဒ္ဓဖြစ်သောဘဝ၌ အရှင်ဒေဝဒတ်၏ ကျောက်မောင်းဆင်၍ လုပ်ကြံခြင်းကို ခံရလေသည်။ ထိုကလေးကား အခြားမဟုတ်၊ ဂေါတမဗုဒ္ဓ အလောင်းတော်ပင် ဖြစ်၏။

ခြေတော်ကို ဓါးငယ်ဖြင့် အခွဲခံတော်မူရသည်မှာလည်း ဝိပါက်(၁၂)ပါးတွင် တစ်ပါး အပါအဝင် ဖြစ်၏။ ပစ္စန္တရစ်အရပ်၌ မင်းဖြစ်စဉ်က အသောက်အစားမက်သော မင်းခယောကျ်ားတို့နှင့် ပေါင်းဖက်မိသောကြောင့် အရက်သေစာ သောက်စားမူး

ယစ်၍ အပြစ်မရှိသောလူတစ်ယောက်ကို အရက်နှင့် အာဃာစက်အရှိန်ကြောင့် အခြောက်တိုက် သန်လျှက်ကစားရင်း ခုတ်ထစ်ခဲ့ဖူးလေသည်။ (မူးပြီး ရမ်းကားခဲ့လေသည်။) ထိုကံကြောင့် အပါယ်လေးပါး၌ ကျရောက်ပြီး ယခုဂေါတမဗုဒ္ဓ ဖြစ်တော်မူသော နောက်ဆုံးဘဝတွင် ကံကြွင်း ကံကျန်က ဆရာဇီဝက၏ ခွဲစိတ်ခြင်းကို ခံတော်မူရလေသည်။

ဤဖြစ်ရပ်မျိုးကို 'ဖါးကန့်မြို့'သို့ အလည်ရောက်စဉ်က ကိုယ်တွေ့ မျက်မြင် ကြုံခဲ့ရဖူးပါ၏။ ဖါးကန့်မြို့က တာဝန်ရှိသူတစ်ဦးသည် လမ်းတစ်နေရာသို့ ကားဖြင့် ဖြတ်သွားသောအခါ 'ပရဟိတမီးသတ်သမားလေး'က တာဝန်ရှိသူ၏ ကားမှန်းမသိသဖြင့် အမှတ်မထင် မတ်တတ်ရပ်၍ နေလေသည်။

ထိုအခါ တာဝန်ရှိသူက သူ့ကို အလေးမပြုရကောင်းလား ဆိုပြီး ကားပေါ်မှဆင်းကာ လိုင်စင်ဖြင့် ကိုင်ထားသောသူ၏ ပစ္စတိုဖြင့် မျက်ခွက်ကို ထုနှက်လိုက်ရာ သွားများ အခွေလိုက် ယိုင်ရွဲ့သွားသည်ကို စိတ်မကောင်းစွာ မြင်တွေ့လိုက်ရပါသည်။

ပစ္စုပ္ပန်ဘဝမှာ အရှိန်အဝါဖြင့် ပြုထားသော ယင်းကံသည် အလှည့်တစ်ဖန် ကျရောက်လာမည့် အရေးကို တွေးကာ ထိုအရာရှိအား သနားမိရပေသေးတော့သည်။ အကုသိုလ်ကံ အကျိုးပေးသည် သဗ္ဗညုတဉာဏ်တော်ပိုင်ရှင် ဘုရားသခင်ကိုသော်မျှ ချမ်းသာခွင့် ရသည်မဟုတ်ပါချေ။ **တဿ ကမ္မဿ ဒါယဒေါ ဘဝိဿာမိ**- ကောင်းကံ မကောင်းကံ၏ အမွေကို

လူတိုင်း (သတ္တဝါတိုင်း) ခံယူကြရမည် မဟုတ်ပါလား။

## အရှင်ဒေဝဒတ်၏ တတိယအကြံ

မြတ်စွာဘုရားသည် ဆရာဇီဝက၏ ကုသမှုကြောင့် ရှေးယခင်ကကဲ့သို့ ကျန်းမာချမ်းသာစွာဖြင့် ရဟန်းအပေါင်း ခြံရံလျက် ကြွသွားနေထိုင်တော်မူသည်ကို အရှင်ဒေဝဒတ် တွေ့ မြင်သွားသောအခါ-

"အင်း. ယောက်ဖတော်ရဲ့ ရုပ်ဆင်းအင်္ဂါ သာယာ တင့်တယ်ခြင်းကို ကြည့်ပြီး သာမန်လူတစ်ယောက်အဖို့ အနှောင့်အယှက်ပေးဖို့ဆိုတာ မလွယ်တဲ့ ကိစ္စပဲ။ အနားတောင်ကပ်ဖို့ မလွယ်ဘူး။ ငါဟိုတစ်လောလေးဆီက လေးသည်တော်တွေကို လွှတ်ပြီး ပစ်သတ်ခိုင်းစဉ်တုန်းကလည်း လေးသည်တော်တွေ တရားရပြီး သူ့သာဝကတောင် ဖြစ်သွားကြသေးတယ်။

"ဒီတော့ လူသားတွေကို အသုံးပြုခိုင်းစေလို့ မရရင် ရှင်ဘုရင်ရဲ့နာဠာဂိရိဆင်ဟာ အလွန်ရိုင်းစိုင်း မိုက်မဲတဲ့ တိရစ္ဆာန်တစ်ကောင်ဖြစ်တဲ့အတွက် အရက်တိုက်ပြီး နင်းသတ်ခိုင်းရရင်တော့ ဖြစ်နိုင်လောက်တယ်။ ကောင်းတယ်။ ဒီအကြံ သိပ်ကောင်းတယ်။ နာဠာဂိရိဆင်ကို ဘုရင့်ထံက အလျှုခံပြီး နင်းသတ်ခိုင်းမယ်။ ကဲ. ယောက်ဖတော် ဘုရားရှင်၊ သင် ဘာမို့ခံနိုင်မလဲ"

အရှင်ဒေဝဒတ်သည် အဇာတသတ်မင်းထံသို့ သွားပြီး အကျိုးအကြောင်း ပြောပြသောအခါ အဇာတသတ်မင်းက

'ကောင်းပါပြီ' ဟု ဝန်ခံ၍ ဆင်ဆရာများကို ခေါ်ကာ အမိန့်ပေးလေသည်။ အဇာတသတ်မင်း၏ အမိန့်ကား နာဠာဂိရိဆင်ကို အရက်တိုက်ပြီး ဗုဒ္ဓဆွမ်းခံတော်မူရာလမ်းသို့ စေလွှတ်ပေးရန်ဖြစ်၏။ ယခင်ကလည်း လေးသည်တော် လက်ဖြောင့်တပ်သားများကို လွှတ်၍အရှင်ဒေဝဒတ်၏ လုပ်ကြံမှုကို အားပေးအားမြှောက်လုပ်ခဲ့ဖူး၏။

ယင်းသို့ပြုလုပ်ခြင်းကလည်း အရှင်ဒေဝဒတ်ကို တန်ခိုးနှင့် တန်းလန်းမြင်တွေ့ခဲ့ရသဖြင့် တန်ခိုးရှင် လုပ်သမျှ အားလုံးအမှန်ဟုထင်နေသည်မှာ သနားစရာပင် ကောင်းလှပေတော့သည်။

<u>လူ၏ပျော့ကွက်</u>

လူတို့သည် 'ထင်သေးပြစ်မှား၊ ထင်ကြီးကြည်ညို' ဟူသော စကားကဲ့သို့ အထင်လည်း သေးတတ်ကြလေသည်။ အထင်သေးလျှင် ပြစ်မှားတတ်၏။ အထင်ကြီးလျှင် ကြည်ညိုကြသည်မှာ လူသားတို့ ဓမ္မတာပင် ဖြစ်ပေရာ၊ အများအားဖြင့် အမှားနှင့် ကြုံရသည့်နည်းတူ၊ အလိမ်အညာလည်း ခံရတတ်ပေသည်။ ယင်းသို့သော လူတို့၏ပျော့ကွက်ကိုကြေညက်ထားသူတို့ကအထက်တန်းမှအထင်ကြီးခံရအောင် ပုံစံမျိုးစုံ(အကြမ်း၊ အနု)ဖြင့် လိမ်ညာကြ၏။

ရလိုမှုဖြင့် ဘာသာတရား လိုက်စားကြသူတို့အား ဘာသာ တရားလေသံ ဖုံးအုပ်၍ လိမ်ညာလျှင် ရတတ်ရက်

မသိနိုင်ဘဲ အထင်ကြီးနေကြသည့် အပြင်၊ ရင်ငွေ့လှုံနေရသည့် ဖြစ်အင်ကိုပင် မိမိလင်အား မသနားနိုင်ဘဲ တစ်ကိုယ်လုံးယိုင်လဲ ပေးအပ်ကြသည်မှာ ဦးချိုမရှိသော ချေသူငယ်ကို ကျားသတ္တဝါက ဆွဲသည်နှင့် တူလှပေတော့သည်။ ပညာရှိ သူတော်ကောင်းကို အထင်သေး၍ ပြစ်မှားမိသော်လည်း တောင်းပန်ဝန်ချလျှင် ရကောင်း၏။ သို့သော် အထင်ကြီး၍ ကြည်ညိုမိပါက ပညာရှိ သူတော်ကောင်းဖြစ်လျှင် တော်ပေသေး၏။ အကယ်၍များ အရှင်ဒေဝဒတ်လို ပုဂ္ဂိုလ်အစားမျိုးဆိုလျှင် အခွါရခက်ပါလိမ့်မည်။ အဇာတသတ်မင်း အရှင်ဒေဝဒတ်ကို အထင်ကြီးခဲ့သဖြင့် ပဉ္စာနန္တရိယကံကြီးကိုပင်-လွန်ကျူးပြီးခဲ့ပြီ မဟုတ်ပါလား။ ယခုလည်း နာဠာဂိရိဆင်ကို အလျှုခံ၍ ဗုဒ္ဓကို သေကြောင်းကြံသည့် ကိစ္စ၌ အလိုတူအလိုပါပင် ဖြစ်နေလေတော့သည်။

## အရှင်ဒေဝဒတ်၏ ဆင်လွှတ်ပွဲ

"ဆင်ထိန်းဒကာတို့၊ ယခင်နေ့များမှာ နာဠာဂိရိဆင်ကြီးကို အရက်ဘယ်လောက်တိုက်သလဲ"

"ရှစ်အိုး တိုက်ပါသည် ဆရာတော်ဘုရား"

"ဒါဆိုရင် နက်ဖြန် နာဠာဂိရိဆင်ကို အရက် ၁၆-အိုး တိုက်ပြီး ရဟန်းဂေါတမ ဆွမ်းခံကြွလာရင် ဆင်ကြီး ဒေါသထွက်အောင် ချွန်းနဲ့ပေါက်ပြီး လွှတ်လိုက်ကြ"

"ကောင်းပါပြီ၊ စိတ်ချနေတော်မူပါ ဆရာတော်ဘုရား"

အဇာတသတ်မင်းကလည်း နက်ဖြန်နံနက် နာဠာဂိရိ

ဆင်ကို အရက် တိုက်ပြီး မြို့တွင်းကို လွှတ်မည်ဖြစ်၍ ဘယ်သူမှ လမ်းပေါ်မထွက်ကြရန် မောင်းကြေးနင်းခတ်၍ ကြေညာခိုင်းလေသည်။ အရှင်ဒေဝဒတ်ကလည်း ဆင်ထိန်းများကို သေချာသည်ထက် သေချာအောင် ထပ်ဆင့်၍ ပြောကြားလေသည်။

"ဆင်ထိန်းဒကာများ၊ မင်းတို့ ကောင်းကောင်း နားထောင်ကြ၊ ဘုန်းကြီးက ရာထူးနိမ့်နေသူကို မြင့်အောင် လုပ်ပေးနိုင်တယ်။ မြင့်နေသူကိုလည်း နိမ့်သွားအောင် လုပ်နိုင်တယ်။ လာဘ်လာဘနဲ့ ဩဇာရှိတဲ့သူတစ်ယောက် ဖြစ်ချင်တယ်ဆိုရင် အခု ခိုင်းထားတဲ့အတိုင်း အရက်အပြင်းစားတွေတိုက်။ ဆင်ကြီးကို စိတ်ရိုင်းစိတ်မိုက်တွေ ဝင်လာအောင် လုပ်ပြီး ဂေါတမ ဆွမ်းခံကြွလာတဲ့ လမ်းအတိုင်းလွှတ်လိုက်ကြ။ အကယ်၍ ခိုင်းတဲ့အတိုင်း ဖြစ်မလာဘူးဆိုရင်တော့ ဘုန်းကြီးကို အပြစ်မဆိုကြနဲ့၊ ကြားလား"ဟု ထပ်ဆင့် အမိန့်ပေးလေသည်။

ထိုသတင်းသည် တစ်မြို့လုံး ပျံ့နှံ့သွားပြီဖြစ်၏။ ရတနာသုံးပါးကို မြတ်နိုးကြကုန်သော ဒကာဒကာမများက ဝေဠုဝန်ကျောင်းတော်သို့သွားပြီး မြတ်စွာဘုရားကို လျှောက်ထားကြသည်။

"မြတ်စွာဘုရား. ဆရာတော်အရှင်ဒေဝဒတ်သည် အဇာတသတ်မင်းနှင့် ပေါင်းပြီး နက်ဖြန် အရှင်ဘုရား ကြွလာမည့် ဆွမ်းခံလမ်းမှာ နာဠာဂိရိဆင်ကြီးကို အရက်တိုက်ပြီး စေလွှတ်ဖို့ စီစဉ်နေကြပါပြီ ဘုရား။ နက်ဖြန်ဆွမ်းခံ ကြွတော်မမူဘဲ ကျောင်းထဲမှာသာ သီတင်းသုံးတော်မူပါဘုရား။ တပည့်တော်

တို့ ဆွမ်းကွမ်းအတွက် တာဝန်ယူပါမည် မြတ်စွာဘုရား"

မြတ်စွာဘုရားသည် နက်ဖြန် ဖြစ်ပေါ်လာမည့်ပြဿနာကို အစအဆုံး မြင်တော်မူပြီးဖြစ်၍ မည်သည့် တရားစကားတော်မျှ မိန့်ဟတော်မမူဘဲ ဆိတ်ဆိတ်နေတော်မူလေသည်။ နံနက် မိုးသောက်သို့ ရောက်သောအခါ မြတ်စွာဘုရားရှင်က "အာနန္ဒာ၊ ရာဇဂြိုဟ်မြို့ကို အမှီပြု၍ နေထိုင်ကြကုန်သော ရဟန်းသံဃာများကို ငါဘုရားနှင့်အတူ ရာဇဂြိုဟ် မြို့တွင်းသို့ ဆွမ်းခံကြွရမည်" ဟူ၍ အကြောင်းကြားခိုင်းတော်မူလေသည်။

အရှင်အာနန္ဒာကလည်း မြတ်စွာဘုရား၏ အမိန့်တော်မြတ်အတိုင်း အကြောင်းကြားလေရာ ရဟန်းသံဃာ အားလုံးဝေဠုဝန်ကျောင်းတော်ကြီးအတွင်း၌ စုရုံးရောက်ရှိလာကြသဖြင့် သံဃာစုံသောအခါ ဘုရားအမှူးရှိသော သံဃာတော်များ မြို့တွင်းသို့ ဆွမ်းခံဝင်တော်မူကြလေသည်။

ဆင်ထိန်းတို့ကလည်း အရှင်ဒေဝဒတ် ခိုင်းထားသည့်အတိုင်း နာဠာဂိရိဆင်ကြီးကို စေလွှတ်လိုက်သဖြင့် သဒ္ဓါတရားမရှိကြသော မိစ္ဆာဒိဋ္ဌိများက "နာဠာဂိရိ ဆင်ကြီးဟာ ကြမ်းတမ်းတယ်။ လူကိုသတ်တတ်တယ်။ ဘုရား၊ တရား၊ သံဃာဟူသော ရတနာသုံးပါးရဲ့ ဂုဏ်ကျေးဇူးကို မသိတတ်ဘူး။ ဒီတစ်ခါတော့ ဂေါတမဗုဒ္ဓရဲ့ ရွှေအဆင်းနဲ့တူတဲ့ ခန္ဓာကိုယ်တော့ မြေပြင်မှာ တစ်စစီဖြစ်ပြီး အသက်ကုန်ခြင်းကို ရောက်သွားတာ မြင်ရတော့မှာပဲ"ဟု ဘယ်ဘက်လက်ဖဝါးပြင်ကို ညာလက်သီးဖြင့် ထု၍ပြောဆိုနေကြလေသည်။

သဗ္ဗါတရားရှိ၍ ရတနာသုံးပါးကို ယုံကြည်ကြသူများကား "ဘုရားရှင်သည် အသိဉာဏ်မရှိသော နာဠာဂိရိဆင်ကို ဘယ်သို့ ဆုံးမတော်မူလေမလဲ"ဟု အံ့ခဲ၍ ကြည့်နေကြသဖြင့် နှစ်ဘက် ပရိသတ်များ အလွန်စည်ကားနေလေသည်။

သို့သော် မြေပြင်မှာ ရပ်နေကြသည် မဟုတ်။ အချို့ အိမ်ခေါင်မိုးပေါ်မှာ၊ အချို့က သစ်ပင်ပေါ်သို့ တက်၍ ကြည့်နေကြလေသည်။

နာဠာဂိရိ ဆင်ကြီးကလည်း အရက်အရှိန်ဖြင့် ဂ္ဂန္ဒြေမဲ့စွာ ဘုရားရှင်ကြွလာတော်မူရာ လမ်းအတိုင်း ပြေးဝင်လာပါလေပြီ။ ထိုအခါ ရဟန်းတို့က မြတ်စွာဘုရားကို စိုးရိမ်စိတ်ကြီးစွာဖြင့် 'ရှောင်ရှားတော်မူပါရန်' လျှောက်ထားကြသောအခါ မြတ်စွာဘုရားက-

"ရဟန်းတို့၊ မကြောင့်ကြကြကုန်လင့်။ ငါဘုရားသည် နာဠာဂိရိဆင်ကို ဆုံးမရန် စွမ်းနိုင်ပေ၏"ဟု မိန့်တော်မူပါသော်လည်း အရှင်သာရိပုတ္တရာက "မြတ်စွာဘုရား၊ ဖခင်တို့အား ဖြစ်ပေါ်လာသော ကိစ္စတို့မည်သည် သားကြီးဖြစ်သူ၏ တာဝန်သာ ဖြစ်သည့်အတွက် နာဠာဂိရိဆင်ကို တပည့်တော် ဆုံးမပါရစေ ဘုရား"ဟု လျှောက်ထားသောအခါ မြတ်စွာဘုရားက "သာရိပုတ္တရာ၊ မြတ်စွာဘုရားရဲ့ အားအစွမ်းနဲ့ သာဝကတို့ရဲ့ အားအစွမ်း မတူညီကြဘူး။ အေးအေးဆေးဆေး ကြောင့်ကြမဲ့နေပါ သာရိပုတ္တရာ။ ငါဘုရား နာဠာဂိရိ ဆင်ကို အလွယ်တကူ ဆုံးမနိုင်တယ်"ဟု မိန့်တော်မူလေသည်။

အရှင်သာရိပုတ္တရာ လျှောက်ထားသည့်အတိုင်း မဟာသာဝက ရှစ်ဆယ်တို့ကလည်း နာဠာဂိရိဆင်ကို ဆုံးမလိုပါကြောင်း လျှောက်ထားကြသောအခါ၌လည်း လက်ခံတော်မမူဘဲ ပယ်မြစ်တော်မူလေသည်။

**အရှင်အာနန္ဒာ၏ ချစ်ခြင်း**

ထိုအခါ အရှင်အာနန္ဒာသည် မြတ်စွာဘုရားအပေါ် အားကြီးသော ချစ်ခြင်းဖြင့် "ဤဆင်သည် ရှေးဦးစွာ ငါ့ကို သတ်ပြီးမှ မြတ်စွာဘုရားကို အသတ်ခံတော့မည်"ဟု အကြံဖြစ်ပြီး မြတ်စွာဘုရား၏ ရှေ့တော်၌ ရပ်နေသောအခါ မြတ်စွာဘုရားက-

"အာနန္ဒာ ဖယ်ပါ၊ ငါဘုရားရှေ့က မရပ်ပါနှင့်"

"ရှင်တော်မြတ်ဘုရား၊ ဤဆင်သည်အလွန်ရက်စက်ကြမ်းကြုတ်လှပါသည်ဘုရား။ လူကို သတ်တတ်သလို အိုးအိမ်များကိုလည်း စိစိညက်ညက်ကြေအောင်နင်းချေနေပါပြီဘုရား။ ယခု မြတ်စွာဘုရား ရှိရာသို့လည်း ရှေးရှုလာနေပြီ ဖြစ်ပါသောကြောင့် တပည့်တော်ကို သတ်ပြီးမှ မြတ်စွာဘုရား အထံသို့ အရောက်ခံပါမည်ဘုရား"

အရှင်အာနန္ဒာသည် မြတ်စွာဘုရားက သုံးကြိမ်တိုင်အောင် တားမြစ်ပါသော်လည်း မဖယ်ရှားဘဲ ရပ်မြဲ ရပ်နေသဖြင့် တန်ခိုးတော်ကို အသုံးချပြီး ရဟန်းတို့ အကြား၌ ဖယ်ရှားထားတော်မူလိုက်ရလေသည်။

## ဗုဒ္ဓနှင့်နာဠာဂိရိ

ထိုခဏလေးမှာပင် သားသည် အမေတစ်ယောက် ဆင်ကြီးကို မြင်ပြီး သေဘေးမှ ကြောက်သောကြောင့် ထွက်ပြေးလေရာ ချီထားသော ကလေးကို မနိုင်တော့သဖြင့် မြတ်စွာဘုရားနှင့် ဆင်ပြောင်ကြီးတို့အကြား ချထားခဲ့ပြီး ကိုယ်လွတ်ထွက်ပြေးသွားသောအခါ နာဠာဂိရိဆင်က ၎င်းမိန်းမနောက်သို့ လိုက်ရာမှ ပြန်လှည့်လာပြီး ကလေးငယ်ထံသို့ တစ်ဖန် ပြေးသွားခြင်းကြောင့် မြတ်စွာဘုရားက ဆင်ကြီးအား ဩဒိသမေတ္တာဖြင့် ပို့လွှတ်တော် မူပြီး-

"အို . . ချစ်သား နာဠာဂိရိ၊ သင့်ကို အရက် ၁၆-အိုး တိုက်ပြီး မူးယစ်အောင် ပြုသူတို့က တစ်ပါးသူကို ဖမ်းယူ နင်းသတ်ရန် ပြုကြသည်မဟုတ်။ ငါဘုရားကို ဖမ်းယူနင်းသတ်ရန်သာ ပြုလုပ်ကြခြင်းဖြစ်၏။ အကြောင်းမဲ့ ခြေညောင်းခံ၍ သူ တစ်ပါးတို့ထံသို့ သွားမနေနှင့်၊ ငါ့ထံသို့သာ လာခဲ့လေလော"

နာဠာဂိရိဆင်ကြီးသည် ဗုဒ္ဓ၏ အသံတော်ကို ကြားလိုက်ရသောအခါ မျက်စိဖွင့်၍ ကြည့်လိုက်သည်။ မြတ်စွာဘုရား၏ တင့်တယ်လှသော ကိုယ်ခန္ဓာတော်ကို ဖူးတွေ့လိုက်ရသဖြင့် သောက်ထားသော အရက်ရှိန်များ ပျောက်ပြီး နှာမောင်းကို တွဲလျားချကာ နားရွက်ကို တဖျပ်ဖျပ် ခတ်လျက် မြတ်စွာဘုရား၏ ခြေတော်ရင်း၀ယ် ဝပ်စင်း၍ နေလေသည်။ ထိုအခါ မြတ်စွာဘုရားက-

"အို့ ချစ်သားနာဋာဂိရိ၊ ဤနေ့ ဤအချိန်မှစ၍ မကြမ်းတမ်း၊ မဆိုးဝါးလင့်။ လူတို့ကိုလည်း မသတ်လင့်။ သတ္တဝါအားလုံးတို့အပေါ် ကိုယ်တိုင်က မေတ္တာထား သဖြင့် သင့်အပေါ် မေတ္တာရောင်ပြန် သက်ရောက်လာမှု ကို ရှေးရှုပါလော" ဟု မိန့်တော်မူပြီး လက်ယာ လက်မောင်း တော်ကို ဆန့်တန်း၍ ဦးကင်း၌ ကိုင်တွယ် သုံးသပ်တော်မူ လျက် ဆက်လက် တရားဟောတော်မူလေသည်။

"အို့ ချစ်သား နာဋာဂိရိ၊ သင်သည် ဘုရားအမှူးပြု သော ရဟန္တာ သံဃာတော်တို့ကို မထိပါး မပုတ်ခတ်ပါလင့်။ ယင်းသို့ ထိပါး ပုတ်ခတ်ခြင်းသည် ဆင်းရဲကြောင်း ဖြစ်ပေ၏။ ဤဘဝမှ စုတေသည်ရှိသော် သုဂတိသို့ လားရခြင်း မရှိပေ။ ထို့ကြောင့် မာန်ယစ်သူလည်း မဖြစ်လင့်။ မေ့လျော့သူလည်း မဖြစ်လင့်။ မေ့လျော့သော သူတို့သည် သုဂတိသို့ မရောက် ကုန်။ သုဂတိသို့ သွားရမည့်အကြောင်းကို သင်သာလျှင် ပြုလုပ်နိုင်ပေလိမ့်မည်"

ဗုဒ္ဓ၏ တရားတော်ကို နာကြားလိုက်ရသော နာဋာဂိရိ ဆင်ကြီးသည် တစ်ကိုယ်လုံး အကြားမလပ် တစ်စပ်တည်း သော နှစ်သက်ခြင်းပီတိဖြစ်နေ၏။ ဤနေရာ၌ နာဋာဂိရိ ဆင် ကြီးသည် တိရစ္ဆာန်သာမဖြစ်လျှင် သောတာပန်တည်ဖို့ သေချာ ပေသည်။

သို့သော်လည်း ရိုင်းစိုင်းကြမ်းတမ်းသော အမူအရာများ မရှိတော့ဘဲ ဘုရားရှင်၏ ရှေ့တော်မှောက်၌ ကျောက်ဆင်ရုပ်

ကြီးပမာ ဝပ်နေသည်ကို လူအပေါင်းတို့က မြင်ကြရသောအခါ စောစောက အသက်မရှူဝံ့အောင် တိတ်ဆိတ်ငြိမ်သက်နေကြသလောက် ဆင်ကြီး၏ဦးကင်းကို ဘုရားရှင်က လက်တော်ဖြင့်ပင် ပုတ်၍ တရားစကား မိန့်ကြားတော်မူနေသည်ကို မြင်ကြရသဖြင့် -

**"နာဠာဂိရိ ဆင်ကို မနှိပ်မစက် လက်နက်မပါဘဲ အောင်တော်မူပြီ။ ဗုဒ္ဓက အကြွင်းမဲ့ အောင်တော်မူပြီ"** ဟု ကြွေးကြော်ကြလေသည်။

မိမိတို့ ခန္ဓာကိုယ်၌ ဆင်မြန်းထားကြသော လက်ဝတ်ရတနာတို့ကိုလည်း ပစ်မြှောက်လိုက်ကြရာ နာဠာဂိရိ ဆင်ကြီးပင် ရတနာပုံကြားဝယ် နစ်မြုပ်သွားလေတော့သည်။ နာဠာဂိရိ- ဟူသော အမည်ကို ဖျောက်၍ 'ဓနပါလဆင်ကြီး'ဟု တင်စားခေါ်ဝေါ်လိုက်ကြလေသည်။

မြတ်စွာဘုရားရှင်သည် ဓနပါလဆင်ကြီးကို ငါးပါးသီလ၌ တည်စေတော်မူပြီးသောအခါ ဆင်ကြီးလည်း မြတ်စွာဘုရား မြင်တော်မူလောက်သည်အထိ နောက်ဆုတ် ဒူးတုပ်လျက် ဆင်တင်းကုပ်သို့ ပြန်လာခဲ့ပြီး ထိုနေ့မှ အစပြု၍ မည်သူ့အပေါ်မျှ မသောင်းကျန်းတော့ဘဲ လိမ္မာယဉ်ကျေးသွားပြီဖြစ်၏။

မြတ်စွာဘုရားရှင်သည် နာဠာဂိရိဆင်ကို မေတ္တာဖြင့် ဆုံးမတော်မူပြီး ရဟန်းအပေါင်း ခြံရံလျက် ဝေဠုဝန်ကျောင်းတော် သို့ ပြန်ကြွသွားသောအခါ မြို့သူ၊ မြို့သား အပေါင်းတို့က

သောင်းသောင်းဖြဖြ ပူဇော်ကြသဖြင့် ဗုဒ္ဓသက်တော် ထင်ရှားရှိသော ကာလဝယ် အလွန်ကြီးကျယ်သော အောင်ပွဲတစ်ခု အဖြစ် ထင်ရှားသွားလေတော့သည်။

**ဗုဒ္ဓ၏ အောင်ပွဲများ**

ဗုဒ္ဓသည် ဘုရားဖြစ်တော်မူသောအခါ အသက်နှင့် အရှက် အန္တရာယ်ရှိသော ပြဿနာရပ်များကို ရင်ဆိုင်တော်မူခဲ့ရ၏။ ယင်းသို့ ရင်ဆိုင်တော်မူခဲ့ရသော်လည်း မေတ္တာဖြင့်ပင် အနိုင်ရတော်မူခဲ့လေသည်။ မေတ္တာဖြင့် အောင်ပွဲခံခဲ့သော ကိစ္စရပ်များကား -

(၁) မာရ်နတ်ကို အောင်တော်မူခြင်း၊
(၂) အာဠာဝက ဘီလူးကို အောင်တော်မူခြင်း၊
(၃) နာဠာဂိရိဆင်ကို အောင်တော်မူခြင်း၊
(၄) အင်္ဂုလိမာလကို အောင်တော်မူခြင်း၊
(၅) စိဉ္စမာဏဝိကာ မိန်းမယုတ်ကို အောင်တော်မူခြင်း၊
(၆) သစ္စက ပရိဗိုဇ်ကို အောင်တော်မူခြင်း၊
(၇) နန္ဒောပနန္ဒနဂါးမင်းကို အောင်တော်မူခြင်း၊
(၈) ဗကဗြဟ္မာကို အောင်တော်မူခြင်းတို့ပေတည်း။

**အဇာတသတ်၏ အမိန့်တော်ပြန်တမ်း**

ဤ(၈)ပါးထဲတွင် နာဠာဂိရိဆင်ကို လွှတ်၍ ဖွတ်တရွတ် နင်းခြေသတ်ဖြတ်ရန် သေကြောင်းကြံသော အရှင်ဒေဝ

ဒတ်၏ စနက်ဆိုးကို လူတိုင်းက မျက်မုန်းကျိုးကြသည်။ ဗိမ္ဗိသာရမင်းကြီးကို သတ်ရန် အကြံပေးခဲ့ခြင်း၊ လေးသည်တော်များ လွှတ်၍ မြတ်စွာဘုရားအား ပစ်သတ်ရန် စေခိုင်းခဲ့ခြင်း၊ ကျောက်မောင်းဆင်၍ လှိမ့်ချခြင်း-ဟူသော လုပ်ရပ်များသည် အလွန် ယုတ်မာပက်စက် လှသော်လည်း လုံခြုံအောင် ဖုံးဖိ၍ ထားနိုင်ခဲ့၏။ အရှင်ဒေဝဒတ်နှင့် မည်သို့မျှမပတ်သက်သယောင်လည်း ဟန်ဆောင်ပြခဲ့သဖြင့် လူအချို့ မရိပ်မိကြချေ။

ယခု ဆင်နှင့်နင်းသတ်စေသည့်လုပ်ရပ်ကား လူအများ ရှေ့မှောက် နေ့ခင်းကြောင်တောင်၌ ဖြစ်ခြင်းကြောင့် ဖုံးကွယ်ဟန်ဆောင်၍ မရနိုင်တော့ပေ။

"အရှင်ဒေဝဒတ်က ဒီလောက် ရိုင်းစိုင်း ကြမ်းတမ်းလှတဲ့ ဆင်ကြီးနဲ့ ဘာဖြစ်လို့ ဗုဒ္ဓကို နင်းသတ်ခိုင်းရတာလဲ။ ယုတ်မာလိုက်တဲ့ ကိုယ်တော်ကွာ"

"ဟာ. ကိုယ့်လူ၊ ဒါတင်ဘယ်ကမလဲ။ အဇာတသတ်မင်းက သူ့ဖခင် ဗိမ္ဗိသာရမင်းတရားကြီးကို သတ်ဖြတ်တဲ့ ကိစ္စဟာ အရှင်ဒေဝဒတ် မြှောက်ပေးခဲ့တာပဲလေ။ နောက်တစ်ချက် အဇာတသတ်မင်းထံက လက်ဖြောင့်လေးသည်တော်တွေ အလှူခံပြီးတော့လည်း ဗုဒ္ဓကို ပစ်ခတ်ခိုင်းခဲ့သေးတယ်။ ဂိဇ္ဈကုဋ်တောင်ပေါ်ကနေ ကျောက်တုံးကြီးနဲ့ ပစ်ပေါက်ခဲ့တာလည်း အရှင်ဒေဝဒတ်ပဲ"

"နေပါအုံး၊ အဲဒီဆင်တွေ၊ လေးသည်တော်တွေဆိုတာ အရှင်ဒေဝဒတ် ဘယ်ကရတာလဲ"

"ဟာ. အဇာတသတ်မင်းနဲ့ ပူးပေါင်းပြီး လုပ်ကြံကြတာပေါ့"ဟူ၍ အချင်းချင်း ပြောဆိုကြပြီး အဇာတသတ်မင်းကိုပါ အုတ်အုတ်ကျက်ကျက် ဆူပူကန့်ကွက်၍ ရှုတ်ချကြလေသည်။ အဇာတသတ်မင်းလည်း တစ်မြို့လုံးက အုတ်အုတ်ကျက်ကျက် ဆူပူကန့်ကွက်၍ ဆန္ဒပြကြသဖြင့် မဟာအရှက်တော်ရခြင်းကြောင့် အရှင်ဒေဝဒတ်ကို ဘယ်တော့မှ နန်းတွင်းသို့ ကြွမလာခဲ့ရန် အမိန့်ပေးပြီး အပြီးအပိုင် နှင်ထုတ်လိုက်သည့်အပြင် ဆွမ်းအိုးငါးရာတို့ကိုလည်း ဖြတ်တောက်လိုက်လေသည်။ ကိုးကွယ် ဆည်းကပ်မှု မရှိတော့ဘဲ သူ့ကြောင့် သူတော်ကောင်း ဖခင်ကြီးကိုလုပ်ကြံသတ်ဖြတ်မိခဲ့သည့် အမှားကို သတိရကာ အရှင်ဒေဝဒတ်အား မျက်နှာကို မကြည့်ချင်တော့လောက်အောင် မုန်းတီးသွားလေတော့သည်။

## <u>အရှင်အာနန္ဒာ၏ အတိတ်ပုံရိပ်များ</u>

ဤကိစ္စအတွက် အရှင်ဒေဝဒတ် နာမည်ပျက်သလောက် ဂုဏ်မြောက်သော ပုဂ္ဂိုလ်ကား အရှင်အာနန္ဒာဖြစ်၏။ အရှင်အာနန္ဒာသည် သေရေးရှင်ရေးကိစ္စတစ်ခု ကြုံလာသောအခါ ခေါင်းရှောင် ထွက်ပြေးသွားသော မိတ်ဆွေတုမျိုးမဟုတ်။ မိမိအသက်ကို ပဓါနမထားဘဲ ဘုရားရှင်၏ ရှေ့မှရပ်၍ အသက်တော် ကိုယ်စား စွန့်စားတော်မူရာတွင် ဘုရားရှင်က တန်ခိုးတော်သုံးပြီး ဖယ်ရှားတော်မူခဲ့ရ၏။

ယင်းသို့သော ပြုမူချက်ကို ပြဿနာ ရှင်းလင်းသွား

သောအခါ၌ ရဟန်းသံဃာတော်များ၊ လာရောက်ကြည့်ရှုနေကြသော ဒကာ ဒကာမများတို့က အကြီးအကျယ် ချီးမွမ်းစကားပြောကြားကြလေသည်။

မြတ်စွာဘုရား ကိုယ်တော်တိုင်ကပင် "အာနန္ဒာကားယခု ဘဝ၌သာ အသက်စွန့်၍ ကာကွယ် စောင့်ရှောက်ခဲ့သည် မဟုတ်သေး။ ရှေးရှေးဘဝတို့၌လည်း ငါဘုရားအတွက် အသက်စွန့်ခဲ့ဖူးလေပြီ"ဟု မိန့်တော်မူပြီး 'သုဝဏ္ဏကက္ကဋဇာတ်၊ ရောဟဏမိဂဇာတ်၊ စူဠဟံသဇာတ်၊ မဟာဟံသဇာတ်'တို့ကို ဟောကြားတော်မူလေသည်။

## သုဝဏ္ဏကက္ကဋဇာတ်

ဤဇာတ်တွင် အရှင်အာနန္ဒာအလောင်းသည် လယ်ပုစွန်လုံးကြီး ဖြစ်၍ ဘုရားအလောင်း လယ်သမားအား ကိုက်သော မြွေကို ဖမ်း၍ အဆိပ်ပြန်စုပ်စေခြင်းဖြင့် အသက်ကို ကယ်တင်ခဲ့သည်။

## ရောဟဏမိဂဇာတ်

ဤဇာတ်တော်တွင် အရှင်အာနန္ဒာသည် 'စိတ္တ'မည်သော ညီတော်သမင်ဖြစ်၍ ညွှတ်ကွင်းမိနေသော ဘုရားအလောင်း ရောဟဏသမင်အတွက် အသက်စွန့်၍ ရှေ့မှရပ်တည်ကာ မုဆိုးအား ဖျောင်းဖျပြောဆိုပြီး ညွှတ်ကွင်းမှ လွတ်စေခဲ့လေသည်။

## စူဠဟံသဇာတ်နှင့် မဟာဟံသဇာတ်

ဤဇာတ်တော်တို့တွင် 'သုခုမ'မည်သော ဟင်္သာစစ်သူကြီး ဖြစ်၍ ညွတ်ကွင်းမိနေသော ဘုရားအလောင်း ဟင်္သာမင်းအား လွတ်ကင်းစေခဲ့သည်။ ဘုရားအလောင်းရှေ့မှရပ်၍ အသက် စွန့်ကာ မုဆိုးအားဖျောင်းဖျပြောဆိုပြီး အသက်ချမ်းသာရာရစေ ခဲ့သည်။

## တန်ခိုးအရှိန် ညှိုးမှိန်သွားသော အရှင်ဒေဝဒတ်

အရှင်ဒေဝဒတ် အိပ်၍ မပျော်တော့ပေ။ နန်းတွင်းမှာ ဝင်ထွက်သွားလာနေရသောအခွင့်အရေးသည် သူ့ဘဝအတွက် ခွန်အားတစ်ခု ဖြစ်ခဲ့၏။ ယခု ရှင်ဘုရင်က ဝင်ခွင့်ပင် မပြုတော့သဖြင့် ကြိုးပြတ်ကျသွားသော ရုပ်သေးရုပ်ကဲ့သို့ ဘာမှ လှုပ်ရှားမှု မပြုနိုင်တော့ပေ။

ယခင်ကဆိုလျှင် 'ဘုရင်ကို ပိုင်ပါတယ်'ဟူသော အချိုးဖြင့် မင်းမှူးထမ်းတို့ကို 'ရာထူးတိုးလိုသလား၊ ဒါမှမဟုတ် ရာထူးမှ ပြုတ်ကျသွားချင်သလား'စသော အဟိန်းအဟောက်စကားတို့ကို ခြိမ်းခြောက်အသုံးပြု၍ နန်းတွင်းတစ်ခုလုံးကို သွန်လိုသွန် မှောက်လို မှောက်ခဲ့ခြင်းကြောင့် မင်းမှူးထမ်းများ အရှင်ဒေဝဒတ်ကို ကြောက်လန့်ခဲ့ကြရပေသည်။ ယခု ဝင်ခွင့်လေးပင် မရတော့သဖြင့် အဘယ်မျှစိတ်ဓါတ်ကျနေလိုက်ပါလေမည်နည်း။ (အချို့ အိပ်ရာထဲလဲ၍၊ အချို့သေပွဲဝင်သွားကြသည်ကိုပင် တွေ့ရဖူးပါ၏။)

သို့သော်လည်း နှာခေါင်း၌ ဝံသည်းခြေ သုတ်လိမ်းခြင်း ခံထားရသော တောခွေးသည် မိမိကိုယ်တိုင် လေလည်သည်ကို ပင် ဗုံးခွဲ ရန်စသည် ထင်၍ မြင်မြင်သမျှကို ဒေါသဖြင့် တိုက် ခိုက်ရန် တာစူနေတတ်သကဲ့သို့ အရှင်ဒေဝဒတ်အဖို့ မထူး ဇာတ်ခင်းရန်မှတစ်ပါး အခြားမရှိတော့ချေ။

ယနေ့ မျက်မှောက်ခေတ်၌လည်း သူတစ်ပါးကို တိုက် ခိုက်၍ အမိုက်ဇာတ်ခင်းနေကြသော လူယုတ်မာ အချို့တို့ သည် မိမိတို့ကိုယ်တိုင် သူတော်ကောင်းတို့ နေထိုင်ရာ ဘုံဗိမာန် ၌ သူတော်ကောင်း စာရင်းဝင်အဖြစ်ဖြင့် နေထိုင်ရပြားသော် လည်း သူတော်ကောင်းတရား ရင်ဝယ်မထားနိုင်ကြဘဲ လာဘ် လာဘနှင့် ထင်ပေါ်ကျော်ကြားမှု ဟူသော ဝံသည်းခြေကို အုပ်စုတစ်ခုက သူတို့ဘဝ တိုးတက်ရေးအတွက် မိမိနှာခေါင်းမှာ သုတ်လိမ်း မြှောက်ပင့်ပေးနေသည်ကိုပင် မရိပ်စားမိရှာဘဲ ဘဝ တူချင်းအပေါ် ဣဿာမစ္ဆရိယ မျက်နှာဖုံးတပ်လျက် အမုန်း ဇာတ်ခင်းနေကြသည်ကို တွေ့ရှိရပေသည်။

ယင်းသို့ 'လူမုန်းခံရခြင်းကိုပင် အောင်မြင်သော ရလဒ် တစ်ခု'ဟု ထင်နေရှာသော လူယုတ်မာသည် ထိလျှင်ကိုက် တတ်သည့် မြွေပွေးတစ်ကောင်အား ရွံရှာစက်ဆုပ်ကြသဖြင့် တစ်နေ့ ဝါးရင်းတုတ်စာမိရှာမည့်အရေးကို တွေး၍ပင် သနားမိ ရပေသေးတော့သည်။

ထို့ပြင် တရားမရှိသော မိမိ၏ဖြစ်အင်ကို ပြန်ကြည့်ပါ က အတ္တအချွန်အတက်တို့ဖြင့် သလွန်ထက်ဝယ် လျောင်းစက်

နေရသည်ကိုပင် အပြစ်မမြင်ရှာဘဲ အပါယ်ရွာခြေလှမ်းကို 'နိဗ္ဗာန်စခန်းအတွက် ထေရဝါဒ သာသနာပြုအလုပ်'ဟု သမုတ်ထားကြသည်မှာလည်း ပို၍ပင် သနားစရာကောင်းလှပေတော့သည်။

အို . . သူတော်ကောင်းတို့၊ ဝံသည်းခြေ သုတ်လိမ်းခြင်း ခံထားရသော ငရဲခွေးကြီး လွှတ်ထားပြီဖြစ်၍ မွန်းမတည့်မီကြားဝယ် မိမိကို ကိုက်စားခြင်း မခံရအောင် ရှောင်ရှားကြပါကုန်လော။ ငရဲခွေးကြီးသည် လူကို မဆိုထားဘိ နွားချေးပုံကိုပင် ကိုက်ခဲပြီး အောင်ပွဲခံနေသည့်အပြင်၊ မြင်မြင်သမျှ ကိုက်ခဲရန် ခွေးရူးရောဂါ အရှိန်ပျံ့နေပြီဖြစ်၍ သတိကြီးစွာ ရှောင်ရှားတော်မူကြပါကုန်လော။

* * * * *

# အခန်း(၅)

## ယခင်ကောင်းပေမယ့် ယခုတောင်းရပြီ

အရှင်ဒေဝဒတ်သည် သူ့အား တစ်မြို့လုံးက အမုန်းပွား၍ ကြည်ညိုမှု ပျက်ပြားသွားသဖြင့် စားဝတ်နေရေး ခက်ခဲခြင်း ကြောင့် နောက်လိုက် ပရိသတ်တို့၏ ရေ့ရေးကိုပါ တွေးပြီး စိတ်မအေးရှာတော့ပေ။ ဝါဒတစ်ခု ထူထောင်ရာ၌ နောက်လိုက် ပရိသတ် မရှိလျှင် အဘယ်မျှပင် ကြိုးစားချင်ငြားသော်လည်း ပတ်ဝန်းကျင်က အရူးချေးပန်းအလုပ် ဟူ၍သာ ထင်မြင်ကြမည် ဖြစ်သောကြောင့် နောက်လိုက် ပရိသတ်မရှိ၍ မဖြစ်ပေ။ ရှိလာလျှင်လည်း သူတို့၏ စားဝတ်နေရေးကို ဘာမှ လိုလေသေးမရှိအောင် ကြံဆောင်ရပေမည်။

ထို့ကြောင့် အရှင်ဒေဝဒတ်သည် မြို့တွင်းသို့ ဝင်ပြီး "ဒကာ၊ သင်က သံဃာတစ်ပါး၊ သင်က နှစ်ပါး၊ သင်က သုံးပါး တာဝန်ယူ၍ ဆွမ်းကျွေးလော" စသည်ဖြင့် နောက်လိုက် ပရိသတ်အတွက် အာဟာရ အတောင်း ထွက်ရပါလေပြီ။

တန်းဆွမ်းအဖြစ် တစ်လမ်းဝင်၊ တစ်လမ်းထွက်၍ ဆွမ်းခံကြမည်ဆိုလျှင်လည်း အရှင်ဒေဝဒတ်နှင့် အသင်းဝင်များ ဖြစ်ခြင်းကြောင့် 'ကန်တော့ဆွမ်း'ပင် ရကြမည် မဟုတ်ပေ။ ထို့ကြောင့် ဖွတ်အတင်း အလျှုခံခြင်း ဖြစ်၏။ ထိုအခါ လူတို့က

. . . "သာကီဝင်မင်းသား မြတ်စွာဘုရား၏ တပည့်သား ရဟန်းတို့သည် ဒကာ ဒကာမတို့က မဖိတ်ကြားဘဲ အတင်းအဓမ္မ တောင်းခံနေကြပါသလား"ဟူ၍ ကဲ့ရဲ့ကြ၏။ အရှင်ဒေဝဒတ်၏လုပ်ရပ်ကို ဘုရားရှင်သိတော်မူသောအခါ သိက္ခာပုဒ် ပညတ်၍ တားမြစ်တော်မူရလေသည်။ သိက္ခာပုဒ် ပညတ်တော်မူခြင်းသည် . . .

(၁) မကောင်းသော ပုဂ္ဂိုလ်များကို နှိမ်နင်းရန်၊

(၂) သီလကို ချစ်ခင်ကြသော ရဟန်းတို့အား ချမ်းသာစွာ နေထိုင်ရစေရန်၊

(၃) လူ ဒါယကာတို့ကို စောင့်ရှောက်မှု ဖြစ်စေရန် ဟူသော အကျိုးထူး သုံးပါးကို ရည်ညွှန်း၍ ပညတ်တော်မူခြင်း ဖြစ်၏။

အရှင်ဒေဝဒတ်သည် မြတ်စွာဘုရားကို နည်းအမျိုးမျိုးဖြင့် သေကြောင်း ကြံခဲ့သော်လည်း မြတ်စွာဘုရားက မိန့်တော်မူလျှင်(ခေါ်လျှင်)အလွယ်နှင့်ပင်လိုက်ပါလာခဲ့၏။ မျက်နှာနေမျက်နှာထား မပျက်ပြားဘဲ ရိုသေလေးစားသော အသွင်ကို ဆောင်လျက် မျက်နှာပြောင် တိုက်တတ်လေသည်။

သာမန်ပုဂ္ဂိုလ်ဆိုလျှင် မြတ်စွာဘုရားရှင်၏ မျက်နှာတော်ကို ကြည့်ရဲဖို့ပင် မလွယ်ကူတော့ပေ။ အရှင်ဒေဝဒတ်ကား ထိုသို့ မဟုတ်။ မြတ်စွာဘုရား၏ ရှေ့တော်၌ ဘာမှ မလုပ်သည့် အသွင် လိုလိုပင် ပီပြင်အောင် နေပြတတ်လေသည်။

အရှင်ဒေဝဒတ်၏ မျက်နှာပြောင်တိုက်မှု ဖြစ်ပေါ်ပြီး

လာဘ်လာဘကို တာရှည်တည်တံ့အောင် မထိန်းသိမ်းနိုင်ဘဲ- တောင်းရမ်းစားသောက်ရသည့် အခြေအနေတို့ကို ကြည့်ကာ ရဟန်းအပေါင်းတို့က ပြစ်တင်ကဲ့ရဲ့ကြသည်ကို ဘုရားရှင်ကြား သိသွားတော်မူသောအခါ "ရဟန်းတို့ . . ဒေဝဒတ်သည် ယခုဘဝ၌သာ မိမိရထားသော လာဘ်လာဘကို အရှည်တည် တံ့အောင် မထိန်းနိုင်သည်မဟုတ်။ ရှေးကလည်း ဤသို့ပင် ဖြစ်ခဲ့ဖူးလေပြီ" ဟု မိန့်တော်မူပြီး 'သဗ္ဗဒါဌဇာတ်-နှင့် ကာဠ ဗာဟုဇာတ်'တို့ကို ဟောကြားတော်မူလေသည်။

## သဗ္ဗဒါဌဇာတ်

ဤဇာတ်တော်၌ အရှင်ဒေဝဒတ်အလောင်းသည် 'သဗ္ဗ ဒါဌမြေခွေး' ဖြစ်၍ ဘုရားအလောင်းတော်ကား ပထဝီဇယမန္တန် ကိုတတ်သော ပုရောဟိတ်ပုဏ္ဏား ဖြစ်ခဲ့သည်။ ဘုရား အလောင်းသည် ထိုမန္တန်ကို သရဇ္ဈာယ်လို၍ ကွင်းပြင်တစ်ခု၌ ရှိသော ကျောက်ဖျာပေါ်တွင် ထိုင်ကာ မန္တန်ကို အစအဆုံး သရဇ္ဈာယ်၏။ ထိုမန္တန်၏ အစွမ်းကား မြေပြင်အလုံးကို စိုးမိုး အုပ်ချုပ်၍ မင်းအဖြစ် ပြုလုပ်နိုင်၏။

ထို့ကြောင့် တစ်စုံတစ်ယောက်မျှ ချောင်းမြောင်း၍ နား မထောင်သာအောင်(ပြင်ပလူလာလျှင်လည်း မြင်သာအောင်) ကွင်းပြောင်ပြောင်ကို ရွေး၍ သရဇ္ဈာယ်ခြင်းဖြစ်၏။ ယင်းသို့ လျှို့ဝှက်စွာ ရွတ်ဆိုပါသော်လည်း တွင်းတစ်ခု၌ အောင်းနေ သော မြေခွေးတစ်ကောင်က ရှေးဘဝကလည်း ဤမန္တန်ကို

ရဖူးသောကြောင့် ပုဏ္ဏားသရဖျှာယ်သံကို ကြားသောအခါ နှုတ်တက် ရသွားလေသည်။

ဘုရားအလောင်း ပုဏ္ဏားသည် မန္တန်ကို သရဖျှာယ်ပြီး နောက်"ငါသည် မန္တန်ကို ကျေပွန်စွာ ရွတ်ဆိုနိုင်ပေသည် တကား"ဟုပြောဆိုလိုက်သောအခါ မြေတွင်းထဲတွင် အောင်း နေသော မြေခွေးက "အို . . ပုဏ္ဏား၊ ငါသည် သင့်ထက်ပင် ကျေပွန်လှပေသည်"ဟု ပြောဆိုပြီး ထွက်ပြေးလေသည်။

ပုဏ္ဏားသည်လည်း "ဤမြေခွေးကား ဂါထာမန္တန်ကို အသုံးချပြီး ကြီးမားသော အကုသိုလ်အမှုကို ပြုပေတော့မည်" ဟု သိသဖြင့် ဖမ်းဆီးရန် နောက်ကလိုက်သော်လည်း မမီနိုင် တော့ဘဲ မြေခွေးက တောထဲသို့ ဝင်ရောက် ပျောက်ကွယ် သွားလေသည်။

ပုဏ္ဏားထင်ထားသည့်အတိုင်းပင် မြေခွေးသည် ဂါထာ မန္တန်ကို အသုံးချ၍ တောဘုရင် လုပ်နေသည့်အပြင် ဗာရာဏ သီ ပြည်ကို အုပ်ချုပ်၍ မင်းလုပ်ရန် ကြံစည်သော်လည်း နောက်ဆုံး၌ ဆင်နင်းသတ်၍ မရှုမလှ သေဆုံးရ၏။

## ကာဠုဗာဟုဇာတ်

ဤဇာတ်တော်၌ အရှင်ဒေဝဒတ်အလောင်းက 'ကာဠု ဗာဟု၊ လက်မောင်းနက်သော' မျောက်တစ်ကောင်ဖြစ်၍၊ မြတ် စွာဘုရားအလောင်းတော်နှင့် အရှင်အာနန္ဒာအလောင်းတို့က 'ရာဓ နှင့် ပေါဋ္ဌပါဒ' အမည်ရှိသော ကျေးညီနောင် ဖြစ်ကြလေ

သည်။

ထိုကျေးညီနောင်ကို မုဆိုးက ဖမ်း၍ ဇာရာဏသီပြည့်ရှင် ဘုရင်စနေဒွယမင်းကြီးအား ဆက်သသဖြင့် ဘုရင်ကြီးက ရွှေခွက်၌ ချိုသောပေါက်ပေါက်တို့ကို ထည့်၍ ကျွေးမွေးစောင့်ရှောက်ထားလေသည်။

တစ်နေ့သောအခါ မုဆိုးက 'ကာဠဇာဟုမျောက်' ကိုလည်းဖမ်းလာခဲ့ပြီး ဘုရင်ကြီးအား ဆက်သပြန်လေရာ၊ နောက်မှ ရောက်လာသော သတ္တဝါအသစ်အဆန်း ဖြစ်ခြင်းကြောင့် ဘုရင်နှင့်တကွ ကျွေးမွေးပြုစုကြသူ ပေါများသဖြင့် ကာဠဇာဟု လာဘ်ရွှင်နေလေသည်။ ယင်းကို ကြည့်၍ ညီငယ်ကျေးသားက-

"အစ်ကိုရာ၊ ရှေးက ငါတို့အား စားဖွယ် သောက်ဖွယ်တွေ ကျွေးမွေးကြတဲ့အတွက် လာဘ်ရွှင်တယ်။ ကာဠဇာဟုမျောက် ရောက်လာတဲ့နေ့က စပြီး ငါတို့ လာဘ်ပိတ်သွားပြီဖြစ်၍ တောတွင်းသို့ ပြန်ကြပါစို့လား"

"မစိုးရိမ်ပါနဲ့ ညီလေး၊ ဒီမျောက်ဟာ နား၊ မျက်လုံး၊ ခြေလက်တွေကို စောင့်စည်းတဲ့ ဣန္ဒြေမရှိဘူး။ မင်းသားမင်းသမီးတွေက သူ့ရဲ့ အမူအရာကို ကြည့်ပြီး အလိုအလျောက်မုန်းတီးလာလိမ့်မယ်။ ကာဠဇာဟုဟာ လူ့လာဘ်လာဘကို တာရှည်အောင် ထိန်းမထားနိုင်ဘဲ လာဘ်ပိတ်ပြီး ထွက်ပြေးရလိမ့်မယ်"

ဘုရားအလောင်း ပြောဆိုသည့်အတိုင်းပင် မျောက်

သည် မင်းသား မင်းသမီးတို့ကို မျက်လုံးပြူး၍ ပြ၏။ ကိုက်မည့် ဟန်ဖြင့် သွားများကို ဖြဲပြ၏။ ထိုအမူအရာများကို မြင်ကြရသော မင်းသား မင်းသမီးငယ်တို့က ကြောက်လန့် ငိုယိုပြီး အော်ဟစ်ကြသောကြောင့် ကာဠုဗာဟုအား အစာမကျွေးကြသည့်အပြင် ကျောက်ခဲဖြင့်ပင် ပစ်ပေါက်ကြလေသည်။

ကာဠုဗာဟု အနား၌ စားစရာများ မရှိတော့ဘဲ တောထဲသို့ပင် နှင်ထုတ်ခံရလေသည်။ အရှင်ဒေဝဒတ်သည် ယခုဘဝ၌ မင်းကိုးကွယ်ခံ ဆရာတော်ဖြစ်သော်လည်း မသင့်တင့်သောအမူတို့ကို ပြု၍ မူလဇာတိရုပ် ပေါ်လာခြင်းကြောင့် ဘုရင်၏နှင်ထုတ်ခြင်းကို ခံရသည် မဟုတ်ပါလော။

## မရှိဂုဏ် အရှိလုပ်သူများ

အရှိန်အဝါ ဂုဏ်သိက္ခာ ကျဆင်းသွားသူတို့သည် ယင်းဂုဏ်သိက္ခာ ပြန်လည် ရရှိရေးကို နည်းအမျိုးမျိုးဖြင့် အဖတ်ဆည်၍ ကြိုးစားတတ်ကြ၏။ ကြိုးစားမှုကို ဥပမာ ရှာကြည့်လိုက်သောအခါ. လောက၌ 'ဝမ်းတွင်းစုန်း၊ ဘူးသွင်းစုန်း၊ တောက်စားစုန်း' ဟူ၍ စုန်း(၃)မျိုး ရှိကြောင်း ကြားနာမှတ်သားရဖူးပါ၏။

\+ အမိဝမ်းတွင်းမှာ ပဋိသန္ဓေ နေလာစဉ်ကတည်းက ပါလာခဲ့သော အတတ်ပညာဖြစ်ခြင်းကြောင့် မြေလျှိုးနိုင်သလို ကောင်းကင်သို့လည်း ပျံနိုင်ပြီး အသက်ရှင်နေသူ လူသားများကို အခါအားလျော်စွာ ဖမ်းစားနိုင်သော ဝမ်းတွင်းစုန်း။

\+ အတတ်ပညာများကို တစ်ဆင့် သင်ကြားပြီးမှ တတ်

မြောက်လာရခြင်းကြောင့် ဝမ်းတွင်းစုန်းလောက် မစွမ်းဘဲ အထိုက်အလျောက်သာ အစွမ်းထက်သော ဘူးသွင်းစုန်း။

+ ဘူးသွင်းမှု မတည့်ခြင်းကြောင့် မြေမလျှိုးနိုင်သလို ကောင်းကင်သို့လည်း မပျံနိုင်။ သံတိုင်လို ခိုင်မာသော စိတ်ဓါတ်ရှိသည့် ယောကျ်ား မိန်းမများကို မဖမ်းစားနိုင်သောကြောင့် လူစွမ်း လူစ အားခွန်ဗလ နည်းရှာကြသေးသည့် မွေးကင်းစ ကလေးငယ်တို့အား ပူးလိုက်၊ ကပ်လိုက်၊ ခွါလိုက်၊ ဗိုက်နာအောင်၊ ခေါင်းခဲအောင်၊ ငိုအောင်၊ ရယ်အောင်၊ လုပ်တတ်သည့်အပြင် အောက်လမ်း ဆရာကြီးတို့၏ ပြင်းထန်သည့် အမိန့်ကို နာခံ၍ခိုင်းတာမှန်သမျှ လုပ်ရပြီး 'ခေါစာ'နှင့် မလုံလောက်သဖြင့် နေညို သောအခါ လူတကာယိုထားသည့် မစင်အိမ်မှာ ဇိမ်ကျကျ ဝင်ပြီး စားရရှာသော 'တောက်စားစုန်း' (ချေးစားစုန်း) များနည်းတူ. . .

ရှေးအတိက်က ပါရမီဓါတ်ခံအား ပါမလာသည့်အပြင် သင်ကြားမှု ပညာက မရှိ။ (ဘူးသွင်းမှုမတည့်) သဖြင့် သူတော်ကောင်းတရား အစွမ်းက မိမိသန္တာန်မှာ မရှိသောကြောင့် ရှိသူများကို မကြည့်နိုင် (မကြည်ညိုနိုင်) ကိုယ်ပိုင်သတ္တိ မေတ္တာမျက်စိဖြင့် တစ်လောကလုံးကို မကြည့်နိုင်ဘဲ လူညံ့တို့နည်းတူ အရှင်ဒေဝဒတ်၏ တပည့်များကလည်း ဈာန်အဘိညာဉ် တန်ခိုးမရှိတော့သော မိမိတို့၏ ဆရာသမားကို သံယာကြား၌ မျက်နှာငယ် မခံလိုကြသဖြင့် (လှေ့ခွက်ချည်းကျန်၊ အလံမလှဲလိုသော စိတ်ဓါတ်ဖြင့်) အကြံအစည်တစ်ခုကို ဖန်တီးကြလေသည်။ သူ

တို့ ဖန်တီးကြပုံများကား-

"အရှင်ဒေဝဒတ်ဆိုတာ သာမန်ကိုယ်တော် မဟုတ်ဘူး။ မဟာသမ္မတမင်းမျိုးက ဆင်းသက်လာခဲ့တဲ့ သြက္ကာကရာဇ် မင်းမျိုးမင်းနွယ် ဖြစ်တယ်။ ဘိုးဘေးတို့ လက်ထက်ကတည်းက မြင့်မြတ်လာခဲ့တဲ့ အသမ္ဘိန္န မင်းမျိုးအစစ်ဖြစ်တယ်။

"တိုင်းသူပြည်သားတို့ရဲ့ သက်ဦး ဆံပိုင် အရှင်သခင်တစ်ပါးဖြစ်တဲ့အတွက် အရှိန်သြဇာ ဘယ်တော့မှ ကုန်တယ်ရယ်လို့ မရှိဘူး။ (ဤ၌ 'ဘယ်-အဘိဓဇ ဆရာတော်ကြီး၏မြေး၊ အဂ္ဂမဟာပဏ္ဍိတဆရာတော်၏ အန္တေဝါသိက သားတပည့်' ဟူသော ထေရုပ္ပတ္တိမျိုးနှင့်ဆင်တူသက်ဆိုင်လိမ့်မည်မဟုတ်ပါ)

"လောကီမှာ အရှိန်အဝါ ရှိသလို လောကုတ္တရာမှာလည်း ပိဋကတ်နှံ့စပ်ပြီး ဓမ္မကထိက မထေရ်မြတ်ကြီး တစ်ပါးလည်း ဖြစ်တယ်။ ဒီတော့ သူအလိုရှိတာ အလှူခံလို့ ရရင်ရ၊ မရရင် ဒကာတို့ မိသားစုဝင်တွေ မင်းပြစ်၊ မင်းဒဏ် မသင့်ဘူးလို့ ဘယ်သူ အာမခံနိုင်မလဲ။ ဒါကြောင့် အရှင်ဒေဝဒတ်ကို တခြားသံဃာများ နည်းတူ မလှူဘဲ မနေကြနဲ့၊ ဒါပဲ" ဟူ၍ ခြောက်လုံးစကားတို့ဖြင့် စားဝတ်နေရေးကိုကောက်ခံဖြေရှင်းကြလေသည်။

မြတ်စွာဘုရားရှင်က သိက္ခာပုဒ် ပညတ်ထားသော်လည်း အတွေးအခေါ် မရှိသူများနှင့်၊ ခြောက်လျှင် ကြောက်တတ်သူတို့အဖို့ ဘာမှို့ နေရဲလေမည်နည်း။ ရှေ့ကလည်း အဇာတသတ်မင်းနှင့် ပေါင်း၍ မကောင်းမှုမျိုးစုံ လုပ်ခဲ့ပြီဖြစ်၍ ကြောက်မည်ဆိုလျှင် ကြောက်စရာပင် ဖြစ်၏။

အရှင်ဒေဝဒတ်၏ တပည့် အရှင်ကောကာလိက ပြောသော စကားများကလည်း ဟုတ်မှန်နေသဖြင့် သံဃာအချင်းချင်းပင် တွန့်ဆုတ်သွားချင်စရာပါတည်း။ သာဓက တင်ပြရလျှင် ကျောက်မောင်းဆင်၍ ဗုဒ္ဓကို သေကြောင်း ကြံစည်စဉ်က ဘယ်အရှင်မှ ပါးစပ်မဟရဲခဲ့ကြပေ။ ဗုဒ္ဓက ပကာသနိယကံ ပြုခိုင်းခဲ့စဉ်ကလည်း သံဃာများစွာ ခြံရံ၍ အမိန့်တော်ပြန်ခဲ့ကြရသည်ကို ကြည့်လျှင် အရှင်ဒေဝဒတ်ကို ရွံကြောက်၊ ကြောက်ကြသည့် သံဃာများ နည်းမည်မဟုတ်ပါ။

ခက်တာက လူမိုက်မှာလည်း ကုသိုလ်၊ အကုသိုလ် နှစ်မျိုးလုံး ရှိသဖြင့် ရေများသောအခါ မီးမတိုးနိုင်သကဲ့သို့ အကုသိုလ်များလည်း အလှည့် မရောက်သေးမီကာလ၌ ဗုဒ္ဓကို သေကြောင်းကြံသည်ကိုပင် လက်ပိုက်ကြည့်နေခဲ့ရ၏။ မည်သို့ဆိုစေ လူမိုက်၏အရိပ်သည် ခွေးလျှာနွယ်ချုံအောက်၌ ထိုင်နေရသကဲ့သို့ ဖြစ်ပါပေတော့သည်။

ယခုလည်း သာကီဝင်မင်းသား ဘုရားရှင်၏တပည့်များ ဖြစ်ကြပါလျက် အစားတစ်လုတ်အတွက် အလွန်စက်ဆုပ်ဖွယ် ကောင်းသောလုပ်ရပ်ကား မိမိတို့ ဂုဏ်ပုဒ်ကို ပြောင်ပြောင်တင်းတင်း ဖေါ်ထုတ်၍ ရဟန်းတစ်ပါးဟူသော သရုပ်ကို ပြနေကြသဖြင့် ဓမ္မနှင့် အလှမ်းကွာဝေးစေသော အလုပ်တို့ကို ဗုဒ္ဓ၏ မျက်နှာတော်ကိုမျှ မထောက်ထားကြတော့ဘဲ 'တောက်စားစုန်းဘဝ'ကိုအလိုလိုခုန်ဆင်းလိုက်ကြသည်မှာ အလွန်ပင်ရင်နာစရာ ကောင်းလှပေတော့သည်။ ရထားတွဲပေါ်က ကိုယ်ပိုင်

ဝတ် 'ဦးတောထွက်'များကို ဘုရားရှင်သာရှိလျှင် ၎င်းတို့ကို ဆွဲခေါ်၍ ပြလိုက်ချင်ပါသည်။

ထို့ကြောင့် သာသနာတော်ကို ချစ်မြတ်နိုး၍ ဗုဒ္ဓ၏ သဗ္ဗညုတဉာဏ်တော် တန်ခိုးကို အဖိုးမဖြတ်နိုင်ကြသည့် နှလုံးသားသခင် သံဃာတော် အရှင်မြတ်များက မြတ်စွာဘုရားကို တိုင်တန်းလျှောက်ထားကြသောအခါ မြတ်စွာဘုရားက-

"ရဟန်းတို့၊ ဒေဝဒတ်နှင့်ကောကာလိကတို့သည် ယခုမှသာ အချင်းချင်း၏ ဂုဏ်ပုဒ်ကို မဟုတ်မမှန် လုပ်ကြံဖေါ်ထုတ်၍ အစားတစ်လုတ်အတွက် သရုပ်ဆောင် စားသောက်ခဲ့ကြသည် မဟုတ်။ ရှေးကလည်း ဤသို့ပင်ပြောဆို၍ စားခဲ့ကြဖူးလေပြီ"ဟု မိန့်တော်မူပြီး 'ဇမ္ဗုခါဒကဇာတ်' ကို ဟောကြားတော်မူလေသည်။

## ဇမ္ဗုခါဒကဇာတ်

ဤဇာတ်တော်၌ ဘုရားအလောင်းတော်က ရုက္ခစိုးနတ်ဖြစ်၍ အရှင်ဒေဝဒတ်အလောင်းက ခြေခွေး၊ ကောကာလိက အလောင်းက ကျီး ဖြစ်လေသည်။ တစ်နေ့သောအခါ ကျီးသည် သပြေပင်ပေါ်၌ သပြေသီးမှည့်တို့ကို စားနေလေရာ မြေခွေးက မြင်သောအခါ၌ ကျီး၏ သဏ္ဌာန်ဝယ် မရှိသော ဂုဏ်ပုဒ်များကို ဖေါ်ထုတ်မြှောက်ပင့်၍ သပြေသီး စားရရေးကို ကြံတွေး ပြောဆိုလေသည်။

"အို . . အဆွေကျီးမင်း၊ အသင်၏ အသံသည် ကြည်

လင်ပြတ်သား၍ သာယာလှပါပေ၏။ အသံကောင်းသော ငှက်တို့တွင် အသင်ကျီးမင်း၏ အသံသည် ထိပ်ဆုံးက ဖြစ်ပါ၏။ သပြေကိုင်းပေါ်၌ နားနေသော သင်ကျီးမင်း၏ ခန္ဓာကိုယ်သည် ဥဒေါင်းပျို တစ်ကောင်၏ ကိုယ်ဟန်ကဲ့သို့ အလွန်ကြည့်၍ ကောင်းလှပါ၏"

"ဟယ်. . ကျားငယ်၏ ကိုယ်ခန္ဓာကဲ့သို့ အလွန်ကြည့်ချင်သဖွယ် ကောင်းလှသော အဆွေမြေခွေး၊ အမျိုးမြတ်သူ၏ ဂုဏ်ကို အမျိုးမြတ်သူတို့သာ မြင်တတ်ကြသဖြင့် ဟုတ်မှန်ရာကို ဆိုသော သင်မြေခွေးအား ဂုဏ်ပြုသည့် အနေနှင့် သပြေသီးမှည့်များကို ချပေးလိုက်မယ်။ အားရပါးရသာ စားပေရော့"

ထိုအခါ သပြေပင်စောင့် ရုက္ခစိုးနတ်သည် ကျီးနှင့် မြေခွေးတို့ အချင်းချင်း မဟုတ်မဟတ် လုပ်ဇာတ်ခင်း၍ မြှောက်ပင့်ပြောဆိုနေကြသော အသံကို ကြားရသောအခါ "သူတစ်ပါးရဲ့ အန်ဖတ်ကို စားလေ့ရှိတဲ့ ကျီးကို မြေခွေးက ဥဒေါင်းနဲ့တူသတဲ့။ အသေကောင်ပုပ်ကိုသာ စားရလေ့ရှိတဲ့ မြေခွေးကိုတော့ ကျီးက ကျားငယ်ရဲ့ကိုယ်ခန္ဓာနဲ့တူပြန်သတဲ့။ မဟုတ်မဟတ် အချင်းချင်း မြှောက်ပင့်ပြောဆိုနေကြတဲ့ အသံဟာ ကျက်သရေမရှိလိုက်တာ" ဟူ၍ ညည်းတွားပြီး ကြောက်မက်ဖွယ်ကောင်းသော ရုပ်သွင်တစ်ခုကို ဖန်ဆင်းခြောက်လှန့်၍ သပြေပင်ရင်းမှ ထွက်ပြေးစေခဲ့လေသည်။

အရှင်ဒေဝဒတ်နှင့် ကောကာလိကတို့ သုံးစွဲခဲ့ကြသည့် နည်းပရိယာယ်သည် ထိုခေတ်၌သာမဟုတ်၊ မည်သည့်ခေတ်

တွင်မဆို တစ်ပွဲတိုးအားဖြင့် အောင်မြင်နေကြသည်ကို တွေ့မြင်နိုင်ပေသည်။ လူတစ်ယောက်သည် မိမိဂုဏ်ကို တိုက်ရိုက်ဖွင့်ဆို၍ ပြောကြားမည်ဆိုပါက 'ကိုယ့်ဂုဏ်ကိုဖော်၊ မသူတော်' စာရင်းတွင် ပါဝင်နေမည်ဖြစ်သည့်အပြင် ပတ်ဝန်းကျင်ကလည်း စက်ဆုပ်ကြမည်ဖြစ်၏။

သို့သော် တစ်ယောက်၏ဂုဏ်ကို တစ်ယောက်က ချီးမွမ်း ပြောဆိုသောအခါ၌ကား ယုံစားသက်ဝင်လာနိုင်ကြောင်း အတတ်သိထားသူတို့သည် ခေတ်အခေါ် 'အလံရှူးသမား'များကို မွေး၍ လူ့ဟန်ရေးပြနေကြသည်တို့ကို နယ်ပယ်အသီးသီးတို့၌ တွေ့မြင်နိုင်ကြပေသည်။



ရွှေဆိုင်က သူ့ရွှေ ကောင်းကြောင်း၊ စားသောက်ဆိုင်ကလည်း သူ့ဆိုင်က အစားအသောက် ကောင်းကြောင်းကို နည်းအမျိုးမျိုးဖြင့် ဖန်တီးပြောဆို ကြေညာခြင်းကား လောကီစီးပွားရေးနယ်၏ လုပ်ရပ်ဖြစ်ခြင်းကြောင့် ပြဿနာဟု မဆိုသာသော်လည်း-လောကုတ္တရာ နယ်ပယ်၌မူ အချင်းချင်း တိုက်ခိုက်၍ သူတစ်ပိုလ်၊ ငါတစ်မင်း စိတ်မျိုးမွေးကာ ဣဿာ မစ္ဆရိယ ဝတ်စုံဖြင့် အဝိဇ္ဇာ မျက်နှာဖုံး တပ်ပြီးလျှင် ရဲမက်ချင်းမှား၍ ပစ်ခတ်နေကြခြင်းကား သာသနာ ကြီးပွားကြောင်း မဟုတ်သည်ကို သတိမူသင့်ကြပေသည်။

## အတုမြင် အတတ်သင်

လောကဓံတရား(၈)ပါးရှိသည့်အနက် 'အခြံအရံများ၌

ဂုဏ်သတင်းတက်ခြင်း၊ ကျော်စောခြင်းတို့သည် ပုထုဇဉ် သတ္တဝါ များ အလွန်နှစ်သက် စုံမက်ကြသော 'လောကဂုဏ်'တစ်ပါး ဖြစ်လေသည်။ ယင်းလောကဂုဏ်သည် အမှားအမှန်ရှိသကဲ့သို့ တရားမျှတခြင်း၊ မမျှတခြင်းလည်း ရှိ၏။ အားနည်းချက် အား သာချက်-ဟူသော ချိန်ခွင်လျှာ အနိမ့်အမြင့် အတိမ်းအစောင်း များလည်း ရှိပေသည်။

ပုဂ္ဂိုလ် တစ်ဦးတစ်ယောက်မှာ ကောင်းသတင်း ကျော် ကြားသင့်သော သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ်များ တစ်စုံ တစ်ခုမျှ ပြောပလောက်အောင် မရှိဘဲ လူထဲသူထဲ၌ မိုးပျံပူ ပေါင်းကြီး ဝဲနေသကဲ့သို့ ထင်ရှားပေါ်လွင်နေခြင်းသည် အသွင် အပြင် ကောင်းသော်လည်း အတွင်းက ကျည်းအာသီး ဖြစ်နေ လျှင် ထိုကျော်ကြားမှုသည် အမှားဖြစ်၏။ တရားမျှတခြင်း လည်း မရှိတော့ပေ။

ရေသည် ပင်ကိုအားဖြင့် အရောင်အဆင်း မရှိသော် လည်း မဲနယ်မှုန့်ခတ်လိုက်သည်နှင့် ရေအားလုံး မည်းပြာသွား ရသကဲ့သို့ သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ် မရှိသူ၏ အမူ အရာ (ကိုယ်မှုနှုတ်မှု) အားလုံးကို အသိဉာဏ်နည်းသူများက အမှန်ဟု သဘောပိုက်၍ အောတိုက် ထောက်ခံပြီးလျှင် ထို ပုဂ္ဂိုလ်၏ အသွင်အပြင်အတိုင်း အတုယူတတ်ကြခြင်းကြောင့် တစ်လောကလုံး (နီးပါး) ကိုယ်ကျင့်တရားများ မည်းပြာသွား ကြရာ အဘယ်မှာ အမှန်ဟု ဆိုနိုင်ပါတော့မည်နည်း။

ထို့ပြင် လောကဓံ တရားသဘောသည် တစ်မျိုးတည်း

နှင့်ရုပ်တန့်နေသည် မဟုတ်။ စက်ရဟတ်ကြီး ခုတ်မောင်း လည်ပတ် နေဘိသကဲ့သို့အတက်အကျ ရှိ၏။ အနိမ့်အမြင့် အပြောင်း အလဲလည်း အမြဲရှိနေ၏။ ယင်းသို့သော အတက်အကျ အနိမ့် အမြင့် အပြောင်းအလဲတို့သည် တိမ်တိုက်ကြီးပမာ အလွန် အံ့ဩစရာလည်း ကောင်းလှပေသည်။

တိမ်တိုက်၏ သဘောသည် ဆင်ရုပ်ကြီးအသွင် ပေါ် လာရမှာ ခဏကြာသောအခါ လေရူးအဟုန်ကြောင့် အခြေ အထူးပုံပြောင်းပြီး ဘီလူးကြီး ဖြစ်သွားပြန်၏။ ဘီလူးပုံကို စိုက် ကြည့်နေရင်းကပင် နွားရုပ်အသွင် ပီပီပြင်ပြင် ပြောင်းလဲသွားပြန် လေတော့သည်။

## လူ့အထာနှင့် ရှေးဘုန်း

ဤသို့သော လောကဓံသဘောကို နားမလည်တတ် ကြ သူတို့က လူ့အထာကို 'ရှေးဘုန်း'ဟု ကင်ပွန်းတပ်လိုက် ကြ၏။ 'ဒီ လူက လူသာရူးတာ ဘုန်းကမရူးဘူး'ဟူ၍။ အမှန်က ကျော်စောထိုက်သော သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ် မရှိသူသည် လူအချင်းချင်း သတင်းလွှင့်၍ ကြော်ငြာခြင်း၊ လူ သိများစေနိုင်သောသတင်းစာ၊ ဂျာနယ်၊ မဂ္ဂဇင်း-စသည်တို့၌ မိမိဓါတ်ပုံ၊ မိမိရုပ်ပြ လုပ်ဆောင်ချက်၊ သတင်းတို့ကို မပျင်းမရိ ထည့်သွင်းဖော်ပြစေခြင်း၊ အသားလို၍ အရိုးတောင်းသည့် လုပ် ရပ်တို့ကို မဟုတ်မဟတ် ပုံကြီးချဲ့ကာ ပြောဆိုဝါကြွားခြင်းများ ကြောင့် မကြာမတင် ထင်ရှားကျော်ကြား၍ အခြံအရံများ

လည်း တားမရ ဆီးမနိုင်အောင် ကြီးကျယ်များပြားလာပါလေတော့သည်။

ယင်းသို့သော နည်းဖြင့် ကြီးပွားလာသောအခါ ငွေပြီးလျှင် အရှိန်အဝါက လိုချင်လာပြန်၏။ မိမိမှာ ဘာတစ်ခုမျှ ထုတ်ပြစရာမရှိသောကြောင့် အရှိန်အဝါ ရှိသူကို အမှီပြု၍ ဘက်ထရီအားသွင်းယူသလို အတင်းရော အဓမ္မပါ ပူးကပ်ပြီး၊ မရ,ရသည့်နည်းဖြင့် အရှိန်အဝါ ဂုဏ်ကြီးမားအောင် လုပ်ကြံကြလေသည်။

မိမိလိုချင်သော ထိုထိုအရှိန်အဝါ ဂုဏ်သိက္ခာများ ရလာသောအခါ ပရိသတ်အလယ်မှာ နေရာရထားပြီဖြစ်၍ မိမိကိုယ်ကို 'တယ်ဟုတ်တဲ့ ငါပါလား'ဟုပင် စိတ်ကြီးဝင်သွားတတ်ကြပေရာ ပုထုဇဉ်သဘောအရ ပြောစရာ မရှိသော်လည်း မိမိကိုယ်ကို အာဇာနည် သူတော်ကောင်းကြီးထင်၍ မြင်မြင်သမျှ သူ့အောက်က ထားလိုသော စိတ်ဓါတ်သည် အပါယ်ဇာတ်ကို ခင်းရာရောက်သောကြောင့် သနားခြင်း ကုန်အောင် သနားရပေသေးတော့သည်။

ဘယ်သူ့ပို၍ မိုက်သနည်း

ဤအကြောင်းအရာနှင့် ပတ်သက်၍ ဘုရားရှင် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတိုက်၌ သီတင်းသုံးတော်မူစဉ်က ခါးပိုက်နှိုက်နှစ်ယောက်ကို အကြောင်းပြု၍ ဟောတော်မူခဲ့သော တရားတစ်ပုဒ်ရှိ၏။ သာဝတ္ထိပြည်သူ ပြည်သားတို့သည်

ဘုရားရှင်ထံ တရားနာရန် လာရောက်ကြသောအခါ ခါးပိုက်နှိုက် နှစ်ယောက်လည်း လိုက်ပါလာခဲ့၏။ သူတို့နှစ်ယောက်၏ ရည် ရွယ်ချက်က လူချင်းပူးကပ်၍ လက်ဝတ်ရတနာများကို ဖြုတ် တောက်ရန်၊ စားစရာနှင့် ဖိနပ်ကောင်းတို့ကို အလစ်သုတ်ခိုးယူ ရန် ဖြစ်၏။

ခါးပိုက်နှိုက် နှစ်ယောက်တို့တွင် တစ်ယောက်က ဗုဒ္ဓ၏ တရားတော်ကို စူးစိုက်စွာ နာကြားလိုက်ရသဖြင့် သောတာပန် တည်သွားလေသည်။ ကျန်တစ်ယောက်က တရားနာနေသူ တစ်ဦး၏ အိတ်ကပ်မှ ငါးပဲမျှသော အသပြာကိုနှိုက်ယူရရှိသွား၏။သူတို့နှစ်ယောက် အိမ်သို့ ပြန်ရောက်ကြသောအခါ တရားသာ ပါလာခဲ့သူ၏အိမ်၌ စားစရာမရှိ။ ချက်ပြုတ်စရာ ဆန်ကမပါ။ ငွေအသပြာကလည်း ဗလာနတ္ထိ ဖြစ်နေသဖြင့် ငွေရလာသူ ခါးပိုက်နှိုက်က ဟားတိုက်၊ ရယ်မော၍ လှောင်ပြောင် ပြောဆိုလေတော့သည်။

"ထမင်းဟင်းနှင့်တကွ နေဥစ္စာဆိုတာပညာရှိမှ အလွယ်တကူ ရနိုင်တာကွ"

ဗုဒ္ဓတရားတော်ကို နာကြားလိုက်ရ၍ သောတာပန် တည်သွားသူက-

"ဒီလူဟာ လူယုတ်မာ ပညာမဲ့ ဖြစ်ပါလျက် ကိုယ့်ကိုယ်ကို လူလိမ္မာ ပညာရှိသူတော်ကောင်း ထင်နေတာပဲ"ဟု စဉ်းစားပြီး ကျောင်းတော်သို့ သွားရောက်၍ ဘုရားရှင်အား အကြောင်းစုံ လျှောက်ထားသောအခါ ဘုရားရှင်က . . .

(ပါဠိတော်)

ယော ဗာလော မညတိ ဗာလျံ၊
ပဏ္ဍိတောဝါပိ တေန သော၊
ဗာလောစ ပဏ္ဍိတမာနီ၊
သဝေ ဗာလောတိ ဝုစ္စတိ။

ယောဗာလော- အကြင်သူမိုက်သည်၊ ဗာလျံ-မိမိမိုက်သည်၏ အဖြစ်ကို၊ မညတိ- ငါမိုက်သည်ဟု သိ၏၊ သောဗာလော- ထိုလူမိုက်သည်၊ တေန- ထိုမိုက်သည့် အဖြစ်ကို သိသော အကြောင်းကြောင့်၊ ပဏ္ဍိတောဝါပိ- ပညာရှိနှင့် တူသည်မှုလည်း၊ ဟောတိ- ဖြစ်၏၊ ယောဗာလော-အကြင်သူမိုက်သည်၊ ဗာလောဝ- မိုက်သည် ဖြစ်၍သာလျှင်၊ ပဏ္ဍိတမာနီ-ငါပညာရှိဟု မှတ်ထင်၏၊ သောဗာလော-ထိုလူမိုက်ကို၊ ဝေ-စင်စစ်၊ ဗာလောတိ- သူမိုက်ဟူ၍၊ ဝုစ္စတိ- ဆိုအပ်၏။

(မြန်မာပြန်အဓိပ္ပါယ်)

"ငါသည် မသိမလိမ္မာ မိုက်မဲတွေဝေသောသူ တစ်ယောက် ဖြစ်၏။ အသိဉာဏ်ရှိသော သူသည် တစ်ပါးသော ပညာရှိထံ ချဉ်းကပ် ခစားနိုင်သဖြင့် ပညာရှိဖြစ်အောင် ဩဝါဒကို နားထောင် မှတ်ယူမိလျှင် သာမန် ပညာရှိသော်လည်းကောင်း၊ လွန်ကဲသော ပညာရှိသော်လည်းကောင်း ဖြစ်နိုင်ချေရှိ၏။ အသိဉာဏ် အလိမ္မာ ကင်းသဖြင့် မိမိ မိုက်မဲတွေဝေသည့် အဖြစ်ကို မသိတတ်သော လူမိုက်သည်ကား 'ငါနှင့်တူသော ပညာ ဗဟုသုတရှိသောသူ ဤဇမ္ဗူမှာ မရှိ'ဟု မိမိကိုယ်ကို

ပညာရှင် မှတ်ထင်လျက် တစ်ပါးသော ပညာရှိထံ မချဉ်းကပ်၊ မခစား၊မသင်ကြား၊ မဖြည့်ကျင့်ဘဲသာနေ၏။ ထိုသူမိုက်သည် မိုက်သူတို့ထက်သာ၍ မိုက်သောသူ အဖြစ်သို့ ရောက်လေ၏”ဟု ဟောတော်မူလေသည်။

## သူတော်ကောင်းနှင့် ကျော်ကြားမှု

အချို့သောသူတို့သည် ပညာအခြေနှင့် အနေထိုင်မှု၍ ကျော်စောထိုက်သောဂုဏ်၊ အခွေ့အရံ များထိုက်သောဂုဏ်နှင့် ပြည့်စုံပါလျက် ကျော်လည်းမကျော်စော၊ အခြံအရံလည်း မရှိဘဲ ရွက်ပုန်းသီးကဲ့သို့ ဖြစ်နေတတ်ကြပေသည်။ သို့ရာတွင် ပညာရှိသူ တော်ကောင်းတို့၏ သဘောမှာ ကျော်စောခြင်း၊ အခြံအရံများခြင်း။ လာဘ်လာဘ ပေါများကြွယ်ဝခြင်းတို့ကို လိုလားသော နှလုံးသား မရှိခြင်းကြောင့် ညှိုးငယ်နေလိမ့်မည် မဟုတ်ပါ။ ကိုယ်ကျင့်တရားပိုင်းမှာလည်း ‘သူတော်မှ ကိုယ်ကကောင်းကြမည့်သူများ’ အစားထဲတွင် မပါဝင်ကြချေ၊ သူတော်ချင်တော်၊ မတော်ချင်နေ။ ကိုယ်တော်အောင် သတိမူ၍၊ သူကောင်းချင်ကောင်း၊ မကောင်းချင်နေ ကိုယ်ကောင်းအောင်သာ ကြိုးစားနေထိုင်တတ်ကြလေသည်။

လောကဌ် ပညာရှိရုံ၊ သူတော်ကောင်းရုံမျှဖြင့် အခြွေအရံပေါ၍ ကျော်စောလိမ့်မည်မဟုတ်။ ကျော်စောထင်ရှားစေသော အလုပ်ကို မလုပ်ပါလျှင် တိမ်မြုပ်၍ နေတတ်သည်မှာ ဓမ္မတာ-ဟုပင် ဆိုချင်ပါသည်။ တွေ့သမျှ လူနှင့်ပေါင်း၊

ကိုယ်ကစ၍ နှုတ်ဆက်၊ ကိုယ့်ဘက် ခပ်ယက်ယက် စကားကိုပြော၊ ပညာရှိ အယောင်ဆောင်၊ ဒေါက်တာဘွဲ့ ရသူထက်တောင် မိမိဉာဏ်အလင်းရောင်က ကျယ်ပြန့်သလိုလို ဝါကြွားပြောဆိုတတ် သူတို့သည် တစ်ပွဲတိုးဆေးပမာ လာဘ်လာဘများ ရရေးအတွက် အစွမ်းထက်နေတတ်ကြ၏။

သို့သော်လည်း လူယောင်ဆောင်ထားသော တန်ခိုးရှင် နတ်နဂါးသည်အိပ်ပျော်နေသောအခါ နဂါးအသွင်သဏ္ဌာန်သာ ပေါ်နေ တတ်သကဲ့သို့ 'ဧကဝုစ်၊ ဗဟုဝုစ်' ကိုမျှ မသိသော ဟန်ဆောင်ပညာရှင်သည်လည်း အမှတ်တမဲ့နေသောအချိန်၌ လိမ်ထားသမျှ ထိမ်ချန်၍မရအောင် အကောကြီးများပေါလောပေါ်လာတတ်ကြသော ဖြစ်ရပ်များကို အကြိမ်များစွာ မြင်တွေ့နေရသဖြင့် စကားများများပြောသောသူကိုပင် ယုံချင်စရာ မကောင်းတော့ပေ။

အများနှင့် ပေါင်းသင်းလိုသော ဆန္ဒမရှိဘဲ မိမိစရိုက်နှင့် အထိုက်အလျောက် ကုပ်ကုပ်ရိုးရိုးနေလေ့ရှိသောသူမှာ ဘယ်မျှပင် ပညာရှိ၍ နေစေကာမူ အခွေ့အရံများခြင်း၊ ကျော်စောခြင်း၊ လာဘ်လာဘများခြင်းဘဝသို့ ရောက်နိုင်မည်မဟုတ်ပါ။ သို့သော်လည်း ပညာရှိသူတော်ကောင်းတို့၏ စိတ်နေစိတ်ထားမှာ အများနှင့် ဆက်ဆံရမှုကိုပင် ဆင်းရဲရှုပ်ထွေးသည်ဟု ထင်မြင်လေ့ရှိကြလေ၏။ အများနှင့် ပေါင်းသင်းနေထိုင်ရပြီဆိုလျှင် အထိအငြိ၊ အတိုက်အခိုက်၊ စကားအရှုပ်အထွေး၊ အကြိုက်

ဆောင်၊ အကောင်းရှာပြော၊ မျက်နှာကြောလျှော့၊ မော့ရမည့် ခေါင်းငုံ့ထား၊ ပြောစကား နားထောင်၊ လုပ်သမျှ ဝင်မရှုပ်နှင့်-စသော စက်ဆုပ်ဖွယ်ကိစ္စတို့၏ သဘာဝကို သဘောပေါက်ထားကြပြီးဖြစ်၍ ထိုနွံဗွက်အိုင်၌ မထိုင်လိုဘဲ တိမ်းရှောင်ကြခြင်း ဖြစ်လေသည်။

## လာဘ်လာဘလိုလျှင်

ထင်ပေါ်ကျော်ကြား၍ လာဘ်ပေါများခြင်းကို မြတ်ဘုရား ဟောကြားသော တရားဖြင့် စစ်တမ်းထုတ်ကြည့်လျှင် ဆင်းရဲခြင်း၏ အကြောင်းပင်ဖြစ်၏။

ထို့ကြောင့် ရှေးဝိနည်းမိုရ် ဆရာတော်ကြီးများက တပည့် သားများကို ဆဲဆိုချင်လျှင် 'ဘုန်းကြီးပါစေဗျာ' ဟူ၍ ဆဲဆိုတော်မူလေ့ရှိကြ၏။ ဘုန်းကြီးပြီဆိုလျှင် မိမိကျောင်းမှာ မကပ်ရတော့ဘဲ ဟိုက ပင့်၍ ကြွရ၊ သည်က ပင့်၍ ကြွရသဖြင့် အိပ်ကောင်းခြင်း၊ စားကောင်းခြင်းပင် မရှိတော့ချေ။ သို့သော်လည်း ဟင်းခွက်တစ်ရာလောက်ဖြင့် ဘုဉ်းပေးပြီး 'ဒုက္ခ၊ ဒုက္ခ' ဟု မြည်တမ်းတော်မူလေ့ရှိသော ဆရာတော်တစ်ပါး၏ အသံကို ကပ္ပိယဦးဘဂျမ်းက ကြားသောအခါ 'ဘဂျမ်းတို့လည်း အဲဒီဒုက္ခမျိုးတော့ ခံလိုက်စမ်းချင်တယ်' ဟု ပြောသကဲ့သို့ အလိုကြီးသော ပုထုဇဉ်တို့၏ စိတ်ဓါတ်သည်လည်း လာဘ်လာဘ ရ-စ ရှိလျှင် ရချင်ချင်ဖြစ်နေတတ်ကြ၏။

ဝဲနာစွဲနေသော မြေခွေးသည် ဝပ်ကျင်းသို့ ရောက်သော်

လည်းညည်းညူ၍နေ၏။ အရိပ်ကောင်းသော သစ်ပင်အောက်သို့ ရောက်သော်လည်း ညည်းညူနေဘိသကဲ့သို့ လာဘ်လာဘရပြီးသူသည်လည်း ဘယ်သောအခါမှ မတင်းတိမ်တော့ပေ။ အမြဲတမ်းပင်မျှော်လင့်တောင့်တနေတတ်၏။ လိုချင် တောင့်တနေခြင်းကြောင့်လည်း ရအောင်လုပ်လေ့ရှိ၏။ ထိုအခါ ကိစ္စများ၍ ဒုက္ခပွားလေတော့သည်။

သို့သော် ဒုက္ခကို ဒုက္ခဟူ၍ မမြင်တော့ပေ။ ဒုက္ခကိုမမှုသော်လည်း တရားသဖြင့်ပြုသော လာဘ်လာဘက အလွန်နည်းတတ်ကြောင်း ရှေးစာဆိုတို့ မိန့်မှာခဲ့ကြ ဖူးလေသည်။

နာနုမ္ဗတ္တော နာပိသုဏော၊
နာနဋော နာကုတူဟလော၊
မူဠေသု လဘတေ လာဘံ၊
သော တေ အနုသာသနီ။

နာနုမ္ဗတ္တော-မရှုးသော်လည်း ရှုးသကဲ့သို့ ပြုနိုင်သောသူသည်လည်းကောင်း၊ နာပိသုဏော-ကုန်းမတိုက်အပ်သော်လည်း ကုန်းတိုက်စကား ပြောကြားတတ်သောသူသည်လည်းကောင်း၊ နာနဋော-ကချေသည် မဟုတ်ဘဲ ကပွဲသဘင်အသွင်က-ပြပြောဆိုချင်သောသူသည်လည်းကောင်း၊ နာကုတူဟလော-မကျော်စောထိုက်ဘဲ ကျော်စောအောင် ပြုတတ်သောသူသည်လည်းကောင်း၊ သေ-သော-ဤသို့သော သဘောများကို လိုက်စားတတ်သော သူသည်၊ မူဠေသု- ပညာမထွားလူအညံ့စားတို့၌၊ လာဘံ- လာဘ်သပ္ပကာကို၊ လဘတေ-ပေါ်

များစွာရနိုင်လေ၏၊ ဧသော-ဤအဆုံးအမသည်၊ အနုသာသနီ-ရှေ့သူဟောင်းတို့ လာဘ်ကောင်း လာဘ်မြတ်ရအပ်သော ဆုံးမချက် ဖြစ်ပေ၏။

## သူတော်ကောင်းစိတ်ထား

ပညာရှိ သူတော်ကောင်းတို့သည်ကား မကျော်ကြားချင် လာဘ်မပေါ်များချင် နေပါစေ၊ ထိုကဲ့ရဲ့ဖွယ်ကောင်းသော မဟုတ်မတရားမှုများကို ပြုလုပ်ကြလိမ့်မည် မဟုတ်ပေ။ မစင်ကြယ်သော ပစ္စည်းကို စားသုံး၍ ရှည်ကြာစွာ တည်တံ့နေသော အသက်ကိုလည်း မြင့်မြတ်စွာ ထိန်းသိမ်းရသည့် သမ္မာအာဇီဝ အမှု-ဟုရှေးရှုတော်မမူကြချေ။ လောကဓံနှင့် ပတ်သက်၍ သူတော်ကောင်းတို့၏ စိတ်အစဉ်ကို ဥပဒေသထုတ်ကြည့်လျှင်-

(၁) စိတ်နေစိတ်ထား ညံ့ဖျင်း၍ ပညာကင်းသော သူတို့၌ အကျော်တစ်စော အခြံအရံ လာဘ်ပေါ်များသည်ကို မြင်လျှင် အားကျစရာ မလို-ဟု စိတ်မှာ စွဲမြဲနေခြင်း၊

(၂) မိမိကိုယ်တိုင်လည်း ထိုအခြွေအရံမျိုးတွင် မပါဝင်စေရဟု အမိဋ္ဌာန်စိတ်ရှိခြင်း၊

(၃) မတရားသော နည်းလမ်းဖြင့် ကျော်ကြားအောင် ကြံစည်အားထုတ်မှု မရှိခြင်း၊

(၄) မိမိနှင့် မတန်ရာသော ဘွဲ့ထူး၊ ဂုဏ်ထူး အဆောင်အယောင်၊ ထင်ပေါ်ကျော်ကြားမှုကို မရချင်၊ မလိုချင်ခြင်း၊

(၅) ရုတ်တရက် ထွန်းကား၍ မတည်တံ့သော အရာများကို

မလိုက်စားလိုဘဲ အရှည်တည်တံ့ ထွန်းကားမည့် အရာများကိုသာ လိုက်စား ကျင့်ကြံခြင်း၊

(ပေါ်ပင်မလိုက်စား၊ မပြုလုပ်၊ မပြောဆိုခြင်း)

(၆) အခွင့် မကြုံသေးသော်လည်း မည်သူးယေိဘဲ မိမိကိုယ်တိုင် ဖြောင့်မှန် တည်တံ့လျှင် လက်ကိုင်တရားက ချီးမြှင့်၍ တင့်တယ် ထွန်းကားခြင်းသို့ ရောက်လိမ့်မည်-ဟု ယုံကြည်၍ တင်းတိမ်ခြင်းနှင့် ဆိတ်ငြိမ်ခြင်းကို အရယူကာ ထိန်းသိမ်းသင့်သော သီလကို ဖြူစင်စွာ စောင့်ထိန်းထားနိုင်ခြင်း၊

(၇) မည်သို့သော အကြောင်းတရားကြောင့် ဖြစ်စေ၊ တွေ့ကြုံရလေသော လောကဓံကို သင်ခန်းစာအဖြစ် အရယူပြီး မိမိကိုယ်ကို ဆုံးမ အားပေးနိုင်ခြင်း-ဟူသော အချက်အလက်များ ပေါ်ထွက်လာပေသည်။

## အရှင်ဒေဝဒတ်၏ သမိုင်းတစ်ကွေ့

ပုဂ္ဂိုလ် တစ်ဦးတစ်ယောက်သည် ဘဝတစ်ခုကို ရယူပိုင်ဆိုင်ထားရာ၌ ထိုဘဝကို အားရကျေနပ်စေရန်၊ သို့မဟုတ် မိမိကိုယ် ကို မိမိကြည်ညိုနိုင်စေရန် အဖန်ဖန် စစ်ဆေးအပ်၏။ ‘ငါ ရရှိထားသော ဘဝ၌ လူတစ်ယောက် ထိန်းသိမ်းလိုက်နာ ကျင့်ကြံအပ်သော ကျင့်စဉ်ကို ဘယ်အတိုင်း အတာအထိ ကျင့်သုံးနေသလဲ၊ ဘယ်လောက် ကျင့်ကြံခဲ့ပြီးပြီလဲ’ ဟူ၍ စစ်ဆေးမှု မရှိလျှင် အသက်ကြီးလာခြင်းကြောင့်သာ လူကြီးစာရင်းဝင်သော်လည်း ကိုယ်ကျင့်တရားက မီးနေခန်းဝ-

က မလွတ်သေးဟု ဆိုရပါ လိမ့်မည်။

သို့ဆိုလျှင် ဘဝအပေါ် ယုံကြည်ချက်သဒ္ဒါ(ပဓါနိယင်္ဂ တရား) မရှိဘဲ စိုင်ကော်၍ ချုံပေါ် ရောက်သူများကို အားကျစရာ မရှိသည့်အပြင် မကြာမတင်သော ကာလ၌ အောက်ကျနောက်ကျ ဘဝကို ရရှိသွားမည့်အရေးကိုပင် တွေး၍ သနားမိရ ပေသေးတော့သည်။ ထို့ပြင် ပဓါနိယင်္ဂ တရား(၅)ပါးထဲတွင် 'အသဌော ဟောတိ အမယာဝီ- မစဉ်းလဲ မကောက်ကျစ်သော ဖြောင့်မတ်သည့် စိတ်ထားရှိခြင်း'ဟူ၍ တစ်ပါးပါဝင်လေရာ မိမိကျော်ကြားရေးနှင့် လာဘ်လာဘ ရရေးကိုသာ အဓိကထား ပြီး 'ဘယ်သူသေသေ ငတေမာဖို့သာ' ဆန္ဒအား ပြင်းထန်နေပါ လျှင် ထိုဆန္ဒသည် အကောင်းမဟုတ်သောကြောင့် ကျော်ကြား မှုနှင့် လာဘ်လာဘရမှုသည် အပါယ်စော်နံ့လှသဖြင့် သူတော် ကောင်းတို့ စက်ဆုပ်ကြသည်မှာ သဘာဝကျလှပေသည်။

အရှင်ဒေဝဒတ်နှင့် ကောကာလိကတို့သည်ကား လာဘ်လာဘ ရရေးအတွက် ဘယ်သူ့မျက်နှာကိုမျှ မထောက်၊ သံသရာအရေးကိုလည်း မကြောက်ဘဲ အောက်ကျ နောက်ကျ ခံ၍ပင် စည်းရုံးနေလေတော့သည်။ စည်းရုံးပြောဆိုသူ၏ မျက်နှာသည် အသားတုံးကို ထိုးသုတ်မည့် ကျီးကန်းတစ်ကောင် ကဲ့သို့ အတင့်ရဲနေမည် ဖြစ်ကြောင်း မျက်မှောက်သိဖြင့်လည်း ချင့်ချိန်နိုင်ပေသည်။

မျက်စိမမှုန်ဘဲ အကောင်းစား မျက်မှန်တပ်ထားခြင်း၊ ၁၀ မိနစ်တစ်ခါ အလိုအလျောက် ထ-ထ အော်နေသော

လက်ကိုင်ဖုန်းကို ခါးမှာ ချိတ်ထားပြီး သိန်းကြီးဂဏန်းပါသော စကားများကိုသာ လူကြားသူကြား၌ အော်ဟစ် ပြောဆိုနေခြင်း၊ ခေါက်ရိုးမပျက်သေးသောအင်္ကျီ အဝတ်အစားများကို ဝတ်ဆင်၍ ပတ်ဝန်းကျင်သို့ တံတွေးများစင်အောင် အင်္ဂလိပ်စသော စကားများ ပြောကြားကာ အမူအရာကလည်း ယခုမှ နိုင်ငံတကာလေယာဉ်ကွင်းက ဆင်းလာခဲ့သည့်ပမာ လက်ဖက်ရည်ဆိုင်တကာသို့ ထိုင်၍ လှည့်လည်ပြောဆိုနေသောသူသည် သူ့နောက်ကွယ်၌ တစ်စုံတစ်ခုသော မြှုပ်ကွက် ရှိနေမည်ဖြစ်ကြောင်း၊ ၎င်းအပြုအမူ အပြောအဆိုတို့က သက်သေပြလျက်ရှိနေပေသည်။

အချို့ အိမ်များ၌ ချိတ်ဆွဲထားလေ့ရှိသည့် 'ဒီကောင်ပြုံးလာပြီ လိမ်တော့မှာ'ဆိုသော စာတန်းလေးသည် ထိုလူစားမျိုးကို ရည်ညွှန်း ရေးသားထားခြင်းဖြစ်ပေလိမ့်မည်။

အရှင်ဒေဝဒတ်၏သမိုင်းတစ်ကွေ့ကို ကြည့်လျှင်လည်း လူပေါ်လူဇော်လုပ်နည်းကို ကောင်းစွာ သဘောပေါက်ထားကြောင်း လုပ်ရပ်များဖြင့် သိနိုင်ပေသည်။ သူ့လုပ်ရပ်ကား မကောင်းမှုကို အမှန်တကယ်ပြုခဲ့သော်လည်း မပြုသူကဲ့သို့ နေထိုင်ခြင်း၊ လူပြိန်းများ ယုံကြည်လောက်အောင် ယုတ္တိတန်သော စကားများကိုသာ ရွေးချယ်ပြောဆိုခြင်း (အဆိုးကို ဖုံးအုပ်၍ အကောင်းကိုသာ ကွက်ပြောတတ်ခြင်း) ယင်းသို့သော အပြောအဆို အမူအရာများကို ဘုရားရဟန္တာ အရိယာ ပညာရှိသူတော်ကောင်းများက ယုတ္တိမရှိနိုင်ကြောင်း အတတ်သိပေ

မူကြသော်လည်း အနည်းစုသာ ဖြစ် သဖြင့် အရှင်ဒေဝဒတ်၏ ကြောက်လန့် ဂရုစိုက်ရမည့် စာရင်းတွင် မရှိချေ။

လောကဦးနေထိုင်ကြသူတို့ကလည်း ပြောတိုင်းယုံ၍ အထူး အဆန်းဆိုလျှင် နှလုံးသားမှာ နေရာပေးချင်ကြသူတို့က အတိုင်းအဆမရှိ အလွန်များပြားလှသည့်အတွက် အရှင်ဒေဝဒတ်၏ပြုကွက်သည် မအောင်မြင်စရာအကြောင်းမရှိတော့ချေ။

## လူသတ်မှုနှင့် အရှင်ဒေဝဒတ်

သို့တစေကြားလည်း အရှင်ဒေဝဒတ်သည် လူသတ်သမား တစ်ယောက်သာ ဖြစ်၏။ သူသတ်ခြင်းကား တစ်ပါးသူ မဟုတ်။ ဗုဒ္ဓကဲ့သို့သော သဗ္ဗညုတဉာဏ်တော်သခင် ဘုရားရှင်ပင် ဖြစ်လေသည်။ လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်း ပါရမီတော်တွေ ဖြည့်ကျင့်ခဲ့ရသော်လည်း ဘုရားရှင်အဖြစ်ဖြင့် လေးဆယ့်ငါး နှစ်သာ နေခွင့်ရတော်မူသော ယင်းဘုရားရှင်ကို အရှင်ဒေဝဒတ်လို ပုဂ္ဂိုလ်က သတ်ဖြတ်ချင်ပါသေးသည်ဆိုလျှင် အဘယ်မျှ နာကျည်းစရာကောင်းလိုက်ပါသနည်း။

ဘုရားရှင်သည် သတ္တဝါအားလုံးတို့၏ အကျိုးစီးပွားအလို့ငှာ ပွင့်တော်မူလာသဖြင့် ဘုရားရှင်၏အရေးသည် သတ္တဝါအားလုံး၏ အရေးပင် ဖြစ်၏။ ဘုရားရှင် ဆုံးရှုံးသွားခြင်းသည် သတ္တဝါအားလုံး၏ဆုံးရှုံးမှုသာဖြစ်၏။ သို့သော် လူပြိန်းတို့ကား ယင်းသို့မစဉ်းစားဘဲ အရှင်ဒေဝဒတ်နှင့် ကောကာလိကတို့၏ ပါးစပ်ဖျားတွင်သာ လမ်းဆုံးနေကြရှာလေသည်။

သို့သော် . . .

အရှင်ဒေဝဒတ်သည် မြတ်စွာဘုရားကို ဆင်လွှတ်၍ တိုက်သတ်ရာတွင် အကြံမအောင်ဘဲ အကြီးအကျယ် ဂုဏ်သိက္ခာ ကျဆင်းသွားသဖြင့် လူတို့၏ ကြည်ညိုလေးစားမှု အားနည်းသွားသောအခါ မဟုတ်မဟတ် လုပ်ဇာတ်ဆင်၍ မိမိကိုယ်ကို ဂုဏ်တင်ပြောဆိုနေသော်လည်း အရိယာပေါများသော ဒေသဖြစ်ခြင်းကြောင့် သဲထဲရေသွန်သလို အချည်းနှီးဖြစ်နေလေတော့သည်။

အရှင်ဒေဝဒတ်သည် သာကီဝင်အမျိုးအနွယ်ကို ဖေါ်ပြ၍ ဘဝအတွက် ခွန်အားတစ်ခုအဖြစ် အသုံးချနေလေရာ ရဟန်း သံဃာတော်များနှင့် အရိယာစာရင်းဝင် ဒကာ ဒကာမတို့က "အရှင်ဒေဝဒတ်သည် မြတ်စွာဘုရားကိုပင်သတ်ရန် ကြိုးစား အားထုတ်ရက်ပါပေသည်"ဟု တရားသဘင်၌ စကားအစပ်တည်၍ ကဲ့ရဲ့ ပြောဆိုကြလေသည်။ ထိုအကြောင်းနှင့် ပတ်သက်၍ ဘုရားရှင်က-

"ရဟန်း တို့ ဒေဝဒတ်သည် ယခုဘဝ၌သာ ငါဘုရားကို သတ်ရန် အားထုတ်သည် မဟုတ်။ ရှေးကလည်း အားထုတ်ခဲ့ဖူးလေပြီ"ဟု မိန့်တော်မူပြီး ဇာတ်တော်တစ်ခုကို ဟောကြားတော်မူလေသည်။

ယင်းသို့ ဟောတော်မူသော်လည်း ရဟန်းသံဃာတော်များနှင့် ဒကာ ဒကာမတို့က အရှင်ဒေဝဒတ် သတ်ဖြတ်သည့် အကြောင်းအရာကိုသာ ထပ်တလဲလဲ ပြောဆိုနေကြသဖြင့်

ဇာတ်တော်ပေါင်း (၂၈)ဇာတ်တိုင်အောင် ဟောတော်မူရလေသည်။

ယင်းဇာတ်တော်(၂၈)ဇာတ်ကိုချုပ်၍ ကြည့်လိုက်သောအခါ သေအောင် သတ်နိုင်သောဘဝက အနည်းငယ်သာ ရှိပြီး နှိပ်စက်သော ဘဝတို့ကို အများဆုံးတွေ့ရ၏။ အသေသတ်နိုင်ခဲ့ သောဘဝတို့ကို အကြမ်းဖျင်း ထုတ်ကြည့်လျှင် 'ဒုကနိပါတ်၊ စူဠနန္ဒိယဇာတ်၊ စတုက္ကနိပါတ်၊ ခန္တိဝါဒီဇာတ်၊ ပဥ္စကနိပါတ်၊ စူဠဓမ္မပါလဇာတ်၊ သတ္တကနိပါတ်၊ မဟာကပိဇာတ်၊ နဝကနိပါတ်၊ ဒဒ္ဒရဇာတ် ဟူ၍ (၅) ဇာတ်ရှိ၏။ ကျန်ဘဝများ၌ကား နှိပ်စက်ရုံသာ နှိပ်စက်နိုင်ခဲ့လေသည်။

* * * * *

# အခန်း(၆)

## အရှင်ဒေဝဒတ်၏ အတိတ်ပုံရိပ်များ

(၁) 'ကေနိပါတ်၊နဠပါနဇာတ်' တွင် အရှင်ဒေဝဒတ် အလောင်း ရက္ခိုသ်ဘီလူးသည် ဘုရားအလောင်း မျောက်မင်း အား သတ်စားလိုသဖြင့် ရေကန်၏ အလယ်၌ ရေကို ခွဲထွက် ပြီးနောက် ရေကန်သို့ ဆင်း၍ ရေသောက်ခိုင်းသည်၊ ဘုရား အလောင်းသည် ရေကန်သို့ မဆင်းဘဲ ရေသောက်ရအောင် ကြံဆောင်ရာတွင် ရေကန်တစ်ဝိုက်၌ရှိသော ကျူပင်ရိုးကို နှုတ်ယူပြီး အဓိဋ္ဌာန်ဖြင့် မှုတ်လိုက်သောအခါ ကျူရိုးအားလုံး အဆစ်မပိတ်ဘဲ ထုတ်ချင်းပေါက် ဖြစ်သွားလေသည်။

ထိုကျူရိုးကို ရေပိုက်ပမာ ဆက်၍ မိမိ ပရိသတ်အား လုံး ရေသောက်သုံးရအောင် ပြုလုပ်ခဲ့ခြင်းကြောင့် ထိုကျူရိုးတို့ သည် ယနေ့တိုင် အဆစ်ပိတ်မပါဘဲ 'ကပ္ပဋ္ဌိတိ-ကမ္ဘာတည်' ငါးပါးတွင် တစ်ပါး ပါဝင်သွားလေတော့သည်။

(၂) 'ကေနိပါတ်၊ ကုရုင်္ဂမိဂဇာတ်' တွင် သမင် တစ် ကောင်သည် တောအရပ်၌ သစ်သီးတို့ကို ရှာဖွေ စားသောက် ရာမှ'ရမနေပင်'တစ်ပင်၏အသီးတို့ကို သွား၍သွား၍စားသော အခါ အရှင်ဒေဝဒတ်အလောင်း မုဆိုးက ခြေရာကို မြင်သဖြင့် လင့်စင်ထိုးပြီး ဘုရားအလောင်းသမင်အလာကို လက်နက်ကိုင် ၍စောင့်နေလေသည်။

ဘုရားအလောင်း သမင်သည် 'ရမနေပင်'အောက်ကို ရုတ်တရက် မဝင်သေးဘဲ ရန်သူ ရှိမရှိ အကဲခတ်နေစဉ် မုဆိုးက ရမနေသီးများကို ဆွတ်ချူ၍ ပစ်ချပေးသောအခါ ရန်သူရှိမှန်း သိသောကြောင့် ထွက်ပြေးမည်အပြုတွင် မုဆိုးက လှံဖြင့်ထိုး သတ်သော်လည်း မထိဘဲ လွတ်ထွက်သွားလေသည်။

(၃) ___'ဧကနိပါတ်၊ ဝါနရိန္ဒဇာတ်'___ တွင် ဘုရားအလောင်း မျောက်မင်းသည် မြစ်လယ်၌ရှိသော ကျွန်းငယ်တစ်ခုသို့ ကျောက်ဖျာထက်မှ ခုန်ကူးကာ သရက်၊ ပိန္နဲ-စသော စားစရာ များကို နေ့တိုင်း သွားရောက်၍ စားသောက်နေလေသည်။ ဘုရားအလောင်းက ယင်းသို့ ခုန်ပျံကျော်လွှားပြီး နေ့စဉ် သွား ရောက်နေသည်ကို မိကျောင်းမက မြင်သောအခါ မျောက်မင်း ၏ အသည်းနှလုံးကို စားလိုကြောင်း မိကျောင်းဖိုကို ပူဆာ သဖြင့် အရှင်ဒေဝဒတ် အလောင်း မိကျောင်းဖိုက ကျောက်ဖျာ ပေါ်တွင် အိပ်၍ ဘုရားအလောင်း မျောက်မင်း အပြန်လမ်းကို စောင့်နေလေသည်။

ဘုရားအလောင်းသည် မဆက်ာသဖြင့် ခါတိုင်း ကျောက်ဖျာနှင့် စကားပြောနေကျကဲ့သို့ တမင်ဖန်တီးပြီး ခေါ် ကြည့်လိုက်ရာ မိကျောင်းဖိုက ကျောက်ဖျာအစား စကားပြန် ၍ ပြောခြင်းကြောင့် မိကျောင်းမှန်း သိသွားသောအခါ အကြောင်း စုံမေးမြန်းလေသည်။

ထိုအခါ သူ့မယားအတွက် အသည်းနှလုံး အလိုရှိနေ သည်ကို သိသွားသောကြောင့် 'ခံတွင်းကိုသာ ဖွင့်ဟထားလိုက်

ပါ၊ ခုန်ချလိုက်ပါမည်’ဟု ပြောဆိုပြီး မိကျောင်းဖို ပါးစပ် ဟထား သည်နှင့် တစ်ပြိုင်နက် ခေါင်းပေါ်ကျော်တက်၍ ကမ်းတစ် ဘက်သို့ ခုန်ကူးလွတ်မြောက်သွားခဲ့လေသည်။

(၄) ‘ဓေကနိပါတ်၊ တယောမမ္ဗဇာတ်’ တွင် ဘုရား အလောင်း ဖြစ်သော သားငယ်မျောက်ကို ဖခင်ဖြစ်သူ အရှင် ဒေဝဒတ်အလောင်း မျောက်မင်းအကြီးအကဲက သတ်လိုသဖြင့် အနီးသို့ချဉ်းကပ်ပြီး ချစ်ဟန်ပြသော အမူအရာဖြင့် သွေးဆောင် ဖျားယောင်းကာ ဖျစ်ညှစ်သတ်ဖြတ်သော်လည်း အားကြီးသည့် ဘုရားအလောင်းကို မသတ်နိုင်သောကြောင့် ရက္ခိုသ်စောင့် သော ရေကန်မှ ကြာပန်းခူးခိုင်းပြီး မျောက်အပေါင်း၏ အကြီး အကဲ ရာထူးပေးအပ်မည်ဟု လိမ်ညာ၍ ရက္ခိုသ်ဘီလူး အစား ခံရလေအောင် ကြံဆောင်ပါသော်လည်း ဘုရားအလောင်းက ရေထဲသို့ မဆင်းဘဲ တစ်ဘက်ကမ်းမှ တစ်ဘက်ကမ်းသို့ ခုန်ပျံ ရင်း ကြာပန်းများ ခူးနေသည်ကို ရက္ခိုသ်ဘီလူးက သဘောကျ လှသဖြင့် ကြာပန်းများ နောက်ထပ်ထုပ်ပိုးပြီး လိုက်ပါပို့ဆောင် ပေးနေသည်ကို အရှင် ဒေဝဒတ်အလောင်း ဖခင်မျောက်မင်း တွေ့မြင်ရခြင်းကြောင့် ပြင်းစွာသော စိတ်ဆင်းရဲမှုဖြစ်၍ နှလုံး ကွဲ သေဆုံးသွားလေတော့သည်။

ဤတယောမမ္ဗ ဇာတ်တော်တွင် သံသရာ တစ်ခွင်က မေတ္တာဓါတ်ခံ အားနည်းကြသူတို့သည် သားသမီး ဖြစ်သူတို့ အပေါ်၌ပင် မေတ္တာစိတ် မသက်ဝင်ဘဲ လည်ပင်းကို ဖျစ်ညှစ် သတ်ဖြတ်သဖြင့် သင်ခန်းစာယူသင့်ပေသည်။ သားသမီးကို

ဆင်းရဲ ဒုက္ခရောက် အောင်၊ သို့မဟုတ် အသက်သေအောင် ပြုမူတတ်သော မိဘမျိုးသည် တစ်ပါးသူတို့ အပေါ်၌လည်း မေတ္တာတရား အဘယ်မှာ ထားနိုင်ကြပါလေမည်နည်း။

ပါရမီထိုက်သော မေတ္တာ

ဤ၌ မေတ္တာအကြောင်းနှင့် ပတ်သက်၍ အနည်းငယ် တင်ပြလိုပေသည်။ 'မေတ္တာ'သည် ပါဠိဝေါဟာရ တစ်ခုဖြစ်၏။ မြန်မာမှု နယ်ပယ်မှာ တွင်ကျယ်စွာ သုံးနှုန်းပြောဆိုနေကြသော စကား ဖြစ်ခြင်းကြောင့် မြန်မာစကား တတ်သူတိုင်း နားလည် နေကြပေသည်။ သို့သော်လည်း အများစု နားလည်ထားကြ သည့် မေတ္တာကား တစ်ဦးနှင့်တစ်ဦး ချစ်ခင်ကြခြင်းကိုသာ 'မေတ္တာ'ဟု နားလည် သဘောပေါက်ထားကြ၏။

ယင်း နားလည်မှုသည် ပြည့်စုံလုံလောက်သော အဓိပ္ပါယ်ကိုမဖော်ဆောင်သေးပါ။ တစ်နည်းဆိုရလျှင် သူတော် စင်တို့၏ ရင်၌ ပီပြင်ခိုင်မြဲစွာ ကိန်းအောင်း တည်တံ့နေသော ပါရမီထိုက်သည့် မေတ္တာမျိုး မဟုတ်ပါ။

လူသားတို့ အချင်းချင်း ချစ်ခင်ကြခြင်းသည် 'တဏှာ လောဘ'ကို အခြေခံသောကြောင့် 'ဂေဟဿိတ ပေမ- အိမ်သူ အိမ်သားတို့ အချင်းချင်း ချစ်ခင်ကြခြင်း'ဟု ခေါ်၏။ ထိုမေတ္တာ မျိုးသည် တိရစ္ဆာန်တို့လည်း ချစ်ခင်တတ်ကြသဖြင့် 'အဆင့် အတန်းမြင့်၍ ပါရမီထိုက်သော မေတ္တာ'ဟု အဘယ်မှာ ခေါ်ဆို ထိုက်ပါတော့မည်နည်း။ ပါရမီထိုက်သော မေတ္တာမျိုးကား . .

သားတစ်ယောက်သာ ရှိသော မိခင်သည် ထိုသားကို

မျက်စိအောက်က အပျောက်မခံနိုင်အောင် ချစ်ခင်သကဲ့သို့ မိမိ, မိသားစုအပေါ်၌လည်းကောင်း၊ ပတ်ဝန်းကျင် အခြားမိသားစု အသိုင်းအဝိုင်းတို့ အပေါ်၌လည်းကောင်း၊ အလုံးစုံသော သက်ရှိသတ္တဝါအပေါင်းတို့ အပေါ်၌ မိမိနှင့် တူညီသော အခွင့်အရေးသို့ မဟုတ် ကိုယ်ချင်းစာ တရားဖြင့် ကာယကံမေတ္တာ၊ ဝစီကံမေတ္တာတို့ကို ပေးဝေခြင်း၊ မိမိစကား တစ်ဘက်သား နားတွင်း ညင်သာစွာ ဝင်ရောက်စေခြင်း၊ အေးငြိမ်းချမ်းသာစေခြင်း၊ ကြည်နူးနှစ်သက်စေခြင်း၊ တစိမ့်စိမ့်တွေး၍ အမှတ်ရနေစေခြင်း၊ စဉ်းစားဆင်ခြင်တိုင်း ပြန်လည် ကြားယောင်နေစေခြင်းတို့အပြင် မီးဖုတ်ထားသော သံချောင်းကို ရေထဲချလိုက်သောအခါ 'ရှဲ' ခနဲမြည်၍ ငြိမ်းအေးသွားသကဲ့သို့ မိမိအမူအရာ (ကာယကံမေတ္တာ) မိမိပြောဆိုသောအသံ(ဝစီကံမေတ္တာ) မှန်းဆပို့လွှတ်သော(မနောကံမေတ္တာ) မိမိနှင့်မိမိ,မိသားစု ကျန်းမာချမ်းသာချင်သကဲ့သို့ သူတစ်ပါး မိသားစုကိုလည်း ကျန်းမာချမ်းသာစေချင်သည့် မနောကံစိတ်ထားတို့ကြောင့် သူတစ်ထူး အပူငြိမ်းသွားအောင် စွမ်းဆောင်နိုင်မှသာ ပါရမီထိုက်သော မေတ္တာမည်ပေသည်။

အနှစ်ချုပ်ကား မေတ္တာသည် အနှောင်အဖွဲ့ ကင်း၍ စွန့်လွှတ် အနစ်နာခံခြင်းနှင့် တစ်ဘက်သားကို ငြိမ်းချမ်းစေလိုခြင်းပေတည်း။

<u>တစ်ကိုယ်ကောင်းစိတ်</u>

အရပ်သားတစ်ယောက်သည် မည်သည့်ရုံးကိုမျှ

အကြောင်းမဲ့ မသွားချင်ပေ။ သို့သော် ကိစ္စပေါ်၍ သွားရလေလျှင် မျက်နှာ မကြည်မလင်နှင့် အားငယ်စိတ်များ ဝင်နေတတ်ကြ၏။ ထိုအချိန်မျိုးတွင် ထိုင်ခုံကို ရာဇပလ္လင်ထင်နေတတ်ကြသူတို့က အဟိန်းအဟောက်ဖြင့် ခြိမ်းခြောက် ပြောဆိုလိုက်ကြသောအခါ ခမျာမှာ အယောင်ယောင် အမှားမှား၊ စကားပင်ထစ်ငေါ့၍- 'ဟစ်ဟော့' အကကို မသင်ရဘဲ တတ်သွားခြင်းသည် မေတ္တာခန်းခြောက်နေသော ဌာန၏ ပြယုဂ် တစ်ခုပင်ဖြစ်လေသည်။

ထိုအမူအရာမျိုးကို အုတ်မြစ်ချ၍ တည်ဆောက်ထားကြသော နေရာဌာနတိုင်းသည် ဘယ်သောအခါမှ ကြီးပွားတိုးတက်လိမ့်မည် မဟုတ်ပါ။ လက်တွေ့အကျိုးသည် လူသားထု၏ မေတ္တာအငွေ့လေးကိုပင် ရှူရလိမ့်မည် မဟုတ်ပါ။

'ငါသာ ချမ်းသာရမည်၊ ငါ့မိသားစုသာ ချမ်းသာရမည်၊ ငါ နှင့် ငါ့မိသားစုသာ လူရာဝင် စေရမည်၊ အရှိန်အဝါ ရှိသူနှင့် ငါသာ မိတ်ဆွေ ဖြစ်စေရမည်'ဟူသော စိတ်ဓါတ်သည် မေတ္တာ မဟုတ်။ အတ္တ-မာနနှင့် တွဲစပ်ထားသော ကိလေသာ တစ်မျိုးပင် ဖြစ်၏။

ထိုစိတ်ဓါတ်မျိုး ငုပ်လျှိုးနေသူတို့သည် ကိုယ်ချင်းစာတရားမရှိသောကြောင့် အိမ်မွေး ခွေးကိုပင် နေရာပေး၍ အစာကျွေးချင်ကြလိမ့်မည် မဟုတ်ပေ။ တစ်ကိုယ်ကောင်းစိတ် ရှိသူသည် တိရစ္ဆာန်နှင့် တစ်ဂိုဏ်းတည်းသာ ဖြစ်၏။

တိရစ္ဆာန်စိတ်ဖြင့် တည်ဆောက်ထားသော ထိုသည်

အသိုင်းအဝိုင်းသည် သူတို့ထံက ပစ္စည်းဝတ္ထု တစ်စုံတစ်ခု ရဖို့ထက် အပြုံးကလေး တစ်ချက်ကိုပင် အလကား မပေးချင်ကြသဖြင့် လူသားတို့က 'ကျားဖင်ကိုသာ နှိုက်လိုက်ချင်တယ်'ဟု ပြောကာ မေတ္တာ ကန်တော့ဆွမ်း အလောင်းခံရခြင်းကြောင့် 'ကမ္ဘာ့အမုန်းကောင်' စာရင်းတွင် ပါဝင်သွားရလေတော့သည်။ စည်းစိမ်ဥစ္စာ အရှိန်အဝါတို့ကိုလည်း လွတ်လပ်စွာ ခံစားရမည် မဟုတ်ပေ။

## တရား(၂)ပါး ခြားနားချက်

မေတ္တာသည် 'အဒေါသ စေတသိက်' ဖြစ်ခြင်းကြောင့် ဒေါသကိလေသာနှင့် ဆန့်ကျင်၏။ အဒေါသ(မေတ္တာ)က အအေး၊ ဒေါသက အပူ၊ အပြုအမူလည်း မတူပေ။ ဒေါသက ကြမ်းတမ်းခက် ထရော်၏။ ဝင့်ဝါ၏။ ကောက်၏။ မဖြောင့်။ ဆောင့်ကြီးအောင့်ကြီးဖြင့် သွားလာပြောဆိုတတ်၏။ ဘယ်သူနှင့်မှလည်း မတည့်။ မိမိကိုယ်နှင့်ပင် မိမိ မတည့်ဘဲ ရွဲ့စောင်း(စောင်းမြောင်း)နေတတ်၏။ အကြောင်းအကျိုး အကောင်းအဆိုးတို့ကို ခွဲခြားနားလည်မှု မရှိချေ။

သေလျှင် ဂတိကောင်းသို့ မရောက်။ ဖါးပေါင်လောက်သာရှိသော မိမိခန္ဓာကိုယ်ကို သတိမမူဘဲ ဆင်လိုလူအား တိုက်ခိုက်ရန် တာစူနေတတ်၏။ ထို့ကြောင့်လည်း နတ်လူမုန်း၍ အပြုံးကင်းကာ ရောဂါ ထူပြောနေတတ်ပေသည်။ အဒေါသ(မေတ္တာ)သည် ကြမ်းတမ်း ခက်ထရော်ခြင်း မရှိ။ ဝင့်ဝါခြင်း

ကင်း၏။ ပကတိ အေးငြိမ်းသော သရုပ်ကို ဖေါ်ဆောင်နေသဖြင့် မေတ္တာရှိသူအား ချစ်ခင်အားထားကြလေသည်။

မေတ္တာသည် ပညာတတ်တိုင်းလည်း မွေးမြူနိုင်ကြသည် မဟုတ်။ ဝါးလက်ခုပ်သည် ဆိုင်းဝိုင်း အတွင်းက တူရိယာပစ္စည်း တစ်ခု ဖြစ်သော်လည်း သူ့ချည်းတီးလျှင် လယ်တောသွ စာခြောက်ရန်ပင် ကောင်းပေသေးတော့၏။ အသံက မသာယာ။ ခန့်ညား ထည်ဝါမှု မရှိ။ သို့သော် တေးသီချင်း တစ်ပုဒ်ကို မည်သို့သော အဆိုတော်ကပင် သီဆိုသည်ဖြစ်စေ 'စည်းဝါး'အတွက် တစ်ကွက် ချန်ရမြဲ ဖြစ်၏။

စည်းဝါး မပါသော တေးသီချင်းသည် ဂီတသက်တမ်း ဘယ်လောက် ကြာကြာခံနိုင်မည်နည်း။ ထို့အတူ သူတော်ကောင်းဖြစ်လိုသူတို့အတွက် မေတ္တာ-ဟူသော စည်းဝါးတစ်ကွက် ရှိအပ်၏။ သူတော်ကောင်း-ဟူသော အမည်ကို ခံထားပါလျက် မေတ္တာ မပါလျှင် ပုံကြမ်း လောင်းထားသော ပန်းပုရုပ်ကြီးကို ကြည့်ရသကဲ့သို့ ဖြစ်နေပါလိမ့်မည်။

ပညာတတ် နယ်ပယ်၌လည်း မေတ္တာ မပါလျှင် မပြီးသကဲ့သို့၊ ခေါင်းဆောင်တိုင်း၏ အခြေခံ အုတ်မြစ်သည်လည်း မေတ္တာမှ တစ်ပါး၊ အခြား မရှိပါ။

မေတ္တာမပါသော ကျော်ကြားမှုသည် စည်းဝါး မပါသည့် တေးသီချင်းနည်းတူ ပညာတတ်ပြီး မေတ္တာ မကပ်လျှင်လည်း ရုပ်သေးဇာတ်ပွဲထဲက မင်းသားရုပ်ကဲ့သို့ ငိုပြန်လျှင် သည်မျက်နှာ၊ ရယ်တော့ရော သည်မျက်နှာကြော၊ ဇာတ်လမ်း

သဘောအရ သေဒဏ်အကျခံရခြင်းကိုပင် ပြုံးရွှင်သော မျက်နှာ ဖြင့်သရုပ်ဆောင် က-ပြနေခြင်းကြောင့် အဝေးကနေ မှေး၍ပင် ကြည့်ယူရတော့၏။

မေတ္တာသည် သူတော်ကောင်းတို့ အားပြုနေထိုင်သော 'ကျွန်း'ကြီးဖြစ်၏။ ယင်းကျွန်း၌ အတ္တမာန အပူလောင်နေသူ များ တည်းခို ချဉ်းကပ်၍ မရ။ ထို့ထက် ယုတ်မာသူတို့နှင့်လည်း မထိုက်တန်။ ယုတ်မာသူ၏ သန္တာန်၌ မေတ္တာဓါတ်ခံဟူ၍ မရှိ။ ပြည့်နေသော မစင်အိုးကဲ့သို့ မကောင်းသည့် ရနံ့ဆိုးတို့ဖြင့်သာ ပျံ့လွင့်နေတတ်ပေသည်။ မေတ္တာမရှိသူ လူယုတ်မာ၏ သန္တာန် ၌ 'ကိုကို၊ မမ အာစရိ'ဟု ခေါ်၍ အတိမာယာဖြင့် လှည့်စား ခိုင်းစေရန် ပကာသန ဝစီကံလေးသာ ရှိ၏။

မေတ္တာဟန်ဆောင်ထားသော မာယာဖြင့် မျက်လှည့် ပမာ နည်းအဖြာဖြာ ပြတတ်သကဲ့သို့ လက်ကိုင်တုတ် လုပ်၍ လည်း လူကြား၌ သူတော်ကောင်းသရုပ်ကို ဖေါ်ထုတ်ပြသ တတ်၏။ သို့သော်လည်းဦးချိုပေါက်နေသော မြင်းနှင့်မနုဿီဟ ရုပ်ပုံကို မြင်တွေ့ရသည့်နှယ် ကျီးမမည်၊ ကြက်မဟုတ်၊ သရုပ် ပျက်သူ ဖြစ်နေလေတော့သည်။

<u>ဗုဒ္ဓနှင့်မေတ္တာ</u>

မေတ္တာသည် ဟန်ဆောင်၍ မရ။ ရှင်တော်ဗုဒ္ဓကိုယ် တော်တိုင် အသုံးပြုခဲ့သော သဗ္ဗညုတဉာဏ်တော်၏ အပေါင်း အဖေါ် ဖြစ်ခြင်းကြောင့် ရာဇမာန်၊ ဓနမာန်၊ ယောဗ္ဗနမာန်

ယစ်၍ သာသနာတော်ကိုပင် မကြည်ညိုချင်သော 'ရောဇမလ္လမင်းသား'အား တန်ခိုးမဟုတ်သော ပင်ကိုမေတ္တာ ညို့ဓါတ်များဖြင့် ရုတ်တရက်ကြီး အရိယာသာဝက ဖြစ်စေခဲ့၏။ သာမန်အားဖြင့် ကြည့်လျှင် ဗုဒ္ဓက တန်ခိုးတော်နှင့် ချေချွတ်လိုက်သလို ထင်ရဖွယ်ရှိသော်လည်း ဗုဒ္ဓ၏ မေတ္တာတော်ကြောင့် 'ရောဇမလ္လမင်းသား'သည် စပါးကြီးမြွေညို့ယူခြင်းခံရသော ယုန်သူငယ်ကဲ့သို့ ချာချာလည်ကာ ဗုဒ္ဓ၏ မေတ္တာတော်ကွန်ရက်မှ ရုန်းမထွက်နိုင်တော့ဘဲ ယခင်က လက်အုပ်ပင် မချီလိုသူသည် ယခု မိခင်ပျောက်သော နွားငယ်ပမာ 'ဘုရား ဘဂဝါဘယ်မှာလဲ'ဟုကျောင်းစဉ်လှည့်၍မေးနေရှာလေတော့သည်။

အပူကင်း၍ သန့်ရှင်းသော မေတ္တာဓါတ်သည် ဘုရားအရိယာတို့သာ အသုံးပြုခွင့်ရှိသော 'ဘုရားကိုင်တရား'မျိုးမဟုတ်။ ပုဂ္ဂိုလ် သတ္တဝါမရွေး လူမျိုးဘာသာ ခွဲခြားစရာ မလို။ မည်သူမဆို လိုက်နာ အားထုတ်ခွင့်ရှိသော အရိုးခံတရားပင်ဖြစ်၏။

လူတိုင်း အသုံးပြုခွင့်ရှိပြီး ကျင့်နိုင်လျှင် ကျင့်သလောက်ခရီးရောက်သော ယင်းအရိုးခံတရားကြီးကို ကိုယ်တိုင် အစွမ်းထက်အောင် ပွားများအားထုတ်၍ ရနိုင်ပါလျက် သူတစ်ပါးထံ လက်ဖြန့်ခံတတ်သော အကျင့်သည် လက်ဝေခံ ဗုဒ္ဓဘာသာဝင်အဆင့်သာရှိသကဲ့သို့ မူလဘာသာဝင် အဖြစ်မှပင် တိမ်းစောင်းသွားနိုင်ပေသည်။ မေတ္တာဓါတ်အားကြီးသူ၏ အရိပ်အာဝါသကို ခိုလှုံရသူသည်လည်း အဘယ်မျှပင် အမိုက်ဓါတ်ကြီးပါစေ၊

အလွယ်နှင့် ကျွတ်တမ်းဝင်နိုင်၏။ ဥပမာ . . .

အရက်သေစာမူးယစ်ပြီး ဗုဒ္ဓကိုထိုးသတ်ရန် လာသော 'နာဠာဂိရိဆင်ရိုင်းကြီး'ကို ဒေါသမုန်ယစ်ပြေကာ ခြေတော်ရင်း၌ ဝပ်စင်း ဦးခိုက်စေတော်မူနိုင်ခဲ့၏။ အလွန်ကြမ်းကြုတ် ခက်ထန်ပြီး ဒေါသမာန်ကြီးလှသော 'အာဠာဝကဘီလူးကြီး'ကိုလည်း မိမိရှေ့သို့ ညွတ်ကိုင်းလာစေရန် အခြားတန်ခိုးတော်ကို အသုံးပြုတော် မမူဘဲ မေတ္တာဖြင့်ပင် အောင်ပွဲခံတော်မူခဲ့လေသည်။

အာဠာဝကဘီလူး-ဟူသည် သာမန် နွားကျောင်းသား အရွယ်သာရှိသော 'ချာတိတ်ကလေး'မဟုတ်။ သတ္တဝါတစ်ဦး တစ်ယောက်အား ခြေနှစ်ချောင်းကိုကိုင်ကာ စကြာဝဠာ အပြင်သို့ပင် ပစ်လွှတ်နိုင်သော ခွန်အားရှိ၏။

သူ၏ ကြုံးဝါးသံကလည်း ဇမ္ဗူဒီပါ တစ်ကျွန်းလုံးကို ထစ်ချုန်းရိုက်ခတ် ပဲ့တင်ထပ်ပြီး တုန်လှုပ်လန့်ဖျပ်သွားစေနိုင်၏။ မိုင်သုံးဆယ် နီးပါးမျှသော တောင်ထွတ်များကိုလည်း ကွဲအက်လွင့်စဉ်ပြီး သစ်ပင်အိုးအိမ်မြို့ရွာဒေသအားလုံး ကျွတ်ထွက်ပျက်သုဉ်း၍ မြေပြင်ကြီး ကတုံးဖြစ်အောင် လေမုန်တိုင်းဖြင့် တိုက်ခတ်ဖျက်ဆီးနိုင်၏။

မြေပြင်တစ်ခုလုံး ရေပြင်ဖုံးသွားအောင် မိုးကြီးရွာချနိုင်၏။ ကျောက်ခဲမိုး၊ လက်နက်မိုး၊ မီးကျီးမိုး၊ ပြာပူမိုး၊ သဲပူမိုး၊ ရွှံ့နွံမိုးကြီးများကိုလည်း စက္ကန့်၊ နာရီပိုင်းအတွင်း အရှိန်အဟုန်ပြင်းစွာ ရွာသွန်းနိုင်ပါ၏။ ယင်းသို့သော ဒေါသ၊ မာန၊ ခွန်အား ဗလ-စသည် ပေါများ စွမ်းပကား ကြီးမားသည့် အာဠာဝက

သည် ဗုဒ္ဓ၏မေတ္တာတော်ဓါတ်ကြောင့် မာန်ချဦးနှိမ်ကာ နောက်ဆုံး၌ ပြဿနာ မေးလျှောက်၍ ကြောက်ရွံ့ ကျေအေးလျက် ဘီလူးရိုင်းကြီး သောတာပန် တည်သွားရလေသည်။

## လူသားများနှင့် မေတ္တာ

'ဆရာကြီး ဓမ္မာစရိယ ဦးဌေးလှိုင်'ကလည်း 'မေတ္တာဝါဒ ပြဟ္မဝိဟာရအဖွင့်' စာအုပ်၌ "ဘုရားရှင်၏ တန်ခိုးတော်ဟူသည် အခြားမဟုတ်။ ဗုဒ္ဓဘာသာဝင်တိုင်း နားလည်ထားပြီးသော မေတ္တာပင်တည်း။ ယင်းသို့ဆိုသော် မေတ္တာ-ဟူသော အဒေါသ စေတသိက် ပရမတ္ထတရားကြီးကို ဘုရားရှင်သာလျှင် သုံးစွဲခွင့်ရှိသည်ဟု ကန့်သတ်၍ ရပါမည်လော။

"သို့မဟုတ် 'ဘုန်းတော်ကြီးတော်မူသော အတုမရှိ ဘုရားရှင်မို့ ငါ အစွမ်းကုန် အကျိုးပေးလိုက်မည်'ဟုလည်း ပရမတ္ထတရားက မျက်နှာလိုက်၍ အကျိုးပြုပါချေမည်လော။ ထို့ကြောင့် အရာရာ၌ 'တန်ခိုး၊ တန်ခိုး'ဟုဆိုကာ မိုးပေါ်ကို ချည်း လက်ညှိုး မထိုးသင့်ကြပေ။

"ဗုဒ္ဓ၏ တရားတော်များသည် လူသားအားလုံးပင် အလွယ်တကူ နာယူကျင့်သုံးနိုင်သော ဘက်မလိုက် ကျင့်စဉ်ချည်းသာ ဖြစ်ပေ၏။ အမျိုးမဆုံးအောင် ရှုပ်ထွေးလှသော လူမှု ပြဿနာများနှင့် နေ့စဉ် ရင်ဆိုင်နေကြရရာ ထိုပြဿနာများ အလွယ်တကူ ပြေလည်သွားစေရန် နေ့စဉ်ပင် လိုက်နာ ကျင့်သုံးရမည့် တရားများလည်း ဖြစ်ပေသည်။

"အသက်ကြီး၍ ကျောင်းကန်တွင်း ရောက်မှလိုက်နာရမည့် လူသားတို့အထက်က တရားမဟုတ်။ လူထဲက လူများအတွက် အလွယ်တကူ လိုက်နာ၍ရသော ကြီးငယ်မဟူ၊ ကျား-မ၊ ဘာသာ၊ လူမျိုးမရွေး၊ ကြီးပွား ချမ်းသာရေး တရားပင်တည်း" ဟု ရေးသားခဲ့၏။

မှန်၏။ 'သူဌေးကတော် ဥတ္တရာ'သည် သံဃာတော်များကို ဆွမ်းကပ်လိုသဖြင့် မိမိနေရာတွင် လင်သားအတွက် 'ပြည့်တန်ဆာမ သီရိမာ'အား ငွေငှားရမ်း အစားထိုးပေးခဲ့၏။ မိမိ ဂင်သားနှင့် ပြည့်တန်ဆာမတို့ပြောင်ပြောင်တင်းတင်း ပျော်ပါးနေကြခြင်းကို သာမန် မိန်းမတစ်ယောက်သာဆိုလျှင် ငယ်ထိပ်မြွေပေါက်ခံရသကဲ့သို့ ထွန့်ထွန့်လူးနေပါလိမ့်မည်။

ဥတ္တရာကား ထိုသို့မဟုတ်။ 'ဘုရားရှင်နှင့် သံဃာတော်များကို ဆွမ်းကပ် လုပ်ကျွေးခွင့် ရခြင်းသည် သီရိမာ၏ ကျေးဇူးကြောင့်သာ'ဟု အာရုံပြုလျက် မေတ္တာထုထည် ကြီးမားစွာဖြင့် ခွင့်လွှတ်ထားနိုင်၏။

ထိုမေတ္တာသည် ဘဝမေ့သွားသော သီရိမာ၏ ဆီပူဖြင့် လောင်းခြင်းကိုပင် နှံ့သာရေ ဖြစ်စေခဲ့လေသည်။ ဥတ္တရာ၏ သန္တာန်၌ မေတ္တာမှတစ်ပါး၊ အခြားတန်ခိုးမရှိကြောင်း သာဓကကောင်းပင် ဖြစ်ပါ၏။

မာဂဏ္ဍီ၏ စနက်ကြောင့် ဥတေနဘုရင်က မြားအချက်ပေါင်းများစွာဖြင့်'ချစ်ယမင်းသာမာဝတီ'ထံသို့ ပစ်ခွင်းသော်လည်း အသက်မရှိသော မြားတို့က ဥတေနထံသို့ ပြန်လာခဲ့ရ

၏။ ယင်းသို့လျှင် မိန်းမသားတို့ပင် လက်ကိုင်အသုံးပြု၍ အမှန်အကန် အကျိုးပေးသန်သော မေတ္တာတရားကို ကျွန်ုပ်တို့ ဘာကြောင့် မပွားများနိုင်ဘဲ ရှိရမည်နည်း။

မေတ္တာသည် အရင်းအနှီး ငွေကြေးမလို၊ အချိန်ကို သီးခြားပေးရန်လည်း မဟုတ်။ ကျွန်ုပ်တို့ နေ့စဉ် သွားလာလှုပ်ရှားရှုန်းကန်နေရသည့် ဘဝပင်လယ်ပြင်၌ မြင်မြင်သမျှ သတ္တဝါတို့အပေါ် မိမိနှင့် တစ်တန်းတည်းထား၍ ကြီးပွားချမ်းသာစေလိုစိတ်ထားရန်ပင် မဟုတ်ပါလော။

(၅) 'ဧကနိပါတ်၊ သစ္စံကိရဇာတ်'တွင် ဘုရားအလောင်းက 'ဥဒ္ဒိစ္စ'အမည်ရသော ပုဏ္ဏားဖြစ်လေသည်။ ထိုပုဏ္ဏားသည် ရသေ့ဝတ်၍ မြစ်ကွေ့တစ်နေရာ၌ ကျောင်းသခ်မ်းလေးဖြင့် နေထိုင်သောအခါ ဗာရာဏသီပြည်မှ အများမုန်း၍ မြစ်ထဲ အမျှောခံရသည့် ဒုဋ္ဌကုမာရမင်းသားနှင့် မြွေ၊ ကြွက်၊ ကျေးသားတို့သည်လည်း မိုးရေကြီးသဖြင့် သစ်တုံးတစ်ခုကို အမှီပြု၍ မျောပါလာကြသည်။

'ဒုဋ္ဌကုမာရ မင်းသား'၏ 'ကယ်တော်မူကြပါ'ဟူသော အသံကို ဘုရားအလောင်း ရသေ့ကြားသောအခါ မျောပါလာသူ လေးဦးတို့ကို ကယ်ဆယ်ပြီး အစားအစာများ ကျွေးမွေးလေသည်။

ဘုရားအလောင်း ရသေ့သည် ဘဝများစွာက ထုံမွမ်းလာခဲ့သော မေတ္တာဓါတ်ခံဖြင့် ဆင်းရဲဒုက္ခ ရောက်လာကြသူ

တို့အား ရင်ဝယ်သားနှင့်မခြား ကယ်တင်ခဲ့ပြားသော်လည်း အရှင်ဒေဝဒတ်အလောင်း ဒုဋ္ဌကုမာရမင်းသားက သူ့ကိုနောက်မှ ကယ်ရကောင်းလား ဟူသော စိတ်ယုတ်မာဖြင့် ဘုရားအလောင်းရသေ့ကို ရန်ငြိုးထားပြီး နေပြည်တော်သို့ ပြန်သွားလေသည်။

'မိမိတိုင်းပြည်သို့ ရောက်သောအခါ ကောင်းမွန်စွာ ပြန်လည် ပြုစုစောင့်ရှောက်ပါမည်၊ မကြာမီ လိုက်လာခဲ့ပါ'ဟု ပရိယာယ်ဖြင့် ရသေ့အား မှာကြားထားခဲ့ခြင်းကြောင့် မင်းသား၏ စိတ်ထားကို စုံစမ်းရန် ရသေ့လည်း နေပြည်တော်သို့ လိုက်သွားလေသည်။ ထိုအချိန်တွင် မင်းသားက ဘုရင်ဖြစ်နေပါလေပြီ။

ဆရာရသေ့ ရောက်လာသည်နှင့် သတ်ရန် အမိန့်ပေးသောအခါ ရသေ့က "ခြေနှစ်ချောင်းကို မကယ်ကောင်းဘူး' ဆိုတဲ့ ပညာရှိ စကားတယ်လည်း မှန်ပါကလား"ဟု အတန်တန်ရွတ်ဆို နေသောကြောင့် လူထုပရိသတ်နှင့် မင်းချင်း ယောကျ်ားများက အကြောင်းစုံ မေးမြန်းသိရှိသွားကြလေရာ နောက်ဆုံးမင်းဖြစ်သူကိုသတ်ဖြတ်၍ ဘုရားအလောင်းရသေ့အား မင်းအဖြစ် တင်မြှောက်လိုက်ကြလေသည်။ (မေတ္တာမဲ့၍ ကျေးဇူးမသိတတ်သူတို့၏ ဘဝနိဂုံးကို သတိမူကြပါ)

(၆) <u>'ကေနိပါတ်၊ သင်္ဂါလဇာတ်'</u> တွင်လည်း ဘုရားအလောင်း မြေခွေးမင်းသည် သုသာန်၌ စွန့်ပစ်ထားသောသူသေကောင်တို့ကို အခြံအရံများနှင့် အတူလာ၍ စားလေ

သည်။ တစ်နေ့တွင် ဗာရာဏသီပြည်ဝယ် ညလုံးပေါက် အရက်သောက်ပွဲကြီး ကျင်းပကြရာ အရှင်ဒေဝဒတ်အလောင်း သေသောက်ကြူးသည် အရက်သောက်ရင်း အမြည်းကုန်သွားခြင်းကြောင့် သုသာန်သို့လာ၍- သေဟန်ဆောင်ကာ ဘုရားအလောင်း မြေခွေးကို သတ်ရန် ကြိုးစားလေသည်။ သို့သော် မရ။

အရှင်ဒေဝဒတ်သည် ဘဝအဆက်ဆက်တို့၌ ဗုဒ္ဓလောင်းလျာနှင့်ပတ်သက်လာလျှင် သူကပင်အနိုင်ယူခဲ့၏။ သို့သော် ဉာဏ်ပညာမပါသော အနိုင်ယူလိုမှုမျိုးကို အကွက်ဆင်သောအခါ ဗုဒ္ဓလောင်းလျာ၏ အစွမ်းအစသည် တိရစ္ဆာန်ဘဝ၌ပင် ပီပြင်လွန်းလှသဖြင့် ကာယသမားထက် ဉာဏသမား၏ လုပ်ရပ်က သမိုင်းတစ်ခေတ် မေ့ပစ်၍မရနိုင်လောက်အောင် သမိုင်းဝင်လျက် ရှိပေသည်။

(၇)　<u>'ဒုကနိပါတ် သကုနဂ္ဃိဇာတ်'</u> တွင် အရှင်ဒေဝဒတ် အလောင်းသိန်းငှက်သည် တောအစွန် လွင်ပြင်တစ်ခု၌ ကျက်စားနေသော ဘုရားအလောင်း ဗီလုံးငှက်ကို ထိုးသုတ် ကုပ်ယူ၍ ပျံသန်းသွားစဉ် ဗီလုံးငှက်က "ငါ့ နေရာမဟုတ်လို့ ထိုးသုတ်ခံရတာ ငါ့နေရာသာဆိုရင် ယှဉ်ပြိုင် သတ်ပုတ်လိုက်ချင်သေးတယ်"ဟု စိန်ခေါ်စကားဆို၍ ငိုယိုသောအခါ သိန်းငှက်ကလည်း မာနလေသံဖြင့် "အံမာ. မင်းနေရာက ဘယ်ဟာမို့လို့လဲ၊ ကဲ. ပြောစမ်း"

"အဲဟို ထယ်ခဲပြင်ဟာ ကျုပ်နေရာပဲ"

သိန်းငှက်သည် 'မလောက်လေး မလောက်စားအကောင်က ငါ့ကို စိန်ခေါ်ရကောင်းလား၊ ဘယ်လောက်ပင် စိန်ခေါ်သော်လည်း ဘယ်နည်းနှင့်မှ ငါ့ကိုအနိုင်ရလိမ့်မည် မဟုတ်' ဟု အပိုင်တွက်ဆထားပြီး ထယ်ခဲကြီးငယ်တို့ အကြားသို့ ဗီလုံးငှက်ကို ပစ်ချလိုက်လေသည်။ ဗီလုံးငှက်ကလည်း ထယ်ခဲပေါ်သို့ ရောက်သည်နှင့် သိန်းငှက်ကို စိန်ခေါ်လိုက်၏။

သိန်းငှက်ကလည်း ဒေါသဖြင့် ထိုးသုတ်လိုက်သောအခါ ဗီလုံးငှက်က ထယ်ခဲအောက်သို့ ဝင်ရောက် ပုန်းအောင်းလိုက်ရာ သိန်းငှက်ခမျာ ထယ်ခဲနှင့် ရင်ဝဆောင့်မိခြင်းကြောင့် ထိုနေရာ၌ပင် ပွဲချင်းပြီး သေဆုံးရလေသည်။

ထို့ပြင် 'လူမင်းဘုန်းကြီး နတ်မင်းမနေသာ'ဟူသော စကားသည် အကြောင်းမဲ့ ပေါ်ပေါက်လာသည် မဟုတ်။ သူယုတ်မာတို့၏ မတရားပြုလုပ်မှုကို အသက်မရှိသော မြေကြီးကပင် လက်ခံမထားချင်တော့သကဲ့သို့ နတ်များကလည်း လက်ပိုက်ကြည့်မနေကြဘဲ နတ်တန်ခိုးဖြင့် အမျိုးမျိုးကူညီခဲ့ကြဖူးလေပြီ။ ကြည့်ပါဦး . . .

(၈) 'ဒုကနိပါတ်၊မဏိစောရဇာတ်'တွင် ဘုရားအလောင်းသည် ရိုးသား၍ သီလဖြူစင်သော တောသားတစ်ယောက်ဖြစ်ခဲ့ဖူး၏။ ထိုရိုးသားမှုကြောင့်ပင် ဗာရာဏသီပြည်မှ နတ်သမီးတမျှ လှပသော ဇနီးမယားကို ရရှိလေရာ အတူနေထိုင်ကြပြီး ဇနီး၏မိဘများထံသို့ လှည်းယာဉ်လေးဖြင့် အလည်အပတ် သွားကြသောအခါ တိုင်းခန်းလှည့်နေသည့်အရှင်ဒေဝဒတ်

အလောင်း ဖြဟ္မဒတ်မင်းကဘုရားအလောင်းတောသား၏ ဇနီးကို မြင်ပြီး မတရားသိမ်းပိုက်လိုသောစိတ်ဓါတ်များဖြစ်ပေါ် လာသဖြင့် မင်းချင်းယောကျ်ားတစ်ယောက်ကို ခေါ်ကာ ပတ္တမြားဆံထိုး တစ်ခုပေးပြီး လှည်းစီးလာသူ ဇနီးမောင်နှံနှစ် ယောက် မသိအောင် လှည်းတစ်နေရာတွင် ပစ်တင်ခိုင်းလေ သည်။

ဘုရင့်ဘဏ္ဍာတော် ပျောက်ဆုံးမှုတွင် သူခိုးအဖြစ် အမှု ဆင်လိုက်ခြင်းဖြစ်၏။ အမှုဆင်သည့်အတိုင်းပင် ဘုရားအ လောင်း တောသားကို ဖမ်းဆီးတုပ်နှောင်ပြီး မြို့တံခါးမှ ထုတ် ကာ စဉ်းတီတုံးပေါ်တင်၍ ခေါင်းဖြတ်သတ်ရန် အမိန့် ထုတ် ပြန်လိုက်လေသည်။

သီလရှိသော ဇနီးချော 'သုဇာတာ'က သစ္စာပြု၍ နတ် များကို တိုင်တည်ပြောကြား အကူအညီများ တောင်းလိုက် သောအခါ သိကြားမင်းက ဗြဟ္မဒတ်နှင့်တောသားတို့အား နေရာချင်းလဲထားပေးလိုက်သဖြင့် ဗြဟ္မဒတ် ခေါင်းပြတ်၍ သေ ပြီးနောက် ဘုရားအလောင်း တောသားလည်း ဘုရင်ဖြစ်သွား လေသည်။

ယနေ့ခေတ်ကာလ၌လည်း လူအချို့၏ မိုက်မဲမှုကို ကြည့်ပြီး "မိုးကြိုးကလည်း ပစ်နိုင်ခဲလိုက်တာ"ဟု ပြောလေ့ရှိကြ ၏။ ထိုအခါ နောက်တစ်ယောက်က "အမယ်လေး၊ ပစ်ဖို့ နေနေ သာသာတော်၊ ချမ်းသာသွားလိုက်တာမှ ကျိကျိကိုတက်လို့" ဟူ၍လည်း ကောင်း။

"ဒီလူတွေအကြောင်း မသိတာမှတ်လို့အေ၊ ဟိုတုန်းက မျှား ခေါင်းမှာ ပုဆိုးတစ်ကွင်းပေါင်း၊ တစ်ကွင်းက စလွယ်သိုင်း၊ ခါးမှာ တစ်ကွင်းဝတ်၊ ပုဆိုးသုံးကွင်းကို တစ်နှစ်လုံး အနုလုံ၊ ပဋိလုံ အထက်အောက်လှည့်ပတ်ဝတ်ပြီး ဆပ်ပြာသည် ငိုတဲ့ရွာ'က လာကြတာပါ။ခုမှ ကြီးကြီးကျယ်ကျယ်၊ တရုတ်ဖုန်း ခါးချိတ်ပြီး ဝစ်(သ်)သောက်ကားကြီး စီးလို့၊ သွားစမ်းပါအေ၊ အထင်ကို မကြီးပါဘူး" စသည်ဖြင့် မိန်းမချင်း သန်းဥတုပ်ရင်း မေးငေါ့၍ အတင်းအဖျင်း ပြောဆိုကြသည်ကိုလည်း ကြားသိရဖူးပါ၏။

## သာဂျမ်း၊ လာစမ်း၊ ခါယမ်းသွားမယ်

မိုက်နေသူကို မိုးကြိုး ပစ်စေချင်ကြသည်။ သို့သော် တကယ်ပစ်လိုက်သည့် အသံကိုကား သတိမထားလိုက်မိကြပေ။ စာရေးသူ၏ မွေးရပ်မြေ ဇာတိမြို့တွင် 'ကိုသာဂျမ်း'တို့ ဇနီးမောင်နှံကို လူတိုင်းလိုလို သိကြသည်။

သူတို့ စီးပွားရေး လုပ်ငန်းက 'သားသတ်လုပ်ငန်း' ဖြစ်၏။ နယ်မြေဒေသအခြေအနေက 'သားသတ်လိုင်စင်'ဆိုသည်ကို နားမလည်ကြသည်က တစ်ကြောင်း၊ သတ်ဖြတ်ရသည့် အလုပ်ဖြစ်ခြင်းကြောင့်လည်းကောင်း၊ မည်သူမျှ စိတ်မဝင်စားကြချေ။ ယင်းသို့ စိတ်ဝင်စားသူမရှိလေ၊ ကိုသာဂျမ်းတို့ မိသားစု တွက်ခြေကိုက်လေဖြစ်၏။ ပြိုင်ဘက်ကင်းသဖြင့် 'မိုးလင်းသည်နှင့်လက်ဖျားငွေသီးနေသည့်မိသားစု'ဟုသတ်မှတ်နိုင်ပေသည်။

ကိုသာဂျမ်းသည် ရုပ်ရည်ဖြောင့်သလောက် လူမှုဆက်ဆံရေးကလည်း စံနမူနာ ယူရလောက်အောင် ကောင်းမွန်ပြေပြစ်လှလေသည်။ ရွာထဲက လူတစ်ယောက် ကျန်းမာရေးဖေါက်နေသည် ဟု ကြားလျှင် သူက အရင်ရောက်သွား၏။ ဆေး၊ သွေး၊ ငွေကြေး၊ ဘာမျှလိုလေသေးမရှိအောင် ကူညီပေးသည့်အပြင် တိမ်းပါးသွားလျှင်လည်း ကာယကံရှင် မျက်နှာမငယ်ရလေအောင် အကျိုးဆောင်ပေးလေ့ရှိသဖြင့် ကိုသာဂျမ်းကို လူတိုင်း ချစ်ခင်လေးစား၍ အားထားကြလေသည်။

ဆန်တစ်ပြည် နှစ်ကျပ်ခေတ်တုန်းက 'မန္တလေး နဂါးနီဒေါ်ဦးနှင့်အပြိုင် ကထိန်ခင်းနိုင်သူကို ပြောပါ' ဟု ဆိုလျှင်-ကိုသာဂျမ်းကိုပင် လက်ညှိုးညွှန်ရမည် ဖြစ်သည့်အပြင် သူ့ခေတ်သူ့အခါတုန်းက 'သာဂျမ်း လာစမ်း၊ ခါယမ်းသွားမယ်'ဟုပင် လူတိုင်း နီးပါး၏ ပါးစပ်ဖျားတွင် ရေပန်းစားခဲ့ဖူးလေသည်။

ရေပန်းစားမည်ဆိုလျှင်လည်း စားချင်စရာပါ။ ကထိန်ရာသီကို ရောက်လျှင် အိုးခွက်၊ ပန်းကန်၊ စောင်၊ ခြင်ထောင်၊ ခေါင်းအုံး အိပ်ရာခုတင်မှသည် တိုင်ကပ်နာရီအဆုံး လူသုံးကုန်ပစ္စည်းအားလုံးလိုလို ဘာဆိုဘာမှ လိုလေသေး မရှိရလေအောင် တည်ထောင် ခင်းကျင်းပေးလိုက်သဖြင့် "ကိုသာဂျမ်းကထိန်ကို အလှူခံရတဲ့ ကိုယ်တော်တော့ လူဝတ်လဲသွားတာများတယ်ကွ။ ကြည့်လေ တံမြက်စည်းကနေ ခြေသုတ်ခုံ၊ ကြက်သွန်လှီးဓါးအထိ ပါရှိတာဆိုတော့ ဒကာမသာ လိုတော့တာပဲ"ဟူ၍ပင် ပြောသံ ကြားခဲ့ရဖူးပါ၏။

မေတ္တာသည်သာ

ကိုသာဂျမ်းသည် ဗုဒ္ဓဘာသာ ကထိန်အလှူမှ ကြည်ဖြူသူ မဟုတ်။ အစ္စလာမ်ဘာသာဝင်တို့၏ 'ကိုရဗာနီ အစ်ပွဲ'သို့ ရောက် သောအခါ 'ဇကပ်'ဟု ခေါ်သော ဆင်းရဲသားကြေး ပေးရာ၌လည်း နွားနှစ်ကောင်လုံး၏ အသားများကို ရပ်ကွက်တွင်းရှိ ဆင်းရဲသား အိမ်တိုင်းသို့ တစ်ပိဿာစီ လှည့်၍ ပေးလိုက်ပါသေးသည်။

ခရစ်ယာန် ဘာသာဝင်များ 'စိန်ကိုလဘန် ဘုရားရှိခိုးကျောင်း'ဆောက်လုပ်စဉ် ကာလတုန်းကလည်း ထိုခေတ်ကျပ်ငွေတစ်သိန်း ပါဝင်လှူဒါန်းသကဲ့သို့ ဟိန္ဒူဘာသာဝင်တို့၏ 'အာရီးယားဘုရားရှိခိုးကျောင်းဆောင်'ကိုလည်း တစ်ဦးတည်း အပြီး ဆောက်လှူခဲ့လေသည်။ 'ကိုသာဂျမ်း ဘယ်ဘာသာကို ကိုးကွယ်သလဲ'ဟု မေးလျှင် . . .

* ငါ့မျက်လုံးအစုံ၊ မမှုန်သမျှ၊
လောကကို ကောင်းမြင်သိ၊ ကြည့်ရမယ်ပ။
* ငါ့ပါးစပ်ပွင့်နေသမျှ၊ လောကကို
ကောင်းမြင်သဘော၊ ပြောရမယ်ပ။
* ငါ့ခြေလက် သန်မာနေသမျှ၊
လောကကို ကောင်းမြတ်လမ်း၊
လျှောက်လှမ်းမယ်ပ။
* ငါ့ခန္ဓာကိုယ် သက်စိုသမျှ၊ မေတ္တာချိုတရားမမှုန်နဲ့၊

လောကကို ကောင်းကျိုးငဲ့၊ ထမ်းရွက်မယ်ပ။
* အဓိက စိတ်ဓါတ်ဟာ၊ ဖြူစင်စွာ ကြည်လင်မှ၊
သူပြုံးလည်း ကိုယ်ပြုံးပြ။
သူမုန်းလည်း ကိုယ်ပြုံးပြ၊
သူဆိုးလည်း ကိုယ်ပြုံးပြ၊
သူငြိုးလည်း ကိုယ်ပြုံးပြ၊
သူညစ်လည်း ကိုယ်ပြုံးပြ၊
ကိုယ်ကောင်းလျှင် ခေါင်းမရွှေ့ပါဘူး၊
မေတ္တာသာ ကမ္ဘာလွှမ်း၊ ငြိမ်းချမ်းမယ်ပ။

ဟူသော 'ဖျာပုံ မောင်ဆွေယဉ်'၏ 'မေတ္တာစွမ်းမှ ငြိမ်းချမ်းရ' ကဗျာကဲ့သို့ပင် "ကျုပ်ကတော့ မေတ္တာတရားကိုပဲ ကိုးကွယ်ပါတယ်"တဲ့။

အချို့ကလည်း "သာဂျမ်းက လူလည်ကွ၊ လူမျိုးမရွေး၊ ဘာသာမရွေး၊ သူ့စီးပွားရေးကို အားပေးချင်အောင် 'စည်းရုံးရေး အလှူ' လုပ်တာပါကွာ"ဟူ၍လည်း ပြောကြ၏။

မည်သို့ဆိုစေ ကိုသာဂျမ်းလို လူတွေသာ များများရှိနေလျှင် ပဒေသာပင်ပေါက်သလို လူသားတိုင်း၏ ဘဝခရီးလှပ ပြီးစီးနိုင်မှာ ဧကန်မလွဲ ဖြစ်ပါလိမ့်မည်။ ပုထုဇဉ်သည် ကုသိုလ်၊ အကုသိုလ် နှစ်မျိုးလုံးကို ပြုလုပ်၏။

ကောင်းကျိုး၊ ဆိုးကျိုးကလည်း 'ရေများ ရေနိုင်၊ မီးများ မီးနိုင်' ဆိုသကဲ့သို့ အားကြီးသော ကံကရှေ့ဆောင် တားဆီး ထားတတ်သောကြောင့် အလှည့်သင့်နေသည့် ကံအားလျော်

စွာ ရပ်တည်နေထိုင်ကြရလေသည်။ ကိုသာဂျမ်းသည် ကုသိုလ်ကောင်းမှုကို သူမတူအောင် ပြုလုပ်သကဲ့သို့ အကုသိုလ်ကိုလည်း မညည်းမညူ ပြုမူတတ်လေသည်။

နွားမသတ်သည့်နေ့ ဟူ၍ မရှိ။ ဆေးရုံက လူနာများကိုလည်း သွားရောက် ကြည့်ရှု စောင့်ရှောက်လိုက်သေး၏။ လက်ဖက်ရည်ဆိုင်ထိုင်လျှင် သူနှင့် ခင်သူအားလုံးအတွက် လက်သွက်သွက်ဖြင့်ပင် ငွေရှင်း ကျွေးမွေးလေ့ရှိ၏။

သည်ကြားထဲ "ကိုကြီးသာဂျမ်းရယ်. ကျွန်မလေ၊ စားစရာ မရှိလို့ အပ်ချုပ်စက်လေး သုံးထောင်နဲ့ ပေါင်ထားတာ၊ အခု မရွေးနိုင်ဘဲ ဆုံးတော့မှာမို့ ရွေးပေးပါလား။ ကျွန်မ စက်ချုပ်ခလေးတွေ စုပြီး ပြန်ဆပ်ပါ့မယ်" နောက်တစ်ယောက်ကလည်း . . .

"ခိုင်းနွားတစ်ကောင် ပိုးထိလို့ သေသွားတယ် ကိုသာဂျမ်းရေ၊ ဒီတော့ သတ်နွားထဲက တစ်ကောင်တော့ တစ်မိုးလောက် ငှားအုံးဗျာ၊ စပါးပေါ်တော့ နွားငှားခ စပါးငါးဆယ် ပေးပါ့မယ်" ဤသို့ ထိုသို့သော အခက်အခဲတို့နှင့်တကွ ထောင်တန်းပြဿနာ အမှုအခင်း ကိစ္စအဝဝတို့ကအစ ကိုသာဂျမ်း ပါရသည်ချည်းသာဖြစ်၏။

**အတက်နှင့်အကျ**

လူ့ဘဝသည် ချား-ရဟတ်ကဲ့သို့ အတက်အကျ ရှိ၏။ အတက်နှေးသလောက် အကျမြန်တတ်၏။ အတက်မှာ ခြေ

လှမ်းတစ်ရာရှိသော်လည်း အကျကား တစ်လှမ်းတည်းသာ ရှိ၏။ ကြည့်ပါ-

'ကိုသာဂျမ်း စီးပွားရေး ကျဆင်းချိန်တန်ပြီ' ဟု ဆိုရလေမည်လားမသိ။ ပတ်ဝန်းကျင်ရွာနီးချုပ်စပ်တွင် သတ်နွားတစ်ကောင်တလေပင် ဝယ်၍မရအောင် ပြောင်သွားပါချေပြီ။ ထို့ကြောင့် ကန့်ဘလူ၊ ထန်းကုန်း၊ ထန်းတပင်၊ ဇီးကုန်း၊ ညောင်ပင်သာ၊ တည်ဖိုပင်၊ ကျွန်းတောကုန်း၊ ရွှေကန်တော်၊ ကဒူးမ၊ ရေဦးကုန်း၊ မြောက်အင်း-စသော ဒေသများသို့ စီးတော်မြင်းတစ်ကောင်နှင့် နွားဝယ်ဆင်းရလေသည်။

တစ်နေ့တွင် ဝယ်နွားများကို အမောင်းငှားပြီး ပြန်လာသောအခါ မြွေဟောက်တစ်ကောင်က လမ်းပေါ်မှာ ပါးပြင်းထောင်နေသည်ကို စီးတော်မြင်းက ရုတ်တရက် မြင်လိုက်ရသဖြင့် လန့်ဖျပ်ပြီး ပတတ်ရပ်လိုက်ရာ ကိုသာဂျမ်းခမျာ မြင်းပေါ်က တစ်ပတ်လည်၍ ပြုတ်ကျသွားပါတော့သည်။

သွေးပူနေတုန်းမို့သိပ်မနာသော်လည်း ခဏကြာသောအခါ ထ-ပင် မထနိုင်တော့ပေ။ ထို့ကြောင့် မြင်းကို နောက်က ဆွဲ၍ လှည်းငှားပြီး ပြန်လာခဲ့ရ၏။

အိမ်သို့ ရောက်သောအခါ 'ကိုသာဂျမ်း မြင်းပေါ်က ကျလို့တဲ့' ဟူသော သတင်းက တစ်မုဟုတ်ချင်း ပြန့်သွားသဖြင့် လာရောက်မေးမြန်းကြသူများမှာ ဝင်ထွက်မစဲ တဖွဲဖွဲနှင့် စည်ကားလှပါသည်။

အကုသိုလ် ဂြိုဟ်ဆိုးဝင်လာပြီ ဆိုလျှင် တစ်မျိုးတည်း

နှင့် ပြီးသည်မဟုတ်။ တက်သုတ်ရိုက်၍ ဝင်လာတတ်လေသည်။ ကိုသာဂျမ်းက အကူလူမပါလျှင် မထူနိုင်၊ မထနိုင်သလို ချစ်လှသည့် ဇနီးကလည်း သွေးသံရဲရဲကို နှစ်ပေါင်းများစွာ ကိုင်တွယ်ခဲ့သူ ဖြစ်ခြင်းကြောင့် လက်သည်းတွေကြားမှာ အနာပေါက်ပြီး ရောင်အန်းနေလေရာ အစာကိုပင် ခွံ့ကျွေးနေရ၏။

လင်မယားနှစ်ယောက် မန္တလေး ဆေးရုံကြီးသို့ သွားရောက် ကုသကြသော်လည်း အနာကမပျောက်၊ ဆေးစား ဆေးသောက်ဖြင့် သက်သာသလိုလိုသာရှိလေသည်။ ထို့ နောက် ငွေကြေးတတ်နိုင်သူဖြစ်၍'ဘန်ကောက်'သို့ သွားရောက် ကုသကြပြန်ရာ တစ်လသာ ကြာမြင့်ခဲ့ပါသော်လည်း အနာက အချည်းနှီး။ ငွေကုန်ပြီးသာ ပြန်လာခဲ့ကြရရှာ၏။

ကိုသာဂျမ်းတို့ လင်မယား 'အမဲကဆိုင်'တွင် မထိုင်နိုင်ကြတော့သဖြင့် ပိုင်ဆိုင်သည့် အိမ်ကလေးကို ရောင်းလိုက်ကြရလေသည်။ အကြွေးရစရာတွေကလည်း တောင်း၍ မရတော့ပေ။ ထို့ကြောင့် ဝင်ငွေကောင်းစဉ်က ဝယ်ထားသော မန္တလေး နေအိမ်သို့ ပြောင်းရွှေ့ နေထိုင်လိုက်ကြပါတော့သည်။

ရောဂါ ပျောက်ကင်းရေးအတွက် ကောင်းဆိုသည့် ဆေး၊ ကောင်းဆိုသည့် ဆရာတို့ထံ အပ်နှံကုသကြလေရာ ဝင်ငွေက ဗလာဖြစ်နေသဖြင့် မန္တလေးမြို့တွင်းရှိသော အိမ်ကို ရောင်းပြီး 'ပုသိမ်ကြီးကွက်သစ်'သို့ ပြောင်းခဲ့ကြပြန်ပါသော်လည်း ဇနီး၏ အနာအခြေအနေက လက်ဆစ်တွေ ကြွေကျ၊ နှာခေါင်းအနေ ပွပြီး အနူမကြီးဘဝသို့ လုံးလုံးလျားလျား

ရောက်သွားပါလေတော့သည်။

ပြုစုသူများကလည်း သားသမီး အရင်းအချာများ မဟုတ်ကြသဖြင့် ဟိုအကြောင်းပြ၊ သည်အကြောင်းပြကာ ပြန်သွားကြပါလေပြီ။

လူမမာကို လူနာက ပြုစုနေရသည့် အခြေအနေကို စာရှုသူအဆွေ၊ မြင်အောင်သာ ကြည့်ပါလေတော့။ ကိုသာဂျမ်း၏ အနာက ခါးအဆစ်ရိုး သွက်သွက်ကျိုးသွားသဖြင့် ငွေရိုးသွင်း၍ တွဲချုပ်ထားသောကြောင့် လှုပ်ရှားမှုတွင် ညင်သာရ၏။ အလေးအပင်လည်း မမ,နိုင်၊ အထိုင်အထ မလွယ်ကူလှချေ။

သို့သော်လည်း လက်ချောင်း၊ ခြေချောင်းများ မရှိတော့သော ဇနီးအတွက် သူကပင် ချက်ပြုတ် ကျွေးမွေးရလေသည်။ ထချင်လျှင် တစ်တောင်ဆစ်ကို အားပြုရသောကြောင့် ကြာလာသောအခါ အသားမာပင် တက်လာပါလေပြီ။

"မိန်းမရာ၊ တို့နှစ်ယောက် အိပ်ဆေးသောက်ပြီးတော့သာ သေလိုက်ကြပါစို့ဟာ"

"အို. ကိုဂျမ်းကလည်း ကျုပ်ကြားဖူးတာ ပြောရရင် ရဟန္တာကြီးတစ်ပါးရဲ့ နှမ၊ နူနာရောဂါရလာလို့ သံဃာတော်များရဲ့ ကုဋီကို သန့်ရှင်းရေးလုပ်ရာကနေ ရောဂါတွေ ကင်းကင်းရှင်းရှင်း ပျောက်တယ်-ဆိုတဲ့အကြောင်း ကျုပ်ကြားဖူးတယ်။

"အနာသက်သာတဲ့နေ့၊ ဟောဟို 'ခင်မကန်ကျောင်း' သွား ပြီး ကျုပ်ရောဂါကြီးတွေ ပျောက်သွားအောင် ကုဋီတွေကို

သန့်ရှင်းရေးလုပ်မယ်၊ ရောဂါပျောက်ရင် ကျုပ်ကတစ်လှည့် ပြုစုမှာပါ၊ လူ့ဘဝဆိုတာ ရခဲပါတယ်။ စိတ်အားငယ်စရာ မလိုပါဘူး၊ ကိုဂျမ်းရယ်"

"နင်ကသာ စိတ်အားမငယ်နဲ့လို့ ပြောနေတာ၊ အခုအိမ်ရောင်းထားတဲ့ငွေကလည်း ကုန်ပြီ၊ အဲဒါ ဘယ်လို လုပ်ကြမလဲ"

"ဟို အိမ်ရောင်းတဲ့ ပိုက်ဆံကုန်သွားရင် ဒီအိမ်ကို ထပ်ရောင်းကြတာပေါ့"

"ဟင်-ဒီအိမ် ရောင်းလိုက်ရင် တို့နှစ်ယောက် ဘယ်သွားနေကြမှာလဲ"

"ဘုန်းကြီးကျောင်း တစ်ကျောင်းက ဇရပ်ပေါ် သွားနေကြမှာပေါ့"

"ဟာ.. နင်ပြောတော့ လွယ်လိုက်တာ၊ ဆိုက်ကားပေါ်တောင် အကူမပါဘဲ မထိုင်နိုင်ကြတဲ့သူတွေကို ဘယ်ဆရာတော်က လက်ခံမှာတဲ့လဲ၊ ကဲ . ပြောစမ်းပါအုံး"

"ကဲပါ၊ စိတ်အေးအေး ထားစမ်းပါ၊ ဒီကိစ္စ ကျုပ်စီစဉ်ပါ့မယ်၊ ကျုပ်တို့အိမ်ကို ဟိုတုန်းက ဆွမ်းခံကြွကြွနေတဲ့ ဦးပဥ္စင်းကြီး ဦးသုမနကို အကျိုးအကြောင်း လျှောက်ကြည့်ရင် အဆင်ပြေနိုင်လောက်ပါတယ်"

အကြင်လင်မယားနှစ်ယောက် အချီအချဆွေးနွေးတိုင်ပင်ကြပြီး ဦးပဥ္စင်းကြီး ဦးသုမနက 'ကျေးဇူးကြီးလှသည့်ဆွမ်းဒကာ ဆွမ်းအမမို့ ကျေးဇူးတုံ့ပြန်သည့် အနေဖြင့် ကမ္မ

ဌာန်းကျောင်းငယ်လေးတစ်ဆောင်ပေါ်မှာ ထားပါ့မယ်'ဟူသော ဝန်ခံကတိစကားရသည်နှင့်လက်ရှိအိမ်ကလေးကိုလည်း ရောင်းလိုက်ကြပြန်လေသည်။

ဆန်တစ်ပြည် နှစ်ကျပ်ခေတ်က၊ သိန်းရာဂဏန်းချမ်းသာသည့် ကိုသာဂျမ်း၊ ဘယ်လမ်းသွားသွား၊ ဘယ်နားနေနေ၊ ဘာတွေလုပ်လုပ်၊ တရုတ်-ကုလား၊ ဆင်းရဲသား၊ လူချမ်းသာ၊ တောရွာရပ်ကွက်၊ အသားနက် အသားဖြူ၊ ဘယ်လူဘယ်ရဟန်း၊ စမ်းချောင်ရာက စမ်း၊ သာဂျမ်းမှ သာဂျမ်း-ဟူ၍ လူသားတွေ ချစ်ကျွမ်းဝင်ခဲ့၊ အားထားခဲ့ကြသည့် ကယ်တင်ရှင်ကြီး တစ်ယောက် ဘုန်းကြီးကျောင်း ကပ်နေရသော ဘဝသို့ ရောက်ခဲ့ရပါလေပြီ။ 'တစ်ပူပေါ် နှစ်ပူဆင့်'ဟု ဆိုရလေမည်လား မသိ. .

" မိန်းမရာ၊ အိမ်ရောင်းလို့ ရတဲ့ငွေလေးကို တို့နှစ်ယောက် အိုစာမင်းစာအဖြစ် ဆရာတော့်ထံ အပ်နှံထားလိုက်ကြရင် ကောင်းမယ်ထင်တယ်"

"ကောင်းတယ်ကိုဂျမ်း ကောင်းတယ်။ နှစ်ယောက်စလုံးက ကျန်းမာကြတာ မဟုတ်တော့၊ သူခိုး ဓါးပြလာလုရင်တောင် ကာကွယ်ခုခံနိုင်ကြမှာမဟုတ်ဘူး။ ဆရာတော်ထံ အပ်နှံထားလိုက်တာ အလုံခြုံဆုံးပါပဲ။ ကဲ. ဒါဆိုရင် နက်ဖြန်နံနက်မိုးလင်းတာနဲ့ ဦးပဉ္ဇင်းကြီး ဦးသုမနထံကနေ တစ်ဆင့် ဆရာတော့်ထံအပ်လိုက်ကြတာပေါ့"

မိုးကြိုးပစ်သံ

နံနက်မိုးလင်းသောအခါ မိုးကြိုးပစ်သံ ကြားရပါပြီ။

" ဦးဇင်းဘုရား၊ ညက မိုးတွေ လေတွေ ကျလာတော့ အတက်တံခါး မင်းတုပ်ကို ကျအောင် မချနိုင်ကြဘူးဘုရား၊ စေ့ရုံစေ့ထားရတယ်။ လေတိုက်တော့ တံခါးက ပိတ်လိုက် ပွင့်လိုက်ဖြစ်နေပေမယ့် နှစ်ယောက်လုံး ဘယ်သူမှထပြီး မပိတ်နိုင်ကြဘူး။ အဲဒါ အခွင့်ကောင်း ယူပြီး လုပ်သွားကြတယ် ထင်ပါတယ် ဘုရား"

"ဟင်. . ဒကာမကြီး၊ ဘာတွေဖြစ်သွားလို့လဲ"

"ဘာဖြစ်ရမလဲဘုရား၊ ရှိသမျှ အထုပ်၊ အကုန်ယူသွားကြတာ၊ ဟောဒီခြုံထားတဲ့ စောင်ကလေး နှစ်ထည်ပဲ ကျန်ခဲ့ပါတော့တယ်။ စစ်ကျောပိုးအိတ်ထဲမှာက ငွေ၂၅-သိန်းထည့်ထားတာဘုရာ့။ မနက်ကျမှ အရှင်ဘုရားနဲ့ တိုင်ပင်ပြီး ဆရာတော့်ထံအပ်ဖို့၊ ညက နှစ်ယောက်သား ပြောနေကြပါသေးတယ်။ ဦးဇင်းရယ် တပည့်တော်မတို့ ဘဝက အခုမှ အသက်ရှင်ရက်နဲ့ သေကြရပါပြီ ဘုရား ဟီး ဟီး ဟီး ဟီး "

"စိတ်မကောင်းလိုက်တာ ဒကာမကြီးရယ်၊ နေရတာက အုတ်တံတိုင်းနဲ့လည်းနီး၊ ချောင်ကလည်းကျ၊ မိုးကလည်းရွာဆိုတော့ ဒကာမကြီးတို့ ပြောကြတဲ့ အသံတွေကို ကြားပြီး စော်စော်ကားကား လုပ်သွားကြပြီ ထင်တယ်။ ဒါနဲ့ လူရိပ် လူယောင်လေးမှ မမြင်လိုက်ကြရဘူးလား"

"မမြင်လိုက်ရပါဘူးဘုရား၊ ခါတိုင်းနဲ့ မတူဘဲ၊ ဒီနေ့ည

ကျမှ အရမ်းကို အိပ်ချင်တာနဲ့ အိပ်လိုက်ကြတာ အရုဏ်တက်တာတောင် မသိလိုက်ပါဘူး"

"အင်း. ကေန္တ၊ အိပ်မွေ့ချပြီး လိုချင်တာ၊ ရချင်တာ၊ အကုန်ယူသွားကြပြီထင်တယ်။ မိုက်လိုက်ကြပါပေ့ကွယ်။ အေးလေ ဖြစ်ပြီးမှတော့ ဘာတတ်နိုင်တော့မှာလဲ။ တစ်ခုတော့ ပြောထားပါ့မယ်၊ ဘာမှ စိုးရိမ်သောက မရောက်ကြပါနဲ့။ ဦးဇင်း မသေမချင်း ဒကာကြီး နဲ့ ဒကာမကြီးတို့ကို စောင့်ရှောက်မှာပါ။ အခုလို ဖြစ်သွားတာဟာ တို့ကျောင်းမှာ အားလုံးလုံခြုံတယ်-ဆိုပြီး ပေါ့လျော့တာလည်း-ပါပါတယ်။ အေးလေ-သင်ခန်းစာပဲပေါ့"

သဘာဝမိုးကြိုးသည် ပစ်သံကြားရ၏။ ပစ်ခတ်လျှင် တစ်နေရာတည်းသာ ထိမှန်၏။ လွတ်အောင် ရှောင်တတ်လျှင်လည်း လွတ်နိုင်ချေ ရှိ၏။

အကုသိုလ် မိုးကြိုးကားပစ်သံလည်း မကြား။ဘယ်အနားမှာနေနေ၊ ဘယ်အခြေကို ရောက်ရောက်၊ ဘယ်လောက်ပင် ကြီးကြီး၊ ငယ်ငယ်၊ အရွယ်အစား ရွေးမနေ။ ဘဝတစ်ခုလုံး ကြေမွသွားသည်က များလေ၏။ အိမ်သုံးလုံးနှင့် ရှိပစ္စည်းကုန်၍ ဘုရားကျောင်းမှာ ပုန်းအောင်းနေထိုင်ကြသော်လည်း ပြုထားသည့် ကံစနက်က အန်ထွက်အောင် နှိပ်စက်ပေတော့သည်။

သွေးစွန်းခဲ့ဖူးသော လက်များ ပြတ်ကျသွားကြပြီ ဖြစ်သကဲ့သို့ လူကိုဓွေ့သည့်နွား၊ ဓွေ့ရကောင်းလား-ဆိုပြီး ခါးကို တူဖြင့် ထု၊ မသေမရှင် မပြုစုဘဲ တစ်လတိတိ ထားခဲ့ဖူးသည့်

အကုသိုလ်ကံက အကူလူမပါလျှင် မထနိုင်သော ဘဝကို တွန်းပို့ပေးလိုက်ပါလေပြီ။ သံဝေဂယူစရာတွေချည်းပါတကား။

ထို့ပြင် သဘာဝမိုးကြိုးသည် စက်ကွင်းအတွင်းက ပစ်မှတ်များကို ထိမှန်တတ်သည့်နည်းတူ အကုသိုလ်ကံ မိုးကြိုးကလည်း တစ်ဦးနှင့် တစ်ဦး တိုက်တိုက်ဆိုင်ဆိုင် စက်ကွင်းထဲသို့ ပါဝင်နိုင်၏။ သာကီဝင်များ အစုလိုက် အပြုံလိုက် သေရခြင်း၊ ဝိဋူဍဘနှင့် စစ်သည်တော်များ ရုတ်တရက် သောင်ပြင်ရေဖုံး၍ သေဆုံးရခြင်းတို့သည် အတူပြုခဲ့ကြသည့် အကုသိုလ်ကံကြောင့် ချက်ချင်းပင် စက်ကွင်း မိရှာကြလေသည်။

'နတ္ထိ လောကေ ရဟောနာမ ပါပကမ္မံ ပကုဗ္ဗတော- လောကမှာ မကောင်းမှု ပြုသူတို့၏ ဆိတ်ကွယ်ရာမည်သည် မရှိ' ဟု ဗုဒ္ဓဟောကြားတော်မူသည့် တရားအားလျော်စွာ ဤအမှုကို 'ရဲ' က မသင်္ကာသဖြင့် ဆိုက်ကားသမားအား ဖမ်းဆီး စစ်ဆေးလိုက်သောအခါ ဦးဇင်းကြီး ဦးသုမနက လက်ပေးဖြစ်နေပြန်၏။

နောက်ဆုံးတွင် ဦးဇင်းကြီး ဦးသုမန လူဝတ်လဲရပြီး ဆိုက်ကားသမားနှင့် တွဲကာ ထောင်နန်းစံ သွားရလေသည်။ ငွေက တစ်ပြားတစ်ပဲမျှ ပြန်မရတော့ချေ။

ဦးဇင်းကြီး ဦးသုမန မရှိလေသောအခါ ကိုသာဂျမ်းတို့ ဇနီး မောင်နှံကို ဘယ်သူက အာမခံ၍ပြုစုကြပါမည်နည်း။ ပေးစရာ ငွေမရှိ။ ပြေးစရာလည်း မြေမရှိတော့ပေ။ ဩော် . . အံ့ဩစရာတွေ ချည်းပါတကား။

သို့သော်လည်း ကထိန်ဒါန၊ အဆောက်အဦဒါန၊ ဂိလာန ပစ္စကဒါန- စသည်တို့က အကျိုးပေးရန် ခေါင်းထောင်,ထလာကြဟန် ရှိပေသည်။

"ကဲ . . ဒကာကြီးနဲ့ ဒကာမကြီး၊ ခင်ဗျားတို့မှာ နေစရာစားစရာ ဆိုလို့ ဒီကျောင်းကိုပဲ အမှီပြုခဲ့ကြတာ ဖြစ်လေတော့ ဘုန်းကြီးကပဲ ဆက်လက် စောင့်ရှောက်ရမှာပေါ့။ အားမငယ်ကြပါနဲ့။ တရားသဘောနဲ့ ဆင်ခြင်နိုင်အောင် အားထုတ်နည်းကိုလည်း သင်ပေးမယ်။ အေးအေးဆေးဆေး နေကြ"

<u>လူသားနှင့် ကံကြမ္မာ</u>

ဇာတ်နာလှသော ကိုသာဂျမ်း၏ ဖြစ်အင်သည် ယုံချင်စရာ မကောင်းလောက်အောင် အပြောင်းအလဲ မြန်လှ၏။ စားနေစဉ်မှာ နတ်သုဒ္ဓါ ဖြစ်သော်လည်း ဝမ်းက လက်မခံသဖြင့် အန်လိုက်ရသောအခါ ရွံစရာအတိ ခွေးအန်ဖတ်လို ဖြစ်ဘိသကဲ့သို့ ကိုသာဂျမ်းသည်လည်း နတ်သုဒ္ဓါနည်းတူ အဆင့်အတန်း မြင့်သော ဘဝကို အသက်(၅၀)ပြည့်အောင် ပျော်ပျော်မော်မော်ကြီး နေထိုင်နိုင်ခဲ့၏။

ကံတရား ညှိုးမှိန်ချိန်သို့ ရောက်သောအခါ သေချင်စရာ ကောင်းလောက်အောင် အကျည်းတန်သည့် ဘဝကို ရရှိသွားလေတော့သည်။

သို့ပါသော်လည်း ဆရာတော်၏ မေတ္တာစေတနာ အရိပ်ကို ခိုလှုံ၍ ဝိပဿနာနှင့် တိုင်းရင်းမြန်မာ ဆေးစွမ်းတို့

ကြောင့် ကိုသာဂျမ်း၏ ခါးဆစ်အနာက ယူပစ်သလို ပျောက်ကင်းသွားပါပြီ။ သို့ပေမယ့် ခါးကြီးကစန့်မရ။ ခါးကုန်းကြီးဘဝသို့ ရောက်နေလေသည်။ ယခင်က လှုပ်မရသည်နှင့် စာလျှင် ခါးကြီးကုန်းနေသည်က တော်ပေသေး၏။

နောက်ကိုလှည့်ကြည့်မည်ဆိုလျှင် တစ်ကိုယ်လုံး လှည့်၍ ကြည့်ရသောကြောင့် ယခုမှ 'ဆင်မယဉ်သာ' စာရင်းဝင်ဖြစ်လေတော့သည်။ ဇနီးဖြစ်သူ၏ ယခင်ပြည်တစိုစိုနေသော အနာများကလည်း အားလုံးခြောက်၍ ပျောက်သွားပါလေပြီ။

သို့သော် ခြေဖျားများက တုံးတိတိ။ လက်ဖျားများက လုံးလုံးမရှိ။ နှာခေါင်းနှင့် နှုတ်ခမ်းကို အာရုံကြောများက ဆွဲထားသဖြင့် မျက်နှာမှာ အလိုအလျောက် ပြုံးစိစိကြီး ဖြစ်နေရှာပါသည်။ ပါးစပ်က ရွဲ့သွားကပဲ့မို့ အပေါင်းအသင်းများကို မဆိုထားဘိ ဆွေမျိုးညာတိတို့သည်ပင် 'ဒါ. . . ကိုသာဂျမ်း၏ ဇနီးမယား'ဟု ပြောဆိုပါက ယုံကြည်ကြလိမ့်မည် မဟုတ်။ ကိုသာဂျမ်း၏ ရုပ်ပုံကလည်း ယခင်နှင့်ဘာမျှမဆိုင်။ ခါးတိုင်က ကုန်းကုန်း၊ မျက်လုံးကရေတွင်း၊ နားထင်နားရင်းက ချိုင့်ခွက်။ အသားကလည်း မည်းနက်နေသည့်အပြင်၊ ဆံပင်ကမရှိ၊ ကိုသာဂျမ်းမှန်း သိချင်လျှင် နဖူးတည့်တည့်က 'ဂဏ္ဍဝင် မှဲ့ကြီး'တစ်လုံးသာ ရှိတော့၏။

အပြောအဆိုအသံနေအသံထားတို့ကလည်း ကံကြမ္မာဒဏ်ချက်ကြောင့် ပြာအက်အက် ဖြစ်နေသဖြင့် 'ကျုပ်-သာဂျမ်းပါ' ဟုပြောရင်တောင် မှတ်မိနိုင်စရာ မရှိတော့ပါချေ။

ရက်-လ-များသည် 'လဆန်း၊ လဆုတ်၊ လပြည့်၊ လကွယ်' ဟူ၍ ရှိ၏။ လဆန်း ၃-ရက်လသည် ခုံးမျက်စသဖွယ် ကွေးကွေးလေးနှင့် သေးသေးရေးရေးသာ ရှိသဖြင့် အရောင်မတောက်ပလှ ပေ။ လပြည့်ကာနီးလေ အရောင်တောက်ပလေဖြစ်၏။ လပြည့်ညမှာ တစ်လောကလုံး ထိန်ထိန်သာသည်မဟုတ်ပါလား။

တစ်ဖန်လကွယ်ညသို့ရောက်သောအခါ တစ်လောကလုံး အမှောင်ဖုံးသွားပြန်သဖြင့် ကြည့်တတ်ပါလျှင် ဝိပဿနာလုပ်ငန်းစဉ်ပင် ဖြစ်နေပေတော့သည်။

ကံကြမ္မာသည်လည်း လဆန်း၊ လဆုတ်၊ လပြည့်၊ လကွယ်ပမာ အလွန်ဆန်းကြယ်လှပါ၏။ ယခင် လူချော၊ လူလှ၊ သူဌေး၊ လူတိုင်း၏အရေးပေး လေးစားခြင်းကို ခံယူခဲ့ရသလောက် ယခုမျက် မှောက်အခြေအနေမှာ ဘာမှ ကုန်းကောက်စရာဟူ၍မရှိ။ တကယ့် ဘဝလကွယ်သည့်ည။ တစ်ကိုယ်တည်းနှင့် နှစ်ဘဝ သရုပ်ဆောင် ရသဖြင့် ကြည့်မြင်ရသူ မှန်သမျှ သံဝေဂ မရချင် မနေ၊ ရ-ကို ရကြ ရပေမည်။

"အဟံ-ငါသည်၊ ကမ္မဿကော-ကံသာလျှင် ကိုယ်ပိုင် ဥစ္စာရှိ၏၊ ကမ္မယောနိ-ကံဟူသော အကြောင်းရှိ၏၊ ကမ္မဗန္ဓု-ကံဟူသော အဆွေအမျိုးရှိ၏၊ ကမ္မပဋိသရဏော-ကံဟူသော လဲလျောင်း မှီခိုရာ ရှိ၏၊ ကလျာဏံဝါ-ကောင်းသည်မူလည်းဖြစ်သော၊ ပါပကံဝါ-မကောင်းသည်မူလည်းဖြစ်သော၊ ယံကမ္မံ-အကြင်ကုသိုလ်ကံ၊ အကုသိုလ်

ကံကို၊ ကရိယာမိ- ပြုလုပ်မိပြားအံ့၊ တဿကမ္မဿ- ထိုကံကောင်း၊ ကံဆိုးအမျိုးမျိုး၏၊ ဒါယာဒေါ- အမွေခံသည်၊ ဘဝိဿာမိ- ဖြစ်ရမှာပါတကား"

ပြုလုပ်ထားသော ကံတရားတို့မည်သည် သဗ္ဗညုတဉာဏ်တော်ပိုင်ရှင် ဘုရားသခင်ကိုသော်မျှ ချမ်းသာပေးကြသည် မဟုတ်။ ဗုဒ္ဓမှာ ခေါင်းခဲဝေဒနာ မကြာမကြာ ပေါ်လာလေ့ရှိ၏။ ထိုဝေဒနာကို သမားတော်ဇီဝက ကုသနိုင်သော်လည်း ဝဋ်နာ၊ ကံနာဖြစ်ခြင်းကြောင့် အမြစ်မပြတ်နိုင်။ ဆေးမျိုးလှိုင်လှိုင်ဖြင့် အပိုင်ကပ်လျှ ကုသမှု ခံယူတော်မူသော်လည်း အချည်းနှီးသာဖြစ်၏။

တံငါသည်၏ ငါးခေါင်း ထုသတ်မှုကို နှစ်သက်သဘော ကျခဲ့မိသော ထိုကံသည် ပရိနိဗ္ဗာန် စံသည့်တိုင်အောင်လိုက်ပါ အကျိုးပေးသေးသည်ဆိုလျှင် စိတ် အစဉ်ကို စေတနာတပ်၍ ပြုအပ်သော (ခိုင်းစေအပ်သော) ကံတို့၏ အကျိုးပေးမည့် သရုပ်ကို ကျွန်ုပ်တို့ အဟုတ်ပင်တွေးဝံ့စရာ မရှိတော့ပါချေ။ ကိုသာဂျမ်းတို့ ဇနီးမောင်နှံနှစ်ယောက်တို့၏ ဖြစ်ထွေကိုလည်း ကြည့်ပါလေဦး . . .

ကျန်းမာရေး ကောင်းလာအောင် စောင့်ရှောက်ပေးတော်မူသော ဆရာတော်၏ကျန်းမာရေးက ရုတ်တရက် ဖေါက်လာသဖြင့် ဆေးရုံသို့ တက်ရောက် ကုသရလေသည်။ နှလုံးရောဂါ-ဟု သိရ၏။ သူဌေးကိုသာဂျမ်း ကပ္ပိယအဖြစ်ဖြင့် တစ်ခန်းရပ်ပြဇာတ် က-ရပေဦးတော့မည်။

တစ်ခန်းရပ်-ဆိုသည့်အတိုင်း တကယ့်ကိုပင် တစ်ခန်းရပ် ဖြစ်ပါ၏။ ဆရာတော့်ကို တစ်ပတ်ခန့်သာ ပြုစုလိုက်ရပြီး ဆရာတော်ကြီးက တစ်ဘဝ ဇာတ်သိမ်းသွားတော်မူလေသည်။ သည် တစ်ခါမှပင် ကိုသာဂျမ်းတို့ ဇနီးမောင်နှံ မျောက်သစ်ကိုင်း လှုပ်ချခံရသလို ကွန်းခိုရာ မရှိတော့ချေ။

နောက်မထေရ်က ပရဟိတဂေဟာသို့ ပြောင်းကြရန် အမိန့်ရှိပါလေပြီ။ ပရဟိတဂေဟာများနှင့် ဘိုးဘွားရိပ်သာများကလည်း ကိုသာဂျမ်းကိုတော့ လက်ခံမည်၊ ဇနီးသည်က အနာကြီး ရောဂါ- ရထားသဖြင့် နှာခေါင်းရှုံ့ကြ၏။

ကိုသာဂျမ်းကလည်း ငယ်လင်၊ ငယ်မယားမို့ ပစ်မထားရက်။ သည်တစ်သက်၊ ကြင်ဖက် မခွဲစတမ်း စိတ်ဖြင့် နှစ်သိမ့်ပြီး ရွာနီးချုပ်စပ်သို့ ပြန်ကပ်လာကြရာ ရွာဦးကဆွန်(အာရုံခံတန်ဆောင်း)မှာ နေထိုင်ကြရင်း သူပေး၊ လူပေး အစာ အာဟာရလေးဖြင့်သာ ဘဝတစ်ကွေ့၏ သေနေ့ကို စောင့်နေကြရရှာလေသည်။

ငရဲသားသည် မီးတောက်ထဲ၌ သဲသဲမဲမဲ ပြေးလွှားနေရသော်လည်း အကုသိုလ်ကံအား ကြီးမားလှသဖြင့် မီးလောင်၍ မသေနိုင်။ ရေမျောသော်လည်း မမြုပ်။ တင်းပုတ်ဖြင့် ထုသော်လည်း မကြေ။ အကုသိုလ်အရှိန် မသေသေးသမျှ ခံနေရဦးမည်သာ ဖြစ်သကဲ့သို့၊ ဆင်းရဲဒုက္ခ ရောက်နေကြရသူများလည်း အာဟာရချို့တဲ့သဖြင့် အားပြတ်၍ သေစရာကောင်းလှ၏။ သို့သော် မသေနိုင်။ အကုသိုလ်ကံက ခိုင်မာလှသဖြင့် 'အရှုံး

အအေးမပတ်' သလို အကြွေးဆပ်၍ပင် နေကြရလေသည်။

ကိုသာဂျမ်းတို့ ဇနီးမောင်နှံမှာ ချက်ပြုတ်စရာ အိုးခွက် မပြည့်စုံ။ ဇလုံလုပ်လျှင် သည်အိုး၊ ရေချိုးတော့လည်း သည်အိုး၊ မျက်နှာသစ်-ရေနွေးတည်-သည်အိုးငယ် တစ်လုံးကိုသာ လွယ်ထားကြရလေသည်။ မိုးရွာသောအခါများနှင့် ဆောင်းလ ရာသီတွင် ချည်စောင်နှစ်ထည်ကို အဖေါ်ပြုကြရ၏။

ထိုဒုက္ခ၊ ဤဒုက္ခတို့ကို နေ့စဉ် ခံစားနေရသော်လည်း သေကား မသေနိုင်သေးပေ။ ရထား တွဲကြိုတွဲကြား၊ ဘူတာရုံ အစွန်အဖျားတို့သည် ကိုသာဂျမ်းနှင့် ဇနီးတို့၏ ဂေဟာများပင် ဖြစ်နေပေတော့သည်။ တစ်ခါတလေ သူတောင်းစားချင်း ခွက်ခုတ်သည်ကို လည်း ခံလိုက်ရသေး၏။

"သည်မြို့ကို တောင်းချင်လျှင် ကော်မရှင် မပေးက မတောင်းရ"ဟူသတတ်။

တစ်နေ့ 'ကောလင်းဘူတာ'တွင် အထက်ရထားကို ရပ်ပြီး စောင့်နေသခိုက် . . .

"ခင်ဗျား၊ ကိုသာဂျမ်း မဟုတ်လား"

"မဟုတ်ရပါဘူး၊ ဆရာလေးရယ်"

"ဟင် ၊ ခင်ဗျားကသာ မဟုတ်ဘူးဆိုပေမယ့် 'ဆရာလေး'လို့ခေါ်နေကျ စကားက သက်သေပြနေသလိုပဲ။ ခင်ဗျား . . ခင်ဗျား. . ဟုတ်ပါတယ် ကိုသာဂျမ်းပါဗျာ။ နဖူးမှာလည်း မှဲ့ပါတယ်။ပြီးတော့ ကျွန်တော်နဲ့အတူ 'မြန်မာ့သိုင်းပညာ'ကို သင်ကြတုန်းက ဆရာကိုယ်တိုင် ထိုးပေးလိုက်တဲ့ ခင်ဗျားလက်

က ဆေးမင်ကြောင် အမှတ်အသားတွေကလည်း ကျွန်တော်နဲ့ တစ်ထပ်တည်းပဲလေ။ ကျွန်တော့်မှတ်ဉာဏ် ဆိုသလောက် မခေသေးဘူးလို့ ထင်တာပဲ"

စာရေးသူ နှုတ်ဆက်လိုက်ချိန်တွင် ကိုသာဂျမ်း ရှိုက်ကြီး တငင် ငိုပြီး "ကိုသာဂျမ်းလို့ နှုတ်. . နှုတ် နှုတ်ဆက်တာ၊ ဆရာ. . ဆရာ. . ဆရာလေး တစ်ယောက်ပဲ ရှိပါတော့တယ်။ မင်္ဂလာရှိလိုက်တာဗျာ. ဟာ၊ တချို့ကတော့ တကယ်ပဲ မမှတ်မိကြတော့တာလား၊ ဒါမှမဟုတ် သူဌေးတောင်းစားကြီး-ဆိုပြီး နှုတ်ဆက်ရမှာ ဝန်လေးသွားကြလို့လား. . မပြောတတ်တော့ပါဘူး ဆရာလေးရယ်၊ ကျွန်တော့်ကို နှုတ်ဆက်တဲ့လူ တစ်ယောက်မှ မရှိတော့ပါဘူး။ ဆရာလေး ပေါက်ဦးပါပဲ"

"နို့ နေပါဦး၊ အခု ဘယ်မှာ နေကြတာလဲ"

"ဘူတာရုံနဲ့ ဇရပ်တွေဟာ ကျွန်တော်တို့ နှစ်ယောက်အတွက် ဗိမာန်ပါပဲ ဆရာလေးရယ်"

"ဒါနဲ့ သူက . . ."

"အင်း . ဆရာလေး မမှတ်မိနိုင်တော့ဘူးလေ၊ တစ်ချိန်က ရွှေတွဲလောင်း၊ ငွေတွဲလောင်းနဲ့ နေခဲ့တဲ့ ကျွန်တော့်ဇနီး 'ဒေါ်မာလာဦး' ပေါ့ဗျာ"

"ဟာ. . သူ့ကျန်းမာရေးက ဘယ်လိုဖြစ်သွားတာလဲ၊ မျိုးရိုးလည်း မရှိပါဘူး"

"ဟုတ်တယ် ဆရာလေး၊ မျိုးရိုးတော့ မရှိဘူး၊ ဒါပေမဲ့ . . ကျွန်တော့်အထင် ပြောရရင် အမဲသွေး၊ အမဲဆီ၊ အမဲသား

တွေကို တစ်နေကုန် အချိန်ပြည့် ကိုင်နေရတယ်၊ နှစ်နဲ့ချီနေပြီ ဆိုတော့ လက်သည်းကြား နုတဲ့နေရာကစပြီး တဖြည်းဖြည်း အက်စစ်-လို စားလာရာက အနာဖြစ်လာတယ်။ လက်သည်းတွေ ကျွတ်သွားတယ်။ နောက်တော့ အနာက မကျက်ဘဲ လက်ဆစ်လေးတွေပါ ကြွေကျကုန်တယ်။ နားရွက်တွေထူ၊ နှာခေါင်းကပွ၊ ပါးစပ်ပါ ရွဲ့လာပြီး တကယ့် နူနာသည်ကြီးလုံးလုံး ဖြစ်သွားပါတော့တယ်၊ ဆရာလေး မြင်တဲ့အတိုင်းပါပဲဗျာ"

"ဩော်. စိတ်မကောင်းလိုက်တာ ကိုသာဂျမ်းရယ်၊ ကဲ. ရော့၊ ဟောဒီမှာ ငွေငါးသောင်း၊ လိုအပ်တဲ့ နေရာသုံးပေ့ါ။ နေအုံးဗျာ၊ ခရီးသွားရင်းဆိုတော့ ကျွန်တော့်ပါလာတဲ့ အဝတ်အစားတွေလည်း အကုန်ပေးခဲ့မယ်"

"ဝမ်းသာလိုက်တာ ဆရာလေးရယ်၊ ဆရာလေးကို အရင်လိုပဲ သန့်သန့်မာမာ၊ တောင့်တောင့်တင်းတင်းကြီး မြင်ရတော့ ကျွန်တော့် ဟို. . အို. . ဘဝကို. . တမ်း. . တ မိပါတယ်။ ဒါပေမဲ့ ဘယ်လိုမှ ပြန်မရနိုင်တော့ပါဘူး။ ကျွန်တော့်ကို ကြည့်ပြီး သင်ခန်းစာသာ ယူပါတော့ ဆရာလေးရယ်၊ ပြီးတော့ ကျွန်တော့်တို့ နှစ်ယောက်ရဲ့ ဘဝဇာတ်ကြောင်းကိုလည်း အများပြည်သူ သိအောင် စာရေးဆရာပီပီ ရေးသားပေးပါ-လို့ တောင်းပန်ပါရစေ"

စာရှုသူ ဖတ်ခဲ့သော ဤဇာတ်ကြောင်းကို ကိုသာဂျမ်းကိုယ်တိုင် စာရေးသူအား ရထား-ရပ်နားနေစဉ်အတွင်း ရှင်းလင်း ပြောပြခဲ့သော ဖြစ်ရပ်မှန် ဇာတ်လမ်းတစ်ပုဒ်ဖြစ်ပါသည်။

သူတို့ လင်မယား မကွယ်လွန်ကြသေးပါ။ တောင်းရမ်းစားသောက်ရင်း သူတို့နေသည့် ရထားတွဲကြားသို့ သားယောကျ်ားကလေးငယ်တစ်ဦးကို လာရောက် ပစ်သွားကြသဖြင့် ကောက်ယူ၍ မွေးစားထားလိုက်ကြပါသေးသည်။ ကလေးကလည်း နို့မစို့ရဘဲ ထမင်းခဲ အရည်ညှစ်၍ ကစီရည်ပျစ်ပျစ်ဖြင့်သာ ကြီးပြင်းလာရရှာ၏။

မကြာသေးမီက မြစ်ကြီးနား ဈေးအတွင်းမှာ ခါးကုန်းကုန်းကြီးဖြင့်သားဖြစ်သူ(မောင်မြဝင်း)ကို လက်ကဆွဲ၍ တောင်းရမ်းနေသည်ကို တွေ့ရသောကြောင့် အိုးခွက်၊ ပန်းကန်၊ စောင်၊ ခြင်ထောင်၊ ခေါင်းအုံးတို့ကို စာရေးသူ ဝယ်ပေးလိုက်ရပါသေးသည်။

အနှစ်ချုပ်ကား အပြစ်မဲ့၍ အသိဉာဏ် မရှိရှာကြသော နွားများကို သတ်ပြီး စီးပွားရှာလာခဲ့ရာ ငွေကြေးများစွာကို ပိုင်ဆိုင် ခွင့်ရခဲ့ရပါသော်လည်း အကုသိုလ်ကံက ဘဝမခြားဘဲ မိုးကြိုးပစ်သည့်အလား၊ စွမ်းပကားကြီးမားလှသောကြောင့် ဘဝတစ်ပါးဝယ်၊ ငရဲသားဘဝဖြင့် ထပ်ဆင့် ခံစားရရှာဦးမည့် သူတို့နှစ်ယောက်၏ ဖြစ်အင်ကို ဆင်ခြင်၍ စာပေအသွင်ဖြင့် တင်ပြရခြင်း ဖြစ်ပါသည်။ သံဝေဂ ယူတော်မူကြပါကုန်။

(၉) 'ဒုကနိပါတ်၊ ကုရုင်္ဂမိဂဇာတ်'တွင် ဘုရားအလောင်း ဒရယ်က ရေအိုင်တစ်အိုင်သို့ ရေသောက်ဆင်းလာစဉ် အရှင်ဒေဝဒတ်အလောင်း မုဆိုး ထောင်ထားသော ကျော့ကွင်း၌ မိလေသည်။ ဘုရားအလောင်း၏ မိတ်ဆွေများဖြစ်ကြသော

'ခေါက်ရှာငှက်' နှင့် 'လိပ်' တို့က ကူညီကြ၏။

လိပ်က ကျော့ကွင်းကို ကိုက်ဖြတ်ရာ တစ်လွန်းသာ ကျန်သော အချိန်တွင် မုဆိုးလာသည်ကို မြင်ရသဖြင့် ခေါက်ရှာငှက်က အသံပေးသောကြောင့် ဘုရားအလောင်း ဒရယ်က ဆောင့်ရုန်းလိုက်၍ လွတ်သွားသော်လည်း မုဆိုးကြီးက 'ငါးမရ၊ ရေချိုးပြန်'ဟူသော စကားကဲ့သို့ ဒရယ်ကို မရသောအခါ လိပ်ကို အိတ်ထဲ ကောက်ထည့်သွားလေသည်။

၎င်းဖြစ်အင်ကို ဒရယ်က မြင်သဖြင့် မုဆိုးရှေ့မှ ထော့နဲ့ ထော့နဲ့လုပ်၍ သွားပြသောအခါ မုဆိုးက လိပ်ထည့်ထားသည့် အိတ်ကိုချ၍ ဒရယ်နောက်သို့ လိုက်လေသည်။ ဘုရားအလောင်းဒရယ်က အလွန်ဝေးရာအရပ်သို့ ရောက်သည့်တိုင် အောင် သွေးဆောင်သွားပြီးနောက် တစ်ဖန်လှည့်၍ လိပ်ထည့်ထားသော အိတ်ကို ဦးချိုဖြင့် ချိတ်ကာ ဝေးရာသို့ ယူဆောင်ပြီး ကယ်တင်လိုက်လေသည်။

ဤဘဝ၌လည်း အရှင်ဒေဝဒတ်အလောင်းက ဘုရားအလောင်းကို သေအောင် သတ်ရန် ကြိုးစားခဲ့ရာ အချည်းနှီးသာ ဖြစ်ခဲ့၏။ ထို့ပြင်-

(၁၀) '<u>ဒုကနိပါတ်၊ သုသုမာရဇာတ်</u>'၌လည်း ဂင်္ဂါမြစ်ကွေ့တွင်နေသော ဘုရားအလောင်းမျောက်မင်းကို အရှင်ဒေဝဒတ် အလောင်း မိကျောင်းက 'သစ်သီးပေါသည့် နေရာသို့ ပို့ဆောင်ပေးမည်'ဟု ပြောဆိုပြီး ကျောက်ကုန်းပေါ်သို့ တင်ဆောင်လာခဲ့ရာ ရေနက်ထဲ ရောက်သည်နှင့် မိကျောင်းက ငုပ်လျှိုးမည့်

အပြုတွင် -
'ဘာကြောင့် ဒီလိုလုပ်ရတာလဲ'ဟု ဘုရားအလောင်းမျောက်မင်းက မေးသောအခါ 'မိကျောင်းမအတွက် သင်၏ အသည်းနှလုံးကို အရယူလိုကြောင်း' ပြောသဖြင့် ဘုရားအလောင်းက 'အသည်းနှလုံးကို သဖန်းပင်ပေါ်မှာ ချိတ်ထားခဲ့တယ်။ ပြန်ယူပါရစေဦး'ဟု ပြောသောအခါ မိကျောင်းက ပြန်လည် ပို့ဆောင်ပေးလေသည်။

ဘုရားအလောင်းကလည်း သဖန်းပင်ပေါ် တက်ပြီး 'ရော့ ငါ့အသည်းနှလုံး၊ ရော့- ငါ့အသည်းနှလုံး'ဟူ၍ အော်ဟစ်ကာ သဖန်းသီးများဖြင့် ပစ်ပေါက်လိုက်လေသည်။

(၁၁) 'ဒုကနိပါတ်၊ဓမ္မဓဇဇာတ်'ကို သုံးသပ်ကြည့်လျှင်လည်း တာရာဏသီပြည်၌ 'ယသပါဏိမင်း'၏ ပုရောဟိတ်ပညာရှိ- ဘုရား အလောင်း 'ဓမ္မဓဇ'သည် စစ်သူကြီး 'ကာဠက'က လာဘ်ပေးလာဘ်ယူလုပ်ပြီး တရားစီရင်နေသည်ကို ဥပဒေနှင့်အညီ ပီပီပြင်ပြင် မှန်မှန်ကန်ကန်ဖြစ်အောင် ထပ်မံစီရင်ခြင်းကြောင့် လူထုက ကောင်းချီးပေးကြသောအခါ ဘုရင်ကလည်းနှစ်သက်သဘောကျသဖြင့် တရားသူကြီး ရာထူးကိုပါ တိုးမြှင့်ခန့်အပ်လိုက်လေသည်။

ထိုအခါ စစ်သူကြီးက တံစိုးလက်ဆောင် မစားရတော့သဖြင့် ရန်ငြိုးဖွဲ့၍ မင်းကြီးအား ကုန်းချောစကား ပြောကြားသောကြောင့် ဘုရားအလောင်း ပညာရှိ ပုရောဟိတ်ကို အသေသတ်ရန် နည်းလမ်းရှာကြံကြ၏။ 'တစ်ရက်တည်းအပြီး၊ ဥယျာဉ်

ကြီး တည်ဆောက်ရမည်။ မပြီးစီးပါက သေဒဏ်ကျခံစေရမည်'ဟူသတတ်။

'ဓမ္မော ဟဝေ ရက္ခတိ၊ ဓမ္မစာရီ- တရားကို စောင့်သောသူအား တရားက ပြန်လည် စောင့်ရှောက်၏'ဟု ဘုရားရှင်ဟောတော်မူသည်နှင့်အညီ 'လူမင်းဘုန်းကြီး၊ နတ်မင်းမနေသာ'ဟူသော စကားသည်လည်း ဤဇာတ်တော်နှင့် အလွန်လိုက်ဖက်လှပါ၏။ ဘုရင်နှင့် စစ်သူကြီးတို့က ဖြစ်နိုင်ချေမရှိသော အလုပ်ကို ခိုင်းစေခဲ့ကြသော်လည်း သိကြားမင်း၏ တန်ခိုးဖြင့် ဥယျာဉ်ကြီး ညတွင်းချင်း ပြီးခဲ့လေသည်။

ဤမျှ စွမ်းအားကြီးသော မိမိ၏ ပုရောဟိတ်ကို အကဲမခတ်နိုင်ဘဲ စစ်သူကြီး၏ အလွဲတင်ပြချက်ကိုသာ တစ်ဘက်သတ်လက်ခံ၍ ရတနာများစီခြယ်ထားသော ရေကန်ကြီးတစ်ကန်ကိုလည်း ညတွင်းချင်းအပြီး တည်ဆောက်စေပြန်သည်။

<u>လူနှင့်ရွှေဘုန်း</u>

ပညာအခံနှင့် ရွှေဘုန်း ရွှေကံရှိသူတို့သည် ယုတ်ညံ့သူတို့၏ လက်အောက်သို့ ရောက်ရသောအခါ ကမောက်ကမ ပြဿနာတို့နှင့် ရင်ဆိုင်တွေ့ကြုံရသည်မှာ စိတ်ဆင်းရဲစရာ ဖြစ်သော်လည်း နက်နက်နဲနဲစဉ်းစားကြည့်လိုက်သောအခါ ရတနာတန်းဝင် ကျောက်တစ်လုံးကို ပွတ်တိုက်၍ အရောင်အဆင်းတက်လာအောင် အကျိုးဆောင်ပေးနေသည်နှင့်ပင်တူလှချေတော့သည်။

ဓမ္မဇေ-ပုရောဟိတ်၏ ရှေးဘုန်းရှေးကံ အစွမ်းကို 'ကာဋက-အမည်ရသည့် စစ်သူကြီးက ပွတ်တိုက်ပေးလိုက်သောအခါ သာမန်လူသားများအနေနှင့် အဘယ်သို့မျှ တွေးကြံ၍ မရနိုင်သော ဥယျာဉ်ကြီးကို နေ့ချင်းညချင်း ပြီးစီးခြင်းသည် ဘုန်းရောင်အစွမ်း လျှမ်းလျှမ်းတောက် ပေါ်ပေါက်လာခြင်းပင်ဖြစ်၏။ သာမန်အချိန်တွင် သိကြားမင်းကလည်း ကူညီမည်မဟုတ်။ တွေးကြည့်လျှင် တိုက်ခိုက်သူကိုပင် ကျေးဇူးတင်ထိုက်လှပေသည်။

'ဓမ္မဇေ ဇာတ်တော်'ကို သင်ခန်းစာထုတ်ကြည့်လျှင် ဘုရားအလောင်းက ဘုရားဖြစ်ရန် အကောင်းပါရမီများကို ဖြည့်ကျင့်နေသကဲ့သို့ အရှင်ဒေဝဒတ်အလောင်းကလည်း အစီစိရောက်ရန် အကုသိုလ် အတန်တန်ကို အဖန်ဖန်အထပ်ထပ် ဘဝဆက်တိုင်း မပြတ်ပြုနေကြောင်း တွေ့ရှိရပေသည်။

ဘဝဆက်တိုင်းနှောင့်ယှက်တတ်သည့် အရှင်ဒေဝဒတ်၏ လုပ်ရပ်ကို မြင်တွေ့ရသောအခါ မိမိဘဝ တက်လမ်းထဲက လူအချို့၏ လုပ်ဇာတ်များကိုလည်း 'ဘဝအဆက်ဆက် ငါ့ကို နှောင့်ယှက်ကြလေဦးမည်လား'ဟု သံသယ ပွားနေမိသည်နှင့် အမျှ အပါယ်ကျမည့် အလုပ်တွေကို သတိဖြင့် ရှောင်ကြဉ်၍ မေတ္တာအတန်တန်ပင် ပို့လွှတ်နေရသောကြောင့် တိုက်ခိုက်တတ် သူတို့အား များစွာကျေးဇူးတင်မိပေသည်။ ယခုလည်း ကြည့်ပါလေဦး . . .

ဥယျာဉ်နှင့် ကန်တော်ကြီး ပြီးစီးသွားပြန်ပါသော်လည်း

လူကို သိကြား ဘယ်လိုဖန်ဆင်းမလဲ-ဟူသော အတွေးဖြင့် 'ငြူစူမှု မရှိသောလူသား၊ အရက်သေစာ သောက်စားမှု မရှိသော လူသား၊ သူတစ်ပါးတို့အား ချစ်ခြင်း၊ မုန်းခြင်း မရှိသော လူသား' ဤအင်္ဂါ (၄)ပါးနှင့် ပြည့်စုံသူ တစ်ယောက်ကို ဖန်ဆင်းပေးရမည်-ဟု နောက် တစ်မျိုး အမိန့်ထုတ်ပြန်လေသည်။ သို့သော်လည်း 'ဆတ္တပါဏိ' အမည်ရှိသည့် ဆံသဆရာက ထိုအင်္ဂါလေးပါးနှင့် ညီညွတ်သူဖြစ်၍ အလွယ်တကူပင် ဖန်ဆင်းပေးလိုက်နိုင်လေသည်။

နောက်ဆုံး၌ ပုရောဟိတ်ကို မနာလိုစိတ်ဖြင့် သေကြောင်းကြံနေသည်ကို မင်းကြီးက သိသည့်အပြင် ပရိသတ်ကလည်း သိသွားပြီး စစ်သူကြီး ကာဠက-ကို ခဲဖြင့် ဝိုင်းပစ်ကြလေသည်။ လူထု၏ မေတ္တာခဲကြောင့် ကာဠကလည်း ထိုနေရာ၌ပင် သေပွဲ ဝင်ရရှာလေသည်။ ထို့နောက် . . .

(၁၂) <u>'ဒုကနိပါတ်၊ စူဠနန္ဒိယဇာတ်'</u>တွင်လည်း အရှင်ဒေဝဒတ်အလောင်း၏ဘုရားအလောင်းအပေါ် ရက်စက်ကြမ်းကြုတ်ပုံကို ဤသို့ တွေ့ရ၏။ မျက်မမြင် မျောက်မိခင်အိုကြီးကို ပြုစုလုပ်ကျွေးနေကြသောမျောက်ညီနောင်ရှိလေသည်။ အစ်ကိုက ဘုရားအလောင်း၊ မဟာနန္ဒိယ-ဟု အမည်ရ၏။ ညီက အရှင်အာနန္ဒာ-အလောင်း၊ စူဠနန္ဒိယ-ဟု အမည်ရလေသည်။ တစ်နေ့သောအခါ အရှင်ဒေဝဒတ်အလောင်း မုဆိုးက မျက်မမြင် မိခင်မျောက်မကြီး ကို မြားဖြင့် ပစ်သတ်ရန် ချိန်ရွယ်နေစဉ် မဟာနန္ဒိယက 'မိခင်ကို မပစ်ပါနှင့်၊ ကျွန်ုပ်ကိုသာ ပစ်ပါ'ဟု

ရှေ့က ကာဆီးသောအခါ ဘုရားအလောင်း မဟာနန္ဒိယကို ပစ်ချလိုက်၏။

တစ်ဖန် မိခင်မျောက်မကြီးကို ပစ်မည်အလုပ်တွင် စူဠနန္ဒိယ-က ကာဆီးပြန်သောကြောင့် စူဠနန္ဒိယကိုလည်း ပစ်ချလိုက်၏။ မိခင်မျောက်မကြီးကိုလည်း မညှာမတာ ပစ်သတ်ပြီး မျောက် သေသုံးကောင်ကို ထမ်း၍ အိမ်သို့ပြန်လာခဲ့လေသည်။ အားကြီးသော အကုသိုလ်ကံကလည်း မုဆိုး၏ နေအိမ်ကို မိုးကြိုးပစ်၍ မီးလောင်စေ၏။ မုဆိုးသည် မယားနှင့် သားနှစ်ယောက်ပါ မီးလောင်နေသည်ကို မြင်ရသောအခါ မျောက်ထမ်းကို ပစ်ချပြီး မီးလောင်ပြင်သို့ ပြေးဝင်လိုက်ရာ မီးလောင်နေသော အိမ်တိုင်ကျိုး၍ ခေါင်းပေါ် ကျသဖြင့် ဦးခေါင်းကွဲပြီးမှ မရှုမလှ မြေမျိုခံရလေသည်။

**'ဘာသတိဝါ၊ ကရောတိဝါ၊ တတော နံ ဒုက္ခ မန္ဓေတိ၊ စက္ကံဝ ဝဟတော ပဒံ-** အကုသိုလ်ဖြစ်စေသော အပြောအဆို အပြုအမူ အားလုံးတို့သည် ဝန်ဆောင်နွားလား၏ ခြေရာကို လှည်းဘီးက အစဉ်တစိုက် လိုက်၍ နင်းဘိသကဲ့သို့ လူမိုက်၏ အပြောအဆို အပြုအမူ ကံစွမ်းတို့အလျောက် အကျိုးပေးကလည်း နောက်က အစဉ်တစိုက် လိုက်မည်သာ ဖြစ်၏' ရှောင်ပြေး၍ မရနိုင်ပေ။(ဓမ္မပဒ)

(၁၃) 'ဒုကနိပါတ်၊ ကုမ္မိလ'ဇာတ်တွင်လည်း အရှင်ဒေဝဒတ်၏ အတိတ်ပုံရိပ်တစ်ခုကို ဤသို့ တွေ့ရ၏။ 'သုသုမာရဇာတ်တော်'နှင့်အလားတူ မိကျောင်းမအတွက် အသည်းနှလုံး

ကို ယူပေးလိုသဖြင့် ဘုရားအလောင်း မျောက်မင်းကို လိမ်၍ ခေါ်ဆောင်ပြီး ရေထဲငုပ်မည့်အချိန်တွင် ဘုရားအလောင်း၏ ပညာဉာဏ်စွမ်းကြောင့် သဖန်းပင်ရှိရာသို့ ပြန်လည်ပို့ဆောင်စေခဲ့သဖြင့် အသက်ဘေးက သီသီကလေး လွတ်ခဲ့ရလေသည်။

(၁၄) 'တိကနိပါတ်၊ ရောမကဇာတ်'၌လည်း အရှင်ဒေဝဒတ်၏ အတိတ်ပုံရိပ်ကို တစ်စိတ်တစ်ဒေသ အနေဖြင့် ဤသို့ တွေ့ရပြန်၏။ ထိုဇာတ်တော်တွင် ဘုရားအလောင်းက 'ခို' ဘဝကို ရောက်နေ၏။ အခြံအရံ ခိုပရိသတ်နှင့်အတူ ဂူတစ်ခု၌ နေထိုင်ကြပြီး အနီးအနား၌လည်း သီလရှိသော ရသေ့တစ်ပါးက သီတင်းသုံးလျက်ရှိသောကြောင့် ဘုရားအလောင်းနှင့်တကွ ခိုပရိသတ်အားလုံး တရားစကား ဆွေးနွေး နာကြားခွင့်ရကြလေသည်။

ဆရာ ရသေ့ အခြားတစ်နေရာသို့ ကြွသွားသောအခါ ကောက်ကျစ်စဉ်းလဲသည့် ရသေ့တစ်ပါး ရောက်လာခဲ့၏။ ဘုရားအလောင်းနှင့် ခိုပရိသတ်တို့ကလည်း ဆည်းကပ်မြဲ ဆည်းကပ်လာခဲ့ကြသည်မှာ နှစ်ငါးဆယ်ပင် ကြာမြင့်ခဲ့ပါလေပြီ။

တစ်နေ့သောအခါ ရသေ့သည် လူတို့ လှူသည့် ခိုသားဟင်းကို စားခဲ့ရသဖြင့် ခိုမြင်တိုင်း သတ်စားချင်စိတ်များ ဖြစ်ပေါ်လာလေသည်။ ထို့ကြောင့် ရသေ့ ဝတ်စုံကြား၌ တင်းပုတ်တစ်ခု ဝှက်ထားပြီး ချဉ်းကပ်လာသည့် ခိုကို ထုသတ်ရန် ကြံရွယ်မပျက် ဟန်ဆောင်လျက် ထိုင်နေလေသည်။

ဘုရားအလောင်း ခိုမင်းက ရိပ်မိသည့်အပြင် စားထားသည့် ခိုသားအနံ့ကိုလည်း ရသဖြင့် ရသေ့ထံ မချဉ်းကပ်ဘဲ ပြန်လှည့်သွားသောအခါ ကောက်ကျစ်စဉ်းလဲသော ရသေ့က တင်းပုတ်ဖြင့် ပစ်သော်လည်း မမှန်ဘဲ လွတ်မြောက်သွားလေသည်။ ထိုရသေ့သည် အရှင်ဒေဝဒတ်အလောင်းပင် ဖြစ်၏။

(၁၅) စတုတ္ထနိပါတ်၊ ခန္တိဝါဒီဇာတ်'၌လည်း အရှင်ဒေဝဒတ်၏ ရက်စက် ယုတ်မာသော ဟန်ပန် အမူအရာတို့ကို ဤသို့ တွေ့ရ၏။ အရှင်ဒေဝဒတ်အလောင်းက ဗာရာဏသီပြည်ကို အုပ်ချုပ်၍ 'ကလာဗု'ဟူသော အမည်ဖြင့် မင်းလုပ်နေသောအချိန်တွင်'ဘုရား အလောင်း ကုဏ္ဍလ' လုလင်က သူတော်စင် ရသေ့ဘဝဖြင့် နေထိုင်လေရာ သည်းခံသည့်တရားကိုသာ လက် ကိုင်ပြု ကျင့်သုံးခြင်းကြောင့် 'ခန္တိဝါဒီရသေ့'ဟု အမည်ရလေသည်။ တစ်နေ့သောအခါ-

ခန္တိဝါဒီရသေ့သည် စစ်သူကြီးက ဖိတ်ထားသဖြင့် မင်းဉယျာဉ်၌ ခေတ္တခဏ သီတင်းသုံး နေထိုင်လေရာ ကလဗုမင်းကလည်း မောင်းမ မိဿံ အခြွေအရံတို့နှင့်အတူ ဉယျာဉ်တော်သို့ အပန်းဖြေခရီး ထွက်လာခဲ့ပြီး အနားယူရင်းက အိပ်ပျော်သွားသောအခါ မောင်းမမိဿံများက ရသေ့ထံသို့ သွား၍ တရားနာယူကြလေသည်။

ကလာဗုဘုရင်နိုးလာသောအခါအနီးအနားမှာ မောင်းမမိဿံများ ခစားလျက် မရှိသည်ကို တွေ့ရသဖြင့် ဟိုဟိုဒီဒီကို ကြည့်လိုက်လေရာ ရသေ့တစ်ပါးထံ တရားနာ နေကြဟန်တို

တွေ့ရသောကြောင့် မကြည်မသာဖြင့် ထ-လာခဲ့ပြီး 'ရသေ့၊ သင် အဘယ်အယူဝါဒရှိသလဲ'ဟု မထီမဲ့မြင် မေးလေသည်။

'ကျွန်ုပ် ခန္တီဝါဒ ရှိပါသည် မင်းတရားကြီး'ဟု ဖြေဆိုလိုက်သောအခါ ဟုတ်၊ မဟုတ် စမ်းသပ်လိုသည့် သဘောဖြင့် ရှေ့နောက် နံပါးနှစ်ဘက်တို့အား တစ်ဘက်လျှင် ကြိမ်ဒဏ်အချက် ငါးရာစီ (ဆူးတပ်ဆင်ထားသော ကြိမ်တုတ်ဖြင့်) ရိုက်နှက်ခိုင်းလေသည်။

ယင်းသို့ ရိုက်နှက်ပြီး 'အဘယ်ဝါဒရှိသလဲ'ဟု ထပ်ဆင့်မေးမြန်းပြန်၏။ ရသေ့ကလည်း 'ခန္တီဝါဒရှိသည်'ဟူသော စကားမှတစ်ပါး အခြားစကားကို မဖြေပါ။ ထိုအခါ ကလာဗုဘုရင်က လက်ခြေအင်္ဂါ နား နှာခေါင်းတို့ကို ဖြတ်တောက်၍ 'အဘယ်ဝါဒရှိသလဲ' ဟု အရွဲ့တိုက်မေးမြန်းလေသည်။

ရသေ့ကလည်း 'ခန္တီဝါဒ-ဆိုတာ ခြေလက်အင်္ဂါ နားနှာခေါင်းတွေထဲမှာ မရှိဘူး၊ နှလုံးသားထဲမှာပဲ ရှိတယ်'ဟု ပြောလိုက်သောအခါ ကလာဗုဘုရင်က ရသေ့၏ ဆံကျစ်ကို ဆွဲ၍ ပက်လက်လဲသောအခါ ဖနောင့်ဖြင့်ပေါက်၊ ခြေဖြင့် ကန်ကျောက်ပြီး နန်းတော်သို့ ပြန်သွားလေသည်။ သို့သော် နန်းတော်သို့ မရောက်။ အလောင်းတော်ရသေ့၏ မျက်စိတစ်ဆုံးလောက်မှာပင် မြေမျို၍ အရှင်လတ်လတ် အဝီစိငရဲသို့ ရောက်သွားလေသည်။

စစ်သူကြီးက အလောင်းတော်ရသေ့၏ ခြေလက်အင်္ဂါတို့ကို အဝတ်ဖြင့် စည်းနှောင်ပြီး ငိုယိုတောင်းပန်လေရာ

အလောင်းတော်ရသေ့က 'သည်းခံခွင့်လွှတ်ကြောင်း ဘုရင်ကြီးလည်း သက်တော်ရာကျော် ရှည်ပါစေကြောင်း' ဆုမွန်ကောင်းတောင်းပြီး အသက်ကုန်ခြင်းသို့ ရောက်သွားသဖြင့် စစ်သူကြီးအမှူးပြုသော လူအားလုံးတို့က နှမြောတသစွာ သဂြိုဟ်ပေးလိုက်ကြလေသည်။

(၁၆) '**စတုတ္ထနိပါတ်၊ ဝါနရဇာတ်**'က မိကျောင်းနှင့်မျောက်၊ အသည်းနှလုံး လိုချင်သဖြင့် ဖြားယောင်း(ဖြစ်စဉ်တူ၍ 'သုသုမာရဇာတ်'ကို ပြန်လည် ကြည့်ရှုနိုင်ကြပါသည်)

(၁၇) '**ပဉ္စကနိပါတ်၊ စူဠဓမ္မပါလဇာတ်**'တွင် အရှင်ဒေဝဒတ်အလောင်းက 'မဟာပတာပအမည်ရသော ဘုရင်ဖြစ်လေသည်။ ဘုရားအလောင်းက 'ဓမ္မပါလ'အမည်ရ၍ ၎င်းမဟာပတာပဘုရင်၏ သားတော်ဖြစ်၏။ တစ်နေ့တွင် ဘုရားအလောင်းမယ်တော် စန္ဒာဒေဝီမိဖုရားကြီးက ခုနစ်နှစ်သားအရွယ်သာရှိသေးသည့် သားတော်လေး ဓမ္မပါလကို ကျီစယ်လျက်ရှိစဉ် ဘုရင်မဟာပတာပအဆောင်တော်သို့ ကြွလာခဲ့၏။

မိဖုရားကြီးကလည်း သားတော်ကို ချစ်လှသဖြင့် မဟာပတာပကို အရိုအသေပေးခြင်း၊ ခရီးဦး ကြိုဆိုခြင်းများ မပြုလုပ်မိချေ။ မဟာပတာပ ဒေါသူပုန်ထပါလေပြီ။

"ဒီသားငယ်၊ ဒီအရွယ်မှာတောင် ငါ့ကို မရိုမသေမလေးမစား လုပ်သေးရင် ဒီသားအမိဟာ သားကြီးတာနဲ့ ငါ့ကိုပုန်ကန်မှာပဲ"ဟု လွဲမှားသောအတွေးဖြင့် လူသတ်ယောက်ျားတို့အား မိဖုရားလက်ထဲက သားတော်လေးကို သွားရောက်

အယူခိုင်းပြီး ပျဉ်ချပ်တစ်ချပ်ပေါ်တင်၍ လက်ခြေတို့ကို ဖြတ်ခိုင်းလေသည်။

မိဖုရားကြီး ငိုယိုတောင်းပန်နေသည့် ကြားမှာပင် သားငယ်၏ ကျန်ခန္ဓာကိုယ်ကို မိုးပေါ်သို့ မြှောက်၍ အောက်က သန်လျက်ခံပြီး ဓါးပန်းပင် ကစားပြလိုက်ပါသေးသည်။ မိဖုရားကြီးလည်း သားငယ်၏ လက်ခြေ အပြတ်များနှင့် အသားတုံး အသားစများကို လိုက်ကောက်ရင်း နေရာ၌ပင် ရင်ကွဲ၍နတ်ရွာစံရှာလေသည်။

မဟာပတာပမင်းလည်း ပလ္လင်ပေါ်မှ ထိုးကျပြီး အရှင်လတ်လတ် မြေမျို၍ အဝီစိငရဲသို့ ရောက်သွားလေသည်။

(၁၈) ‘ဆတ္တနိပါတ်၊ သုဝဏ္ဏကက္ကဋဇာတ်’မှာလည်း ဘုရားအလောင်းသည် ရာဇဂြိုဟ်အနီးက ‘သာလိန္ဒိယ’ပုဏ္ဏားရွာတွင် လယ်သမားဖြစ်နေ၏။ လယ်သမားသည် လယ်ထွန်သွားရင်း ထုံးအိုင်တစ်ခုမှာ မျက်နှာသစ်သောအခါ ရွှေပုစွန်လုံး တစ်ကောင် တက်လာသဖြင့် ညင်သာစွာ ကောက်ယူပြီး အဝတ်တွင်း၌ထား၍ လယ်ထွန်ရာသို့ ယူဆောင်လာခဲ့လေသည်။ အိမ်ပြန်သောအခါ ၎င်းထုံးအိုင်၌ပင် ပြန်လွှတ်ထားခဲ့၏။ ဤနည်းအတိုင်း အကြိမ်ကြိမ် ပြုဖန်များလာရာ ပုဏ္ဏားနှင့် ပုစွန်လုံးတို့ အလွန် ချစ်ခင်ရင်းနှီးသွားကြလေသည်။

**ရေနှင့်မီး**

ချစ်ခြင်းမေတ္တာသည် အံ့ဩစရာ ကောင်းလှ၏။ လေး

ဖက်သွား ကလေးငယ်ကိုခွေးဆိုးမကိုက်ပါ။ ဘာကြောင့် မကိုက် သနည်း။ ကလေးသည် ခွေးကြီးကို မြင်သည်နှင့် ချစ်စရာ၊ ကစားစရာ ဟူ၍သတ်မှတ်ပြီး ခွေးကြီးထံသို့ လေးဖက် ခြေ လှမ်းဖြင့် လာသောအခါ ခွေးကြီးက ငြိမ်သက်စွာ အိပ်နေသည် ကို မျက်မြင်တွေ့ရဖူး၏။

အလွန်ဆိုးသော ခွေးကြီးအပေါ်၌ ကလေး၏ ချစ်ခြင်း မေတ္တာရေ အအေးဓါတ် လွှမ်းမိုးမှုသည် ကိုက်ခဲတတ်သော ခွေး၏ ဒေါသမီး အပူငွေ့ကို ငြိမ်းသတ်ထားလိုက်နိုင်သည်မှာ ထင်ရှားလှပေသည်။ တစ်ဖန် . . .

လူကြီးဖြစ်သူသည် ကိုက်တတ်သော ခွေးကို အလွန် ကြောက်၏။ ကြောက်ခြင်းသည် ဒေါသမဟုတ်ပါလား။ လူကြီး သည် ခွေးကို မြင်သည်နှင့် ကြောက်၏။ ဒေါသအခိုးအငွေ့များ ထောင်းထောင်းထလာ၏။ ထိုအခါ ကိုက်တတ်သော ခွေး၏ ဒေါသ အပူအငွေ့နှင့်ပေါင်းလိုက်ရာတွင် ဓါတ်ဆီငွေ့နှင့်မီးညွှန့် တို့ တွေ့ထိလိုက်ဘိသကဲ့သို့ ဟုန်းခနဲ တောက်လောင် (ကိုက် ခဲ)လေတော့သည်။

(မေတ္တာဓါတ် အားကြီးတော်မူသော တောရမထေရ် တို့အား ကျားသတ္တဝါ၊ မြွေဆိုးသတ္တဝါများ ရန်မမူကြခြင်းကို လည်း မီးကို ရေဖြင့် ငြိမ်းသတ်ထားသကဲ့သို့ နားလည် ကြ ရာ၏)

လူသားချင်း ပေါင်းသင်း ဆက်ဆံကြရာ၌လည်း မိမိက ကြောက်၍ ဖြစ်စေ၊ မုန်း၍ဖြစ်စေ၊ အပူငွေ့တွေ လွှတ်ထားလျှင်

ဟိုတစ်ဘက်လူ၏ အပူမီးဓါတ်(ဒေါသ)နှင့်ပေါင်းစပ်မိပါက ချစ်ခင်လာစရာအကြောင်း မရှိတော့ပါ။ ထို့ကြောင့် ဘုရားရှင်က-

အက္ကောစိ မံ အဝဓိ မံ၊ အဇိနိ မံ အဟာသိ မေ၊

ယေ စ တံ ဥပနယှန္တိ၊ ဝေရံ တေသံ နသမ္မတိ။

'ဒီလူဟာ ငါ့ကို ဆဲဖူးတယ်၊ ငါ့ကို နှိပ်စက်ဖူးတယ်၊ ငါ့ကို အနိုင်ယူဖူးတယ်၊ ငါ့ဥစ္စာကို မတရား ယူဖူးတယ်။ အဲသလို အငြိုးအတေးထားပြီး ရန်မူနေရင် အဲဒီရန်ဟာ ဘယ်တော့မှ မငြိမ်းအေးဘူး' ဟူ၍ ဟောကြားတော်မူခဲ့လေသည်။

ဤ၌လည်း လယ်သမားနှင့် ပုစွန်လုံးတို့၏ ချစ်ခြင်းမေတ္တာကို သံသယ မဝင်သင့်ပါ။ လူသားက တိရစ္ဆာန်အပေါ် မေတ္တာထားလျှင် တိရစ္ဆာန်ကလည်း မေတ္တာထားမည်သာ ဖြစ်၏။ လူသားချင်းဆိုလျှင် အဘယ်ဆိုဖွယ်ရာ ရှိပါတော့မည်နည်း။

ဤဇာတ်တော်တွင် အရှင်ဒေဝဒတ်အလောင်းက 'ကျီးဖို' တစ်ကောင်ဖြစ်နေ၏။ ကျီးမက လယ်သမား၏ မျက်လုံးကို ထိုးဆိတ်၍ စားချင်သဖြင့် ကျီးဖိုထံ ပူဆာလာသောအခါ ကျီးဖိုက မြွေဟောက်နှင့် ပေါင်းပြီး လယ်သမားကို ကိုက်သတ်စေသည်။ လယ်သမား လဲသွားသောအခါ၌ ကျီးဖိုက မျက်လုံးကို ထိုးဆိတ်ရန် ပြင်ဆင်နေချိန်တွင် ပုစွန်လုံးက အဝတ်တွင်းမှ ထွက်လာပြီး ကျီး၏လည်ပင်းကို လက်မဖြင့် ညှပ်ထားလိုက်၏။

ကျီးဖိုက မြွေဟောက်ကို အကူအညီ တောင်းသောကြောင့် မြွေဟောက် ရောက်လာသောအခါ ပုစွန်လုံးက ကျန်

လက်မဖြင့် မြွေဟောက်ကိုပါ ညှပ်ထားပြီး အဆိပ်ထုတ်ခိုင်းလေသည်။ မြွေဆိပ် ပြေသွားသောအခါ ကျီးနှင့် မြွေကို လည်ပင်း ပြတ်အောင် ညှပ်သတ်လိုက်၏။ အဆိပ်ပြေ၍ ပကတိ ကျန်းမာနေသော လယ်သမားကလည်း ပုစွန်လုံးကို ကောက်ယူပြီး ထုံးအိုင်မှာပင် လွှတ်ထားခဲ့လေသည်။

## လူနှင့် တိရစ္ဆာန်

လူအချို့က တိရစ္ဆာန်များ ဇာတ်ကောင်အဖြစ် ပါဝင်လျှင် ထိုဝတ္ထုကို ပုံပြင်-ဟူ၍ပင် မှတ်ထင်တတ်ကြ၏။ တိရစ္ဆာန် ဇာတ်ကောင်ပါသော သာဓက တစ်ခု တင်ပြရလျှင် 'မြစ်ကြီးနားမြို့က ရပ်ကွက်တစ်ခုတွင် နေထိုင်သော 'ကိုချစ်ရွှင်'ဆိုသူသည် မြွေပွေးများကို ဖမ်းပြီး တရုတ်ပြည်သို့ ရောင်းစားနေသည့် မြွေကုန်သည်တစ်ဦး ဖြစ်လေသည်။ အခြားလုပ်ငန်းများကို လုပ်ကိုင်စဉ်က ဝင်ငွေမဖြောင့်သော်လည်း သည်မြွေလုပ်ငန်းဖြင့် စီးပွားဖြစ်လာသောအခါ အသောက်အစားလေးက ဖက်လာ၏။

တစ်နေ့ . . ကိုချစ်ရွှင် မူးလာပြီး အိမ်ရှေ့ခန်းတွင် သားသုံးယောက်နှင့်အတူ ဖက်၍ အိပ်လိုက်ကြသည်။ နံနက်မိုးလင်း၍ သားများက 'အဖေ. . ထ၊ အဖေ. . ထ'ဟု နှိုးသောအခါ ဘယ်အချိန်ကဘယ်လိုရောက်နေမှန်းမသိသော လက်ကောက်ဝတ်ခန့်ရှိ မြွေပွေးတစ်ကောင်က ကိုချစ်ရွှင်၏ လည်ပင်းကို မြွေခေါင်း တစ်ဝက်ဝင်လုမတတ် ကိုက်ခဲထားသဖြင့် ကိုချစ်ရွှင်

တစ်ယောက် အိပ်ရာထဲ၌ပင် သေပွဲဝင်နေပါလေပြီ။

သာမန်အားဖြင့် ကြည့်လျှင် မဖြစ်နိုင်စရာ-ဟု ထင်ရ၏။ သို့သော် အိပ်ရာထဲ ရောက်သည်အထိ လိုက်လာခဲ့ပြီး ကိုက်ခဲသော မြွေပွေး၏ရန်ငြိုးသည် တရှုတ်ပြည်တွင် ရောင်းထားခဲ့သော သားဇောကြောင့်ပေလော။ သို့မဟုတ် ဇနီး လင်ဇောကြောင့်ပေလော မပြောနိုင်။

တစ်ခုခုသော အငြိုးကြောင့် အသေကိုက်သတ်လိုက်သည်မှာ သေချာလှပါ၏။ အံ့ဩစရာလည်း ကောင်းပါ၏။ ထို့ထက် အံ့ဩစရာကောင်းသည်က သားသုံးယောက်နှင့် ဖက်၍ အိပ်စက်သည်ဖြစ်ရာ တစ်ယောက်ယောက်ကို မှားပြီး ကိုက်လိုက်စရာ ကောင်းပါသည်။ သို့သော် မကိုက်ပါ။

မြွေကုန်သည်ကြီး ကိုချစ်ရွှင်၏ လည်ပင်းကိုသာ စိတ်ရှိလက်ရှိ ကိုက်ခဲထားသဖြင့် ဖြုတ်မရတော့သောကြောင့် မြွေခေါင်းကိုပါ ဖြတ်ပြီး ပူးတွဲသဂြိုဟ်လိုက်ရလေသည်။(သံဃာတော်များ မြွေသားမစားရကြောင်း ဗုဒ္ဓ၏ ပညတ်ချက်ကို သတိမူကြပါ)

(၁၉) 'သတ္တကနိပါတ် မဟာကပိဇာတ်'တွင် ဘုရားအလောင်းတော်က ဆင်ပြောင်ငါးစီး တစ်မျှ အားမာန်ကြီးလှသော မျောက်မင်း ဖြစ်နေ၏။ မျောက်အခြွေအရံ တစ်သောင်းခြောက်ထောင်နှင့်အတူ ဂင်္ဂါမြစ်ကမ်းနှင့် နီးသော တောအုပ်တစ်ခုတွင် နေထိုင်ကြလေသည်။ ဂင်္ဂါမြစ်ကမ်း၌ ချိုမြိန်သော သရက်ပင် တစ်ပင်ရှိလေရာ ထိုသရက်ပင်သို့ ဘုရားအလောင်း

နှင့်တကွ မျောက်အပေါင်း လာရောက် စားသောက်လေ့ရှိ၏။ ဘုရားအလောင်းက အန္တရာယ်ကို မြင်သဖြင့် ဂင်္ဂါမြစ်ဘက်သို့ ကိုင်းညွတ်နေသော သရက်သီးများကို ဖျက်ဆီးခိုင်းသော်လည်း မျောက်များ မမြင်သည့် တစ်နေရာတွင် သရက်သီး တစ်လုံး ကျန်နေလေသည်။

ထိုသရက်သီးမှည့်သောအခါ ရေသို့ကျ၍ မျောပါသွားသဖြင့် ရေကစားနေသော ဗာရာဏသီမင်းက ဆယ်ယူ စားသုံးမိလေရာ အလွန်အရသာ ရှိသည်ကို သိသွားခြင်းကြောင့် သရက်ပင်ရှိရာသို့ လိုက်လာပြီး မင်းခယောကျ်ားများနှင့်အတူ စားသုံးကြလေသည်။

ညအချိန်သို့ ရောက်သောအခါ မျောက်မင်းနှင့်တကွသော မျောက်အပေါင်းကလည်း ထိုသရက်ပင်ကြီးဆီသို့ လာရောက်ပြီး သရက်သီး စားကြလေရာ ဗာရာဏသီမင်းက လေးသမားတို့အား ပစ်သတ်ရန် အမိန့်ပေးလေသည်။

မျောက်များလည်း ပြေးလမ်းပိတ်၍ အကျပ်ရိုက်နေသော အချိန်တွင် ဘုရားအလောင်း မျောက်မင်းက မြစ်တစ်ဘက်ကမ်းသို့ ခုန်ကူးပြီး နွယ်ကြိုးများကို အမြန် ဖြတ်တောက်ကာ တစ်စက မိမိ- ခါးကိုချည်၊ ကျန်တစ်စက သစ်ပင်ကို မြဲမြံစွာ ချည်နှောင်ပြီး သည်ဘက်ကမ်းသို့ ခုန်ကူးလိုက်သောအခါ နွယ်ကြိုးက တစ်လံစာလောက် လိုနေသဖြင့် မိမိခန္ဓာကိုယ်ကို နွယ်ကြိုးပမာထားပြီး သူ့ကျောပြင်ပေါ်ကနေ နင်းတက် ပြေးသွားကြရန်အမိန့်ပေးခွင့်ပြုသောအခါ မျောက်အပေါင်း အသက်ဘေး

က လွတ်သွားကြလေသည်။

မျောက်တို့ထဲတွင် အရှင်ဒေဝဒတ်အလောင်း မျောက်တစ်ကောင်လည်း ပါ၏။ ထိုမျောက်သည် ဘုရားအလောင်း၏ ကျောပြင်ပေါ်သို့ ညင်သာစွာ နင်းတက်၍ မြစ်တစ်ဘက်ကမ်းသို့ ကူးလျှင်ရသော်ငြားလည်း သရက်ပင်ကြီး၏ မြင့်သောအကိုင်းပေါ်သို့ ရောက်အောင်တက်ပြီး ခုန်ချလိုက်သဖြင့် ဘုရားအလောင်း မျောက်မင်း ခါးကျိုးကာ မခုန်နိုင် မဆင်းနိုင်ရှာတော့ဘဲ ကျန်ရစ်ခဲ့လေသည်။ မင်းကြီးကလည်း ဘုရားအလောင်း ၏ လှုပ်ရှားမှုအားလုံးကို တွေ့မြင်ရသဖြင့် ကြည်ညိုလေးစားကာ ကြိုးဖြုတ်ကယ်ဆယ်ပါသော်လည်း ဝေဒနာကပြင်းထန်လွန်းလှသဖြင့် တရားအနည်းငယ် ဟောပြောပြီး သေဆုံးသွားလေသည်။

မင်းကြီးကလည်း ဘုရားအလောင်း မျောက်မင်းကိုကောင်း မွန်စွာ မီးသဂြိုဟ်ပြီး ဦးခေါင်းခွံကို ရွှေလှံ့ဖျား၌ တင်ကာနန်းတော်သို့ ယူဆောင် ပူဇော်ထားလေသည်။ တိုင်းပြည်ကိုလည်း ဘုရားအလောင်း၏ အဆုံးအမအတိုင်း အုပ်ချုပ်၍ သက်တမ်းကုန်သည်နှင့် နတ်ပြည်သို့ ရောက်သွားရ၏။ 'အမရပူရမြို့၊ ကျမ်းပြုအကျော် မဟာဂန္ဓာရုံ ဆရာတော်ကြီး'က. .

"ဘုန်းကြီး မြတ်စွာဘုရားကို ကြည်ညိုတာဟာ ဘုရားဖြစ်ပြီးလို့ ဂုဏ်တော်တွေနဲ့ ပြည့်စုံတော်မူလာမှ ကြည်ညိုတာမဟုတ်ပါဘူး။ အလောင်းတော်ဘဝတွေမှာ အောက်ထစ်ဆုံးတိရစ္ဆာန်ဖြစ်နေတဲ့ ကာလမှာတောင် အများအကျိုးကို အသက်

စွန့်ပြီး သယ်ဆောင် ကူညီစောင့်ရှောက်ခဲ့တဲ့ ပရဟိတ စိတ်နေ စိတ်ထားတော်ကြီးကိုပါ မှန်းဆပြီးကြည်ညိုတာပါ။ ဘုရား မဖြစ်ခင် အလောင်းတော်တွေ ဘဝကတည်းကိုက ကြည်ညိုတာပါ" ဟူ၍ အမိန့်ရှိတော်မူဖူးပါသည်။

ယနေ့ခေတ်ကာလ၌လည်း ဘုရားအလောင်းတော်ကဲ့သို့သော အလောင်းအလျာ တစ်ဦးဦးများ ဖြစ်လေရောသလား-ဟုပင် မှတ်ထင်ရလောက်အောင် သခင့်အပေါ် သစ္စာစောင့်သိကြသည့် အိမ်မွေး တိရစ္ဆာန်များ အကြောင်းကို မဂ္ဂဇင်း၊ ဂျာနယ်တို့နှင့်သိမီသူတို့ထံမှတစ်ဆင့် ဖတ်မှတ်သိရှိရပါသည်။ 'စစ်ကိုင်းတိုင်း၊ ကန့်ဘလူမြို့နယ်၊ ထန်းကုန်းမြို့' အရှေ့ပိုင်းတွင် စက်ပိုင်တစ်ဦး နေထိုင်လေသည်။ စက်ပိုင်သည် တစ်နေကုန် ဆန်၊ စပါးများ ကြိတ်သော်လည်း မပြီးပြတ်သေးသော စပါးများကို နက်ဖြန်မှ ဆက်လက်ကြိတ်ပေးမည်ဖြစ်၍ စပါးကြိတ်လာသူများအား စားစရာနှင့် အိပ်စရာများကိုပါ စီစဉ်ပေးလေသည်။

ဧည့်သည်များ ထမင်းစားနေသောအခါ စက်ပိုင်က "ညီတော်၊ နောင်တော်များခင်ဗျား၊ကျွန်တော့်အိမ်မှာ ခွေးကြီးသုံးကောင် မွေးထားပါတယ်။ နေ့တော့ သူတို့အတွက် သက်သက်လုပ်ထားတဲ့ လှောင်အိမ်ထဲမှာနေကြပါတယ်။ ညရောက်ရင်တော့ ဒီစက်ရဲ့ ခြံကျယ်ကြီးထဲကို လွှတ်ထားပါတယ်။ သူတို့အစွမ်းကတော့ခြံစောင့်လူငှားထားရင်တောင် သူတို့သုံးကောင်လောက် စိတ်ချရလိမ့်မည် မထင်ပါဘူး။

"လူစကားကို ပြန်မပြောတတ်ကြပေမယ့် သခင်များ

နှာ ပျက်နေတာကိုတောင် အကဲခတ်နိုင်ကြပါတယ်။ ဒီတော့ ကျွန်တော်က 'ဟော့ကောင်တွေ၊ ငါတော့ ပင်ပန်းနေပြီကွာ၊ အိပ်တော့မယ်။ ည-တာဝန် မင်းတို့အလှည့်ပဲ၊ ငါကလွဲရင် ဘယ်သူ့ကိုမှ ချမ်းသာပေးစရာ မလိုဘူး'လို့ ပြောပြီးလွှတ်ထား လိုက်ရင် တစ်စိမ်းလူ မပြောနဲ့ ကျွန်တော့် အလုပ်သမားတောင် ချမ်းသာမပေးဘူး။ ဒါကြောင့် ညကို အခင်းကြီး အခင်းငယ် ကိစ္စလေးများကအစ အပြင်ကိုမထွက်ကြပါနဲ့။ အခုကတည်းက ကိစ္စပြီးအောင် သွားလာထားကြပါ။ သူတို့ကို လွှတ်တော့မယ် ဆိုရင် စက်ရုံက ဟွန်းရှည်တီးပေးပါတယ်။ ခွေးသုံးကောင်အ ကြောင်းကတော့ ရပ်ကွက်လူကြီးများနဲ့ ရဲစခန်းမှူးကအစ အားလုံး သိထားကြပါတယ်။ ထူးခြားတာ တစ်ခုက လုံးဝ မဟောင်ဘဲ သုံးကောင်ပေါင်းပြီး ကိုက်ဆွဲတာပါပဲခင်ဗျ" ဟု ပြောပြထားလေသည်။

တစ်ညတွင် အကြံသမား သုံးဦးက ခွေးများကို အဆိပ် ကျွေးပြီး စက်ပိုင်သူဌေးကို အနုကြမ်းစီးရန် စီစဉ်ကြသည်။ 'အမဲ သား အဆိပ်သုတ်ပြီး ပစ်ကျွေးလိုက်ရုံပဲ'ဟု ကြံစည်ထားကြ သော်လည်း တစ်ကောင်မှ မစား။ ဟောင်သံလည်း မကြားရဘဲ ဘယ်ချောင်က ထွက်လာလိုက်ကြမှန်း မသိရသည့်အပြင် လျင် မြန် ပါးနပ်ကြသော ခွေးများက ဓါးမြောင်ကိုင် အကြံသမားသုံး ဦး၏လက်ကောက်ဝတ်တို့ကို ပြတ်ထွက်လုမတတ် ကိုက်ခဲထား ကြခြင်းကြောင့် 'ကယ်တော်မူကြပါ'ဟုပင် အော်ယူရလေသည်။

စက်ပိုင်သည် အသံကြားရာဆီသို့ ဓါတ်မီးထိုးပြီး ကြည့်

လိုက်သောအခါ လူသုံးယောက်နှင့် ခွေးသုံးကောင်ကို တွေ့ရသဖြင့် ဘာအမိန့်မှ မပေးသေးဘဲ အနားသို့ ချဉ်းကပ်သွားပြီး "ကဲ ကိုယ့်လူတို့ ဘာကိစ္စ ကျူပ်အိပ်ခန်းဘက်ကို လာကြတာလဲ။ မှန်တာပြောပါ။ လိမ်ရင်တော့ ကိုယ့်လူတို့ ခွေးကိုက်သတ်လို့ သေလိမ့်မယ်။ ကျူပ်ခွေးတွေရဲ့ အကြောင်း သိချင်သေးရင် အောက်ကျနေတဲ့ခါးကို ကောက်ပြီး ခွေးတွေကို ထိုးကြည့်ကြလေဗျာ"

"အား. . . စက်ပိုင်ကြီးရယ်. . ကျွန်တော်တို့ကို ခွင့်လွှတ်ပါဗျာ။ ကျွန်တော်တို့ဟာ ခွေးလောက်မှ ကျေးဇူးတရားမသိတတ်ကြတဲ့လူတွေဖြစ်နေပါပြီ။ ခွေးတွေကို မောင်းပေးပါတော့ဗျာ။ နာလည်း နာလှပါပြီ"

"ကဲ. . ညိုကြီးတို့၊ ဟောကောင်တွေ လွှတ်ပေးလိုက်ကြ။ ပြီးတော့ စောင့်နေ" ခွေးများက ကိုက်ခဲထားသည့် လက်တို့ကို လွှတ်ပေးလိုက်ကြသည်။ သို့သော် အရောင်တောက်နေသည့် မျက်လုံးများဖြင့် အကြံသမားသုံးဦးကို လှုပ်လျှင် ကိုက်လိုက်မည်-ဟူသော သတိအနေအထားနှင့် စိုက်ကြည့်နေကြသည်။ အကြံသမားသုံးဦးက ထိုင်ကန်တော့ကြသောအခါ စက်ပိုင်က -

"ကဲ. ကိုယ့်လူတို့၊ လာလမ်းအတိုင်းပြန်ကြ။ ပြန်တဲ့အခါ လက်ကိုမြှောက်ပြီး ပြန်။ သူတို့ သုံးကောင်နောက်က လိုက်ပို့လိမ့်မယ်။ မကျေနပ်လို့ ခွေးတွေကို တိုက်ခိုက်ချင်သေးတယ်ဆိုရင် ကိုယ့်လူတို့သဘောပဲ။ ကဲ. ညိုကြီးတို့၊ သူတို့ကို

ခြံပေါက်ရောက်အောင် လိုက်ပို့လိုက်"ဟု ပြောသည်။

ခွေးများကအကြံသမားတို့၏နောက်မှ တစ်ကောင်၊ ဘေးဘယ်ညာမှာ တစ်ကောင်စီဝန်းရံ၍ ခြံပေါက်ဝ ရောက်အောင် လိုက်ပို့ကြလေသည်။ အကြံသမားသုံးဦးလည်း ခွေးများကို တိုက်ခိုက်ဖို့ နေနေသာသာ ကြည့်ပင်မကြည့်ဝံ့ကြဘဲ ကိုက်ခဲခံထားရသည့် ဒဏ်ရာများက သွေးစက်လက်ဖြင့် ခြံဝင်းထဲမှ ထွက်ခဲ့ကြပြီး လှည့်ကြည့်လိုက်သောအခါ ခွေးတစ်ကောင်မှ မတွေ့ရတော့ချေ။

ပြန်ဝင်လာလျှင် တိုက်ခိုက်ရန်နှင့် အပြင်ရောက်သူတို့ ပြန်လည်ရန်မူပါက မထိခိုက်အောင် တိမ်းရှောင်ပုန်း အောင်းတတ်ကြကြောင်း (ထန်းကုန်းမြို့က ဦးခင်ဘ၏ ပြောပြချက် အရ) မှတ်တမ်း ပြုခဲ့ရပေသည်။

သခင်ကွယ်လွန်သဖြင့် မြေမြှုပ်သင်္ဂြိုဟ်လိုက်ရာ ထိုမြေပုံပေါ်မှာ မှောက်လျက် အသက်အသေခံရှာသောခွေးနှင့်၊ ဘဝနတ်ထံပျံလွန်တော်မူသော ဆရာတော်ကို မီးသင်္ဂြိုဟ်ကြသောအခါ ဆရာတော့်ချစ်သည်း ခွေးမည်းကြီးက ထိုမီးပုံထဲသို့ခုန်ဆင်းချပြီး အသေခံပုံတို့ကိုလည်း ကြားသိလိုက်ရဖူးပါ၏။ တိရစ္ဆာန်များမှာ အသိဉာဏ်နှင့်မကင်းပုံ၊ သစ္စာစောင့်သိပုံတို့ကို တွေ့မြင်ရသောအခါ ပါရမီရှင်ဘုရားအလောင်း၏ တိရစ္ဆာန်ဘဝက သရုပ်ပြလုပ်ရပ်တို့အပေါ် သံသယမဝင်နိုင်အောင် လေးစားရသကဲ့သို့ သတ္တဝါတိုင်းကိုလည်း အထင်အမြင်မသေးသင့်ကြောင်း သတိထားမိပေသည်။ ထို့ပြင်-

မိမိကအနိုင်ရ၍အပိုင်ချထားပြောသော်လည်း သံသရာခရီးကို မှန်းမျှော်ပြီး ကြည့်လိုက်သောအခါ မိမိကို ပြန်လည်အနိုင်ယူဦးမည့်ဘဝကိုသတိမူ၍ မည်သူ့ကိုမဆို (ဘယ်သတ္တဝါကိုမဆို) မေတ္တာထားရန်လိုအပ်ကြောင်း ဇာတ်တော်အပေါင်းက လက်ညှိုး ညွှန်ပြလျက်ရှိပေသည်။ ကြည့်ပါလေဦး . . .

(၂၀) 'သတ္တကနိပါတ်၊ ပရန္တပဇာတ် ' တွင် အရှင်ဒေဝဒတ်အလောင်းက ဖခင်ပြဟ္မဒတ်မင်းဖြစ်၍ ဘုရားအလောင်းက သားတော်ဖြစ်လေသည်။ ယင်းသို့ သားအဘပင် ဖြစ်သော်လည်း ဘဝအဆက်ဆက် ရန်ငြိုးကြောင့် သားတော်အပေါ်ဖခင်က မေတ္တာမရှိချေ။ 'ဘယ်လိုသေအောင် သတ်ရမလဲ' ဟုသာ ကြံစည်နေရင်း အချိန်ကာလ ခေတ်အခါသမယတို့သာ ကုန်လွန်လာခဲ့လေသည်။

မင်းသားက တက္ကသိုလ်ပြည်မှ ပညာသင်ယူ တတ်မြောက်လာသောအခါ အိမ်ရှေ့မင်းသားရာထူးကို မလွှဲမရှောင်သာ ပေးအပ် ထားရသော်လည်း သားမျက်နှာကို စေ့စေ့ပင်မကြည့်နိုင်အောင် အမုန်းပွားနေ၏။

ဘုရားအလောင်း အိမ်ရှေ့မင်းသား၏ ထူးခြားသောအတတ်ပညာတစ်ခုမှာ တိရစ္ဆာန်များ အချင်းချင်း အော်မြည်ကြသော အသံကို လူစကားဖြင့် ဘာသာပြန်တတ်၏။ တစ်နေ့တွင် မြေခွေးမက 'သားတို့ရေ. . မင်းတို့ကို အဲဟိုဇရပ်မှာတည်းခိုနေကြတဲ့ ခရီးသွားများရဲ့ ဖိနပ်ကိုကျွေးမယ်။ အမေလည်းစားမယ်" ဟူသော အသံကိုဘုရားအလောင်းက ခရီးသွားများ

အား ဖိနပ်ကို အောက်မှာ မချွတ်ဖို့ သတိပေးလိုက်လေသည်။

ထို့နောက် ချောင်းငယ်တစ်ခုတွင် မျောပါလာသော လူသေအလောင်း တစ်လောင်းကိုလည်း မြေခွေး၏ စကားဖြင့် သိပြီး လူသေကောင်မှ လက်စွပ်နှင့် ငွေတစ်ထောင်ယူ၍ အလောင်းကိုလည်း ခွေးမစားနိုင်အောင် ရေနက်ရာတွင် ကျောက်ခဲဆွဲပြီး ရေမြှုပ်သင်္ဂြိုဟ်လိုက်သောအခါ မြေခွေးသား အမိက မစားလိုက်ကြရသည့်အတွက် အမျက်တွက်ပြီး ရန်ငြိုး ထားကြလေသည်။ ထို့ပြင်-

"သည်ကနေ့က နောက်၊ သုံးရက်မြောက်မှာ မင်းတစ်ပါးက ဗာရာဏသီကို စစ်ချီလာလိမ့်မယ်။ အဲဒီကျရင် သူ့ဖခင်က သူ့ကို သေစေချင်တာနဲ့ စစ်တိုက်ခိုင်းလိမ့်မယ်။ ရန်သူကလည်း မင်းသား ခေါင်းကို ဖြတ်လိမ့်မယ်။ မင်းသားသေမှ သူ့အသားစားကြတာပေါ့"ဟု-မြေခွေးမပြောသောအသံကို ဘုရားအလောင်း မင်းသားကြားသိသွားပြန်သည်။ သုံးရက်မြောက်သောအခါ အမှန်တကယ်ပင် စစ်တပ်ကြီး တစ်တပ် ချီတက်လာ၏။ ဖခင်ဘုရင်ကြီးကလည်း သားတော်ဘုရားလောင်းအား စစ်တိုက်ရန် အမိန့်ပေးလေသည်။

ဘုရားအလောင်းက အကြောင်းစုံ သိရှိထားပြီး ဖြစ်၍ နိမိတ်မကောင်းသောကြောင့် စစ်မတိုက်လိုကြောင်း သံတော်ဦးတင်သော်လည်း မရသဖြင့် စစ်သည်ဗိုလ်ပါတို့နှင့်တကွ တစ်နေရာတွင် တပ်စခန်းချ၍ နေထိုင်ကြလေသည်။ ဘုရင်ကြီးမှာ စစ်သည်မရှိသဖြင့် နန်းမဆောင်တွင် မနေဝံ့တော့ဘဲမိဖုရားကြီး၊

ပုရောဟိတ်၊ ပရန္တပကျွန်-တို့ကို ခေါ်၍ ထွက်ပြေးသောအခါ ဘုရားအလောင်းက မြို့တွင်းဝင်ပြီး ရန်သူများကို တိုက်ထုတ်လိုက်လေသည်။ ဖခင်ဘုရင်မရှိတော့ခြင်းကြောင့်လည်း ဘုရားအလောင်းက ထီးနန်းကို သိမ်းပိုက်လိုက်သည်။

'သူများ မကောင်းကြံ ကိုယ့်ပြန်ဘေးဒဏ်ထိ၊ ရှေးထုံးရှိ သတိမူမိစေ'ဆိုသည့်အတိုင်း သားတော်ဘုရားအလောင်းကို သေစေချင်သော ဖခင်ဘုရင်ကြီးသည် မိဖုရားနှင့် ပရန္တပကျွန်တို့ ဖေါက်ပြန်ကြရာက ပရန္တပကျွန်၏ လက်ချက်ဖြင့်ပင် အသက်ထွက်ရရှာလေသည်။ မိဖုရားကြီးကလည်း ဘုရင်ကြီးနှင့်ရသော ကိုယ်ဝန်ကို မွေးဖွားပြီး ပရန္တပကျွန်နှင့် ချစ်ကျွမ်းတဝင် နေထိုင်ကြသောအခါ ပုရောဟိတ်ကမျက်စိကွယ်သူအဖြစ် ဟန်ဆောင်နေထိုင်ရင်း သားငယ်လေး ကြီးပြင်းအောင် စောင့်ဆိုင်းနေထိုင်လေသည်။

သားငယ်လေး အရွယ်ရောက်လာသောအခါ-"ပရန္တပသည် သင့်ဖခင်မဟုတ်။ သင့်ဖခင်သည် ဘုရင်ဖြစ်၏။ ငါက ပုရောဟိတ်။ ပရန္တပသည်ကား ကျေးကျွန်တစ်ဦးသာဖြစ်၏။ စစ်ရေးအရ တိမ်းရှောင်နေကြရင်းက သစ္စာမဲ့သော ပရန္တပ၏ လက်ချက်ဖြင့် သင့်ဖခင်ဘုရင် အသက်ထွက်ခဲ့ရ၏။ ငါလည်း အသက်ဘေးကို စိုးရိမ်ရသောကြောင့် မျက်စိကွယ်သူအဖြစ် ဟန်ဆောင်နေထိုင်ခဲ့ရသည်" ဤသို့ရှင်းပြသောအခါ သားငယ်က ပရန္တပကို ရေဆိပ်သို့ ခေါ်ဆောင် သတ်ဖြတ်ပြီး ဗာရာဏသီပြည်သို့ ပြန်လာသော ညီတော်လေးအား ဘုရားအလောင်း

က အိမ်ရှေ့မင်းသားအရာ ခန့်အပ်ချီးမြှောက်ထားလေသည်။

(၂၁) **'နဝကနိပါတ်၊ ဒဒ္ဒရဇာတ်'** မှာ ဘုရားအလောင်းက 'ခါမင်း' ဖြစ်နေ၏။ ဗာရာဏသီပြည်တွင် ဒိသာပါမောက္ခ ဆရာကြီး တစ်ဦး နေထိုင်လေသည်။ ဆရာကြီးသည် 'မြို့တွင်းမှာ ပညာသင်ပေးခြင်းထက် တောတွင်းမှာ နေထိုင်ပြီး ပညာသင်ရလျှင် ပို၍တွင်ကျယ်လိမ့်မည်' ဟု တွက်ဆကာ ဟိမဝန္တာသို့ ပြောင်းရွှေ့နေထိုင်ရင်း တပည့်သင်းပင်းတို့အား ပညာရပ်များ သင်ကြားပေးနေလေသည်။

တစ်နေ့သောအခါ လူတစ်ယောက်က ဆရာကြီးကို ကြည်ညိုလှသဖြင့် နို့စားနွားမ သားအမိနှစ်ကောင် လှူလိုက်သည်။ နွားသားအမိ ရောက်ရှိသည့်နေ့တွင် 'ဖွတ်'သားအမိ သုံးကောင် ခြသေ့်တစ်ကောင်၊ ကျားတစ်ကောင်နှင့် ဘုရားအလောင်း 'ခါမင်း'တို့လည်း ဒိသာပါမောက္ခဆရာကြီးထံ ခစားရောက်ရှိလာကြသည်။ တိရစ္ဆာန် အချင်းချင်းလည်း ညီညွတ်ချစ်ခင်ကြ၏။

ထူးခြားမှုကား ခါမင်းသည် အနေကြာလာသည်နှင့်အမျှ ဆရာကြီးသင်ပြပေးသော အတတ်ပညာတို့တွင် ဗေဒင်သုံးပုံကို နှုတ်ငုံဆောင်ထားနိုင်သည်အထိ တတ်မြောက်လေသည်။ ဆရာကြီး ကွယ်လွန်သွားသောအခါ ဘုရားအလောင်း 'ခါမင်း'ကို ဆရာကြီးအရာ၌ထား၍ သင်ကြားနေကြသောကြောင့် ဘုရားအလောင်း ခါမင်း၏ ဂုဏ်သတင်းကား ဇမ္ဗူဒိပ်၌ ပျံ့နှံ့လျက်ရှိသည်။

တစ်နေ့သောအခါ တောင်ထိပ် ပွဲသဘင် ရှိသည်နှင့် တပည့်ငါးရာလုံးသွားနေကြစဉ် ကျောင်းတော်သို့ အရှင်ဒေဝ ဒတ်အလောင်း ရသေ့တစ်ပါး ရောက်လာခဲ့သည်။ ဖွတ်မ၏ သားများနှင့် ခါမင်းတို့က ကြိုဆိုကြ၏။ ခဏကြာသောအခါ ရသေ့က ဖွတ်နှစ်ကောင်နှင့် ခါမင်းတို့ကို ရိုက်သတ်ပြီး မီးကင် စားလေသည်။ နွားမသားအမိကိုလည်း ရိုက်သတ်လိုက်ပြန်၏။ အစာရှာပြီး ပြန်လာခဲ့သည့် ဖွတ်မကိုလည်း သတ်မည်ပြုသော အခါ ဖွတ်မက ထွက်ပြေး လွတ်မြောက်သွား၏။

ကျားနှင့်ခြင်္သေ့တို့က ဘုရားအလောင်းထံ လာနေကျ အတိုင်း ရောက်လာကြရာတွင် ရသေ့၏ လုပ်ရပ်ကို မြင်တွေ့ကြ သည်နှင့် ကိုက်သတ်ပြီး တွင်းထဲသို့ ပစ်ချထားခဲ့ကြသည်။ မင်းညီမင်းသားများပြန်လည်ရောက်ရှိလာကြသောအခါ ဘုရား အလောင်း ခါမင်း၏ အမွေးအတောင်များကိုသာ တွေ့ရှိကြရ တော့သဖြင့် ဝမ်းနည်း ပူဆွေးကြပြီး ခါမွေးခါတောင်တို့ကို ဦး ခေါင်း၌ အမြဲတန်း ပန်ဆင်ထားကြလေသည်။

(ဤဇာတ်တော်ကို အမှီပြု၍ ယနေ့ခေတ်ကာလ ဗေဒင်ဆရာ အချို့ကလည်း ခါမွေး ခါတောင်တို့ကို ယပ်တောင် ပြုလုပ်ပြီး ကိုင်ဆောင် ဟောပြောကြရာ အခက်အခဲမရှိ အောင် မြင်စွာ ဟောပြောရကြောင်း ကြားသိရဖူးပါသည်။)

(၂၂) ‘ဒသကနိပါတ်၊ ကုက္ကုဋ္ဌဇာတ်’ မှာလည်း အရှင်ဒေဝ ဒတ်၏ အတိတ်ပုံရိပ်ကို တစ်စိတ်တစ်ဒေသ အနေဖြင့် ဤသို့ တွေ့ရပါ၏။ ဝါးတောတစ်ခုတွင် ဘုရားအလောင်းက ကြက်

မင်းဖြစ်ပြီး အရှင်ဒေဝဒတ်အလောင်းက သိန်းငှက်ဖြစ်နေလေသည်။

သိန်းငှက်တို့ ထုံးစံအတိုင်း ကြက်မင်း၏ အခြံအရံများကို ဥပါယ်တမျဉ်ဖြင့်သတ်ဖြတ် စားသောက်ပြီးနောက် ဘုရားအလောင်းကြက်မင်းကိုလည်း သတ်စားလိုပြန်သောကြောင့် မိတ်ဖွဲ့သောအခါ ဘုရားအလောင်း ကြက်မင်းက မယုံကြည်ဘဲ တိုက်ခိုက်ရန် ပြင်ဆင်လိုက်မှသာ သိန်းငှက် ထွက်ပြေးသွားလေသည်။

(၂၃) 'ဒွါဒသကနိပါတ် မဟာပဒုမဇာတ်' မှာလည်း ဘုရားအလောင်းတော်က အရှင်ဒေဝဒတ်အလောင်း ဗြဟ္မဒတ်ဘုရင်ကြီး၏ သားဖြစ်လေသည်။ တက္ကသိုလ်ပြည်သို့ ပညာတော်သင်သွားပြီးပြန်လာသောအခါ ဘုရားအလောင်း၏ မယ်တော်က နတ်ရွာ စံသွားသဖြင့် ဖခင်ဘုရင်က အခြားတစ်ယောက်ကို မိဖုရားမြှောက်ပြီး မကြာမီ နယ်ပယ် မငြိမ်မသက်ဖြစ်၍ ဖခင်ဘုရင်ကိုယ်တိုင် နှိမ်နင်းရန် စစ်ခရီးထွက်သွားသောအခါ သားတော်ကို ထီးနန်း လွှဲအပ်ထားခဲ့လေသည်။

ဖခင်မင်းကြီး ပြန်လာခါနီးတွင် ဘုရားအလောင်း မင်းသားက နန်းတော်သန့်ရှင်းရေးလုပ်ရန် အဆောင်တော်သို့ တစ်ယောက်တည်းဝင်လာသောအခါ မိဖုရားက ရာဂစိတ် ဖြစ်ပေါ်လာပြီး မင်းသားကို ပျော်ပါးရန် မြူဆွယ်သည်။ သို့သော် မင်းသားက ငြင်းဆန်လိုက်သဖြင့် ဘုရင်ကြီး ပြန်လာသောအခါ နေမကောင်းဟန်ပြုပြီး မဟုတ်မဟတ် လုပ်ဇာတ်ဆင်၍ သူ

ကိုပင် မင်းသားက စော်ကားသယောင်ယောင် ဦးအောင်တိုင်ကြားလေရာ ဘုရင်ကြီးလည်း 'မယားထိ ခါးကြည့်'ဟူသော စကားကဲ့သို့ ဆွေ့ဆွေ့ခုန်အောင် ဒေါသ ဖြစ်ပြီး သားတော်ကို အသူတရာနက်သော ချောက်ထဲသို့ ပစ်ချစေလေသည်။ သို့ပါသော်လည်း . .

ဘုရားအလောင်း၏ သစ္စာ၊ မေတ္တာ တန်ခိုးကြောင့် တောင်စောင့်နတ်များက လက်ဖြင့်ခံပြီး တောင်ခြေရှိ နဂါးမင်း၏ ပါးပျဉ်းပေါ် တင်ပေးလိုက်သောအခါ နဂါးမင်းကလည်း နဂါးပြည်သို့ ဆောင်ယူ၍ ပြုစုလုပ်ကျွေးလေသည်။ ဘုရားအလောင်းလည်း နဂါး ပြည်တွင် ရက်အနည်းငယ် နေထိုင်ပြီး နဂါးမင်းကို ခွင့်ပန်ကာ ဟိမဝန္တာ၌ ရသေ့ဝတ်၍ တရားဖြင့်နေသောအခါ မုဆိုးတစ်ယောက်က မင်းသားမှန်းသိသွားသောကြောင့် ဖခင်ဘုရင်ကြီးကို အကြောင်းကြား လျှောက်တင်လိုက်ရာ မင်းကြီးလည်း တောတွင်းသို့ လိုက်လာခဲ့ပြီး မင်းစည်းစိမ်ကို လွှဲအပ်လေသည်။ ဘုရားအလောင်းက မင်းစည်းစိမ်ကို လက်မခံဘဲ တရားဖြင့်သာ အသက်ထက်ဆုံးနေထိုင်သွားလေသည်။

(၂၄) <u>'ဝိသတိနိပါတ်၊ သောမနဿဇာတ်'</u> တွင် အရှင်ဒေဝဒတ် အလောင်းက ရသေ့ဖြစ်နေ၏။ ရသေ့သည် 'ကုရုတိုင်း၊ ဥတ္တရပဥ္စာလပြည်'ကို အုပ်ချုပ်နေသော 'ရေဏုဘုရင်'အား သားရလိမ့်မည် ဟု ဟောပြော၍ မင်း၏ ကြည်ညိုလေးစားမှုကို ခံယူကာ မင်း၏ဥယျာဉ်၌ နေထိုင်လေသည်။

ဥယျာဉ်တွင် ပန်းမျိုးစုံ သီးနှံမျိုးစုံတို့ကို စိုက်ပျိုး၍ ရောင်း

ချစားသောက်၏။ ရသေ့၏ ဟောပြောချက်အတိုင်း မိဖုရားမှ သားယောကျ်ားလေးတစ်ယောက် ဖွားမြောက်လာခဲ့ရာ 'သောမနဿ'ဟု အမည်မှည့်ခေါ်ကြလေသည်။ သောမနဿ မင်းသားကား ဘုရားအလောင်းဖြစ်၏။ သောမနဿမင်းသား ခုနစ်နှစ်အရွယ်သို့ ရောက်သောအခါ ကိုယ်ကျင့်တရား မရှိဘဲ သီးနှံရောင်းစားနေသည့် ရသေ့ကို 'သူကြွယ်'ဟု နောက်ပြောင်ခေါ်ဝေါ်လိုက်ရာ ရသေ့က ဒေါသဖြစ်ပြီး သောက်ရေအိုးကို ရိုက်ခွဲလေသည်။

ဘုရင်ကြီး စစ်ခရီးထွက်ရာမှ ပြန်ရောက်လာသောအခါ ရသေ့က အထင်အမြင်လွဲလောက်အောင် ကုန်းချောစကားများကို တင်လျှောက်သဖြင့် သားတော် သောမနဿမင်းသားအား 'သတ်စေအမိန့်တော်'ချမှတ်ခြင်းခံရလေသည်။ မင်းသားကလည်း ရသေ့၏ ကိုယ်ကျင့်တရားမရှိပုံ၊ လိမ်ညာကောက်ကျစ်ပုံစသည်တို့ကို အလုံးစုံ ဖွင့်ဟ၍ သံတော်ဦး တင်ပြလိုက်သောအခါ ဘုရင်ကြီးလည်း အဖြစ်မှန်ကိုသိပြီး သားတော်အား သတ်မိန့်မှ ရုပ်သိမ်းလိုက်သည်။

ရသေ့ကိုကား ဥယျာဉ်တော်မှ ဆွဲထုတ် ရိုက်ပုတ်စေ၏။ ရသေ့လည်း ဆွဲထုတ် ရိုက်ပုတ်သူတို့၏ လက်ချက်ဖြင့် အသက်ထွက်သွားရလေသည်။ မင်းသားလည်း အသက် တစ်ဆယ့်ခြောက် နှစ်အရွယ်သို့ ရောက်သောအခါ ထီးနန်း စည်းစိမ်ကို မရယူတော့ဘဲ ဟိမဝန္တာသို့ တောထွက်ပြီး ရဟန်းပြုလိုက်၏။

(၂၅) 'တိသနိပါတ်၊ ဆဒ္ဒန္တဇာတ်'တွင် ဘုရားအလောင်း ဆဒ္ဒန်ဆင်မင်းကို မိဖုရားဆင်မ စူဠသုဘဒ္ဒါက ရန်ငြိုးဖွဲ့ပြီးနောက် သေသောအခါ ဗာရာဏသီမင်း၏ မိဖုရားဖြစ်လာ၏။ ဆင်မဘဝက ရန်ငြိုးကြောင့် ဘုရားအလောင်း ဆဒ္ဒန်ဆင်မင်းကို သတ်ပြီး အစွယ်ယူဆောင်လာရန် အရှင်ဒေဝဒတ်အလောင်း သောနုတ္တိုရ်မုဆိုးကို စေလွှတ်လေရာ မုဆိုးက လေးဖြင့် ခွင်း၍ ဘုရားအလောင်း ဆဒ္ဒန်ဆင်မင်း အနိစ္စ ရောက်ရသည်။

(၂၆) 'မဟာနိပါတ်၊ ဥမင်္ဂဇာတ်'တွင် ဘုရားအလောင်း မဟောသဓာနှင့် စူဠနီဗြဟ္မဒတ်မင်းကို အရှင်ဒေဝဒတ်အလောင်း ကေဝဋ္ဋပုဏ္ဏားက အသေသတ်ရန် ကြံစည်ခဲ့သော်လည်း အထမမြောက်ခဲ့ပါ။ အရှင်ဒေဝဒတ်သည် သံသရာကျင်လည်ခဲ့ရာ တစ်လျှောက်လုံး၌ ဘုရားအလောင်းကို အသေသတ်ခြင်း၊ ဆင်းရဲဒုက္ခ ရောက်အောင် ပြုခြင်းတို့ကြောင့် ငရဲသို့ အကြိမ်ကြိမ် ကျရောက်ခဲ့ရ၏။

(၂၇) 'မဟာနိပါတ်၊ စန္ဒကုမာရဇာတ်'တွင် ဧကရာဇ်မင်းက ဘာဝတီသာနတ်ပြည်ကိုအိပ်မက်မက်ကြောင်း ခဏ္ဍဟာလပုဏ္ဏားကို မိန့်တော်မူသောအခါ ဘုရင့်သားတော် စန္ဒကုမာရမင်းသားအပေါ် ရန်ငြိုးရှိထားပြီး ဖြစ်သဖြင့် "သားတော် သမီးတော်တို့နှင့်တကွ မိဖုရားအပေါင်းကိုသတ်ပြီး ယဇ်နတ်ပူဇော်လျှင် အသင်မင်းကြီး ရောက်ချင်လှသောတာဝတိံသာသို့ ကေန်ရောက်ပါလိမ့်မည်ဘုရား" ဟု သံတော်ဦးတင်လိုက်လေသည်။

စဉ်းစား ဆင်ခြင်ဉာဏ် မရှိသော ကေရာဇ်ဘုရင်ကလည်း ပုဏ္ဏားသံတော်ဦးတင်သည့်အတိုင်း မင်းသား လေးယောက်၊ မင်းသမီးလေးယောက်၊ မိဖုရားလေးယောက်၊ သူဌေးလေးယောက်၊ ဆင်လေးစီး၊ မြင်းလေးစီး၊ နွားလေးကောင်တို့ကို ယဇ်နတ်ပူဇော်စေသည်။

စန္ဒကုမာရမင်းသား၏ ကြင်ရာတော် စန္ဒာဒေဝီ၏ သစ္စာစကားကြောင့် သိကြားမင်းကယ်တင်သဖြင့် အသက်ဘေးက ကင်းလွတ်ခဲ့ကြရသည်။ ပုဏ္ဏားကို ပြည်သူလူထုက တုတ်-အုတ်ခဲစသည်တို့ဖြင့် ဝိုင်းဝန်း ထုသတ်လိုက်ကြသည့်အပြင် ကေရာဇ်ဘုရင်ကိုလည်း မင်းမြောက်တန်ဆာများ ဆွဲချွတ်၍ ဒွန်းစဏ္ဍားအသွင်သို့ ရောက်အောင် ဝတ်ဆင်ပေးလိုက်ပြီး စဏ္ဍာလရွာ-သို့ ပို့ပေးလိုက်ကြလေသည်။ စန္ဒကုမာရမင်းသားကိုကား မင်းအဖြစ် တင်မြှောက်လိုက်ကြ၏။ ဤဇာတ်တော်တွင် စန္ဒကုမာရမင်းသားက ဘုရားအလောင်း၊ ပုဏ္ဏားက အရှင်ဒေဝဒတ်အလောင်းဖြစ်၏။

(၂၈) (တိကနိပါတ်၊ မဟာကပိဇာတ်-က ရှေ့၌ ဖော်ပြခဲ့ပြီး ဖြစ်သည်။)

* * * * *

# အခန်း(၇)

**ဗုဒ္ဓထံ အခွင့်အရေး(၅)ချက် တောင်းခံခြင်း**

အရှင်ဒေဝဒတ်၏ အတိတ်ပုံရိပ်များကို သိသာမြင်သာရန် အကျဉ်းမျှ တင်ပြခဲ့ပါပြီ။ လက်ရှိ အခြေအနေတွင် တပည့်ကြီးများဖြစ်ကြသည့် 'ကောကာလိက၊ ကဋမောဒကတိဿ၊ ခဏ္ဍဒေဝီပုတ္တ၊ သမုဒ္ဒတ္တ'တို့နှင့်အတူ ဒကာ ဒကာမတို့ထံ ပစ္စည်းလေးပါးကို မြှောက်ချီတစ်လှည့် ခြောက်ချီတစ်ခါဖြင့် သင့်လျော်သလို ရှာဖွေ စားသောက်နေကြရလေသည်။

အရှင်ဒေဝဒတ် အသက်ရှူ အနည်းငယ်ချောင်ရခြင်းကလည်း ထိုတပည့်ကြီး လေးဦးက ဂဏာပါမောက္ခများ ဖြစ်ကြသည့် အပြင် ဉာဏ်နီဉာဏ်နက် ဆင်ရမည့် ကိစ္စရပ်များတွင် အလွန်လျှင်မြန် သွက်လက်ကြသည်က တစ်ကြောင်း၊ ဟိရီဩတ္တပ္ပ (အရှက်အကြောက်) တရားများကလည်း မရှိ ဆင်ခြင်တုံတရားကလည်း မပါကြသဖြင့် အရှင်ဒေဝဒတ် ဘာလုပ်လုပ်နောက်မဆုတ်တမ်း ထောက်ခံ အားပေးကြမြဲပင် ဖြစ်၏။

လူ့လောက၌ နေထိုင်ခဲ့ကြစဉ်က ဂဏပါမောက္ခ (ဂိုဏ်းခေါင်းဆောင်) များဖြစ်ကြ၍ အခြံအရံ(နောက်လိုက်) များလည်း နည်းကြမည် မဟုတ်ပေ။ ထိုအခြံအရံတို့ကလည်း ဆရာတူ တပည့်များ ဖြစ်ကြသဖြင့် ဆရာသမားတို့ ဘယ်ဘဝ ဘယ်အခြေအနေသို့ရောက်ရောက် နောက်က တကောက်ကောက် လိုက်နေကြမည်သာ ဖြစ်၏။

လူ့လိမ္မာတွင် အခြံအရံ ပရိသတ်များ ရှိသကဲ့သို့ လူဆိုးလူမိုက်တို့နှင့် ဝါဒထူထောင်ကြသူတို့တွင်လည်း အခြံအရံ (နောက်လိုက်)များ ရှိကြလေသည်။ လူ့လိမ္မာအဖို့ တစ်ယောက်တည်း နေ၍ရသော်လည်း လူမိုက်နှင့် ဝါဒတစ်ရပ် ထူထောင်သူတို့ကား နောက်လိုက် မရှိ၍ မဖြစ်ပေ။

ထို့ကြောင့် ငွေဖြင့် တစ်မျိုး၊ စားစရာနှင့်တစ်ဖုံ၊ လူကုံထံ အဖွဲ့အစည်း အင်အားဖြင့် တစ်ကြောင်း၊ ခြောင်း-ဥုံခံ၍ တစ်သွယ်၊ အနယ်နယ် အရပ်ရပ်သို့ ယောက်ယက်ခတ်အောင် စည်းရုံးနေကြ၏။ မြစ်ကြီးနားမြို့သို့ 'လူသေလူဖြစ်ဝါဒကြီး အပြာရောင်ဝတ်စုံ ဝတ်၍ အသက်တစ်ဖန် ရှင်သန်ထ-မြောက်လာသောအခါက ဘာသာတရား အခြေခံ အားနည်းရှာကြသူများ ထိုဝါဒရှိသူ (အဖွဲ့)ထဲသို့ လက်မထောင်၍ပင် ဝင်သွားကြလေသည်။

အထူးသဖြင့် ဘုန်းတန်ခိုးကြီးချင် (ပိုက်ဆံချမ်းသာချင်) နေရှာသော 'ငါးဘွဲ့ရ မဟာစရိယ ကျောင်းအုပ်'ဆိုသော ထေရ်ကြီးဝါကြီး ရဟန်းတစ်ပါးကပင် ၎င်းအဖွဲ့ထဲတွင် နယ်ခေါင်း

ဆောင်အဖြစ် ပါဝင်သွားသောအခါ ကတွတ်ပေါက်က မြှူးထောင်ထားသကဲ့သို့ လာသမျှ ငါး(အချို့)မလွတ်တမ်း မိကြရရှာလေတော့သည်။

စည်းရုံး ဟောပြောကြသော စကားများကို နားထောင်ကြည့်လိုက်သောအခါ 'လင်သေ၍ ကာမဂုဏ်ဆာနေသော မိန်းမနှင့် အပျိုကြီးတို့အား ယင်းကာမဂုဏ်ကို ကျေနပ်စွာ ပေးလိုက်လျှင် ကုသိုလ်ပင် ရပါသေး'သတဲ့။ စာရေးသူတို့မြို့တွင် ပညာတတ် ရုပ်ချောပြီး အပြောကောင်း၍ စာချကျွမ်းကျင်လှသော ရဟန်းကောင်း တစ်ပါး ဆုံးရှုံးသွားရခြင်းသည် လူတိုင်း သောက်သုံးနေကြသည့် ရေအိုင်၌ အဆိပ်ခတ်ထားခဲ့သဖြင့် သောက်သုံးသူတိုင်း ဒုက္ခရောက်ရသကဲ့သို့ပင် ဝါဒရှင်တို့အပေါ် နာကျည်း ရွံရှာမိရပေသည်။

အရှင်ဒေဝဒတ်သည်လည်း ထိုနောက်လိုက် အားကိုးဖြင့်ပင် အကြံအစည်တစ်ခု ထွက်ပေါ်လာခဲ့၏။ ထိုအကြံအစည်ကား အခြားမဟုတ်၊ ဗုဒ္ဓမြတ်စွာ သာသနာတော်ကြီးကို သူ့အား လွှဲအပ်ရန် သံဃာ့ပရိသတ်၊ မင်းပရိသတ်၊ သူဌေး သူကြွယ် ဒကာ ဒကာမ ပရိသတ်တို့ ရှေ့မှောက်ဝယ် တရားဝင်တောင်း ဆိုခဲ့သော်လည်း ဗုဒ္ဓက 'ခေဠာသက-တံတွေးမျိုသူ'ဟု မိန့်တော်မူခဲ့သဖြင့် မျှော်လင့်ချက် မရှိတော့ပေ။

သို့သော် အယူဝါဒ တစ်မျိုးကို ဗုဒ္ဓထံ ခွင့်ပန်ပြီး ယင်းအယူဝါဒကို လက်ခံသူ လက်မခံသူ ရဟန်းတို့ကို သီးခြား ခွဲထုတ်၍ သူ့ကို ထောက်ခံသူ ပရိသတ်ဖြင့် ဘုရားတစ်ဆူ လုပ်ရန်

ပင် ဖြစ်၏။ (ပဋ္ဌာနန္တရိယကံကြီး ငါးပါးတွင် တစ်ပါးအပါ အဝင်ဖြစ်သော သံဃဘေဒက၊ သံဃာ သင်းခွဲသော ကံကို ကျူးလွန်ရန် ကြံစည်ခြင်း ဖြစ်၏) ထိုအကြံအစည်ကို အကောင် အထည်ဖော်ရန် တပည့်ကြီးတို့နှင့် တိုင်ပင်ပါလေပြီ။

"ငါ့ရှင်တို့ လာကြ၊ ထိုင်ကြအုံး။ ငါ့ရှင်တို့ သိကြတဲ့ အတိုင်း ဒီသာသနာကျုပ်ကို လွှဲအပ်ဖို့ ဂေါတမဗုဒ္ဓထံ တောင်းခံ ခဲ့တယ် မဟုတ်လား။ သို့သော်ငြားလည်း မလွှဲအပ်တဲ့အပြင် ပရိသတ်စုံရာ ရှေ့မှာ ကျုပ်ကို 'ခေဠာသက'ရယ်လို့ ပက်ပက် စက်စက် အရှက် ခွဲခဲ့တယ်လေ။ မှတ်မိကြတယ် မဟုတ်လား။ ဒီတော့ တစ်သာသနာလုံး မရရင် ရသလောက် သံဃာကို ခွဲ ထုတ်ပြီး 'ပူးတွဲဗုဒ္ဓ'အဖြစ်နဲ့ အုပ်ချုပ်ရေး အာဏာတစ်ဝက် ယူလိုက်ကြစို့လား"

"ဟာ . . ဆရာတော်၊ မဖြစ်နိုင်ဘူး ထင်တယ်နော၊ ဘာကြောင့်လဲဆိုတော့ ရဟန်းဂေါတမရဲ့ တန်ခိုးအာဏာက သေးသေးကွေးကွေး မဟုတ်ကြောင်း ဆရာတော်လည်း အသိ ပဲလေ။ ဒီလောက် ရက်စက် ကြမ်းကြုတ်တဲ့ နာဠာဂိရိကို အရက် တွေ တိုက်ပြီး နင်းသတ်ခိုင်းခဲ့ကြစဉ်တုန်းက အသိဉာဏ် မရှိတဲ့ တိရစ္ဆာန် ဆင်တောင် ဒူးတုပ်သွားသေးတာပဲ မဟုတ်လား။ ဒီတော့ ဂေါတမဗုဒ္ဓ ရှေ့မှာ ချောင်းတစ်ချက်တောင် မဟန့်ရဲ ကြတဲ့ သံဃာ့ပရိသတ်ကို ခွဲထုတ်ဖို့ဆိုတာ ဘယ်လိုမှ ဖြစ်နိုင် လိမ့်မယ်လို့ မထင်ဘူး။ တခြားဟာ စဉ်းစားပါလား ဆရာတော်"

"ဩော် . . ကောကာလိက၊ မင်းတော်တော် ဒုံးဝေး

သေးတာပဲကိုး။ ဒီမယ် ဂေါတမဗုဒ္ဓက ရဟန်းတွေကို အလိုနည်းဖို့ ရောင့်ရဲဖို့ ကိလေသာ ခေါင်းပါးဖို့ ကိလေသာကို ခါချလိုက်သလို မြန်ဆန်တဲ့ ဓုတင်အကျင့်ကို ကျင့်ဆောင်ကြဖို့ ကြည်ညိုဖွယ်ဖြစ်အောင် နေကြဖို့ ဝီရိယရှိကြဖို့ ခဏခဏ ဟောနေတယ် မဟုတ်လား။ အဲဒါ ခွဲထွက်လိုက်ဖို့ အကွက်တစ်ကွက်ပဲလေ။ ကောကာလိကရဲ့"

"တပည့်တော် နားမရှင်းဘူး ဆရာတော်"

"အေး . . အဲဒါကြောင့် မင်းကို ဒုံးဝေးတယ်-လို့ ပြောတာ ပေါ့။ ဒီမယ် ကောကာလိက၊ တို့တစ်တွေ ဂေါတမဗုဒ္ဓဆီ သွားပြီး ဟောသလို လျှောက်လိုက်ကြမယ်"

(၁) အရှင်ဘုရား . . ရဟန်းအားလုံးကို အသက်ထက်ဆုံး တောရကျောင်းမှာ နေထိုင်စေပြီး မြို့အနီးက ကျောင်းကို နေထိုင်လျှင် အပြစ်သင့်ကြောင်း သိက္ခာပုဒ် ပညတ်ပေးတော်မူပါဘုရား။

(၂) ရဟန်းအားလုံး အသက်ထက်ဆုံး ဆွမ်းခံပြီးတော့သာ ဘုဉ်းပေးကြပါစေ။ ဘယ်ဒကာ ဒကာမပင့်တဲ့ ဆွမ်းကိုမှ မဘုဉ်းပေးကြပါစေနဲ့။ ပင့်ဖိတ်ခြင်းကို လက်ခံတဲ့ရဟန်း အပြစ်သင့်ကြောင်း သိက္ခာပုဒ် ပညတ်ပေးတော်မူပါဘုရား။

(၃) ရဟန်းအားလုံး အသက်ထက်ဆုံး ပံသုကူသင်္ကန်းကိုသာ ဝတ်ရုံကြပါစေ၊ ဒကာ ဒကာမလှူတဲ့ သင်္ကန်းကို မဝတ်ရုံကြပါစေနဲ့။ ဝတ်ရုံတဲ့ ရဟန်းကို အပြစ်သင့်

ကြောင်း သိက္ခာပုဒ် ပညတ်ပေးတော်မူပါဘုရား။

(၄) ရဟန်းအားလုံး အသက်ထက်ဆုံး သစ်ပင်ရင်းမှာပဲ နေထိုင်ကြပါစေ။ ကျောင်းကောင်းကောင်းနဲ့ မနေထိုင်ကြပါစေနဲ့။ နေထိုင်တဲ့ရဟန်း အပြစ်သင့်ကြောင်း သိက္ခာပုဒ် ပညတ်ပေးတော်မူပါဘုရား။

(၅) ရဟန်းအားလုံး အသက်ထက်ဆုံး အမဲသားငါးကို မစားကြဘဲ သက်သတ်လွတ်သာ စားကြပါစေဘုရား။ အကယ်၍ သားငါးစားတဲ့ရဟန်းကိုအပြစ်သင့်ကြောင်း သိက္ခာပုဒ် ပညတ်ပေးတော်မူပါဘုရား။

"ဒီအချက် (၅)ချက်ဟာ ရဟန်းတွေ အလိုနည်းဖို့၊ ရောင့် ရဲဖို့၊ ကိလေသာ ခေါင်းပါးဖို့၊ ကိလေသာကို ခါချလိုက်သလို မြန်ဆန်တဲ့ ဓုတင်အကျင့်ကို ဆောင်ကြဖို့ စသည်ဖြင့် ခဏခဏ ဩဝါဒပေးနေတဲ့တရားကို အမှန်တကယ် အကောင်အထည်ဖော် ကျင့်သုံးရာ ရောက်စေပါတယ်။ ခွင့်ပြုပေးတော်မူပါဘုရား လို့ လျှောက်လိုက်ရင် ရဟန်းဂေါတမက ခွင့်ပြုချက်ပေးမှာ မဟုတ်ဘူး။ ငါ သိတယ်။ လူဒကာ ဒကာမ ဆိုတာ ခေါင်းပါးတဲ့ အကျင့်ကိုကျင့်နေတဲ့ ပုဂ္ဂိုလ်ဆိုရင် ကြည်ညိုတတ်ကြတယ် ဆိုတာလောက်တော့ မင်းသိမှာပါ။ ကောကာလိကရာ"

"တင်ပါ့၊ ဆရာတော့် အကြံ မဆိုးလှပါဘူး ဘုရား"

"အေး၊ ဒီအချက်(၅)ချက်ကို သံဃာ့ပရိသတ်ကြားမှာ တင်ပြ တောင်းခံလိုက်မယ်။ တောင်းခံတဲ့အချက်တွေကလည်း

သာသနာနဲ့ ဆန့်ကျင်တဲ့ဟာ မပါတော့ ဒီလောက်ကောင်းတဲ့ အချက်တွေကို သဘောကျ လက်ခံကြမှာပဲ။ လက်ခံသူ ရှိလာရင် အဲဒါ တို့ပရိသတ်၊ တို့တပည့် ဒကာ ဒကာမတွေ ဖြစ်လာဖို့ပဲ မဟုတ်လား။ ကဲ. . သဘောပေါက်တယ်နော်။ ဟူး . . မင်းကို ရှင်းပြရတာ မောလိုက်တာ ကောကာလိကရာ"

အရှင်ဒေဝဒတ်သည် ဟန်ဆောင်ကောင်းသူ တစ်ယောက်ဖြစ်သည်နှင့်အညီ ဗုဒ္ဓရှေ့တော်မှောက်ဝယ် အလွန်ကြောက်ရွံ့ရှိသေသော တပည့်ရဟန်းတစ်ပါးကဲ့သို့ နေထိုင်တတ်၏။ နှုတ်လှံထိုးခြင်း၊ ကိုယ်အမူအရာ ကြမ်းတမ်းခြင်းများလည်း မရှိချေ။

သို့သော် ကွယ်ရာ၌မူ ကိုယ့်ဖခင်ကို 'အိမ်က ဘိုးတော်ကတော့ကွာ'ဟု အမည်ပြောင်း၍ ခေါ်ပြောတတ်သော သားသမီးမိုက်များကဲ့သို့ ဗုဒ္ဓအား အနွယ်တော်ကိုသာ တပ်၍ 'ရဟန်းဂေါတမ'ဟု ရင့်သီးစွာ ပြောဆိုတတ်လေသည်။ ယခုလည်း အကွက်ချ၍ စနစ်တကျ ကြံစည်ထားသော ထိထိမိမိရှိလှသည့် အချက်(၅) ချက်ကို တပည့်ကြီးတို့အား ရှင်းပြသောအခါ၌လည်း ရှေ့တော်မှောက်မှာ တကယ်တင်ပြသလို ရှင်းပြနေသဖြင့် အရှင်ဒေဝဒတ်၏ မျက်နှာအမူအရာ ကိုယ်နေဟန်ထားကို မှန်းဆ၍ပင် ကြည့်ကြရာ၏။

အရှင်ဒေဝဒတ် ရှင်းလင်းပြသသော ဝါဒကို တပည့်များ အားလုံး သဘောတူကြသည်နှင့် ဗုဒ္ဓသီတင်းသုံးရာ ဝေဠုဝန် ကျောင်းတော်သို့ ပရိသတ်နှင့်အတူ သွားရောက်ပြီး အဆိုပါ (အချက် ၅-ချက်)ကို တောင်းခံလျှောက်ထားလေသည်။ ထို

အခါ မြတ်စွာဘုရားရှင်က. . .

"မသင့်လျော်ဘူး ဒေဝဒတ်၊ တောကျောင်းမှာ နေလိုတဲ့ ရဟန်းလည်း တောကျောင်းမှာ နေပါစေ။ မြို့ကျောင်းမှာ နေလိုတဲ့ရဟန်းလည်း မြို့ကျောင်းမှာ နေပါစေ။ ဆွမ်းခံစားလိုတဲ့ ရဟန်းလည်း ဆွမ်းခံစားပါစေ။ ရွာထဲက ဒကာ ဒကာမတွေ ပင့်ရင်လည်း ကြွရောက်ပြီး ဘုဉ်းပေးကြပါစေ။ ပံသုကူသင်္ကန်းသာ ဆောင်လိုသော ရဟန်းလည်း ပံသုကူသင်္ကန်းကို ဆောင်ပါစေ။ ဒကာ ဒကာမတွေ လှူတဲ့သင်္ကန်းကို လှူသူရှိရင် လက်ခံပါစေ။ ရုက္ခမူစုတင်(သစ်ပင်ရင်းမှာနေခြင်း) အမှုကိုလည်း ငါဘုရား ခွင့်ပြုထားပြီး ဖြစ်တယ်။ မြင်ခြင်း၊ ကြားခြင်း၊ မသင်္ကာခြင်း မရှိဘဲ စင်ကြယ်တဲ့သားငါးကို စားနိုင်ကြောင်း ငါဘုရား ခွင့်ပြုထားပြီး ဖြစ်တယ်"

အရှင်ဒေဝဒတ်သည် မြတ်စွာဘုရားက ဤသို့ မိန့်ကြားတော်မူလိုက်သောအခါ ဆွဲကြိုးချ၍ သေလိုသောသူသည် ခိုင်မာ တောင့်တင်းသည့်ကြိုး တစ်ပင်ကိုရ၍ ဝမ်းမြောက်သကဲ့သို့ ကြိုတင် တွက်ချက်ထားသည့်အတိုင်း ဗုဒ္ဓလက်မခံကြောင်း သိရသဖြင့် သံဃာ့ပရိသတ်နှင့် လူဒကာ ဒကာမများကို တစ်ဝက်စီ အုပ်ချုပ်ရမည့်အရေး တွေး၍ပင် ပျော်ရွှင်ဝမ်းမြောက်သွားပြီး ပရိသတ်နှင့်အတူ ရှေ့တော်မှောက်မှ ထပြန်လာခဲ့သည်။

ထို့နောက် အရှင်ဒေဝဒတ်သည် တပည့်ကြီးများနှင့် အတူ မြို့တွင်းသို့ဝင်၍ အဆိုပါ အချက်(၅)ချက်ကို ဟောပြော

ကြသည့် အပြင် ယင်းအချက် (၅)ချက်ကို မိမိတို့ ရာသက်ပန် ဆောက်တည် ကျင့်သုံးကြတော့မည်ဖြစ်ကြောင်း စည်းရုံးပြော ဆိုကြသည်။

အရှင်ဒေဝဒတ်၏ ဟောပြောချက်များကို ကြားသိကြ သူ တို့တွင် ပညာနည်းသော ပြုသစ်စ ရဟန်းငယ်များနှင့် ဒကာ ဒကာမတို့က ယင်းဝါဒကို လက်ခံပြီး သာသနာ၌ အုပ်စုတစ်ခု ဖြစ်မှန်းမသိ ဖြစ်လာခဲ့ပါပကော။ ပညာကြီးရင့်ကြသော ရဟန်း တော်များနှင့် ဒကာ ဒကာမတို့ကမူ 'ဒေဝဒတ်ဟာ ဘာကြောင့် များ သံဃာသင်းကွဲအောင် လုပ်ချင်ရသလဲ၊ ဗုဒ္ဓရဲ့အာဏာစက် ပျက်အောင် လုပ်ခြင်းဟာ သာသနာတော် တစ်ခုလုံးကို ပျက် သုဉ်းအောင် လုပ်ခြင်းပဲ ဖြစ်တယ်'ဟု ကဲ့ရဲ့ပြောဆိုကြပြီး ဘုရား ရှင်ကို အကြောင်းစုံ လျှောက်ထားလိုက်ကြသည်။ ဘုရားရှင် ကလည်း အရှင်ဒေဝဒတ်ကို ခေါ်စေတော်မူပြီး . . .

"ဒေဝဒတ် . . သံဃာသင်းကွဲအောင်၊ အာဏာစက် ပျက်အောင်၊ သံဃာငယ်တွေကြား ဒကာ ဒကာမတွေကြားမှာ ဟောပြော စည်းရုံးနေတယ်-ဆိုတာ မှန်သလား"

"မှန်ပါတယ် အရှင်ဘုရား"

"မသင့်လျော်ဘူး ဒေဝဒတ်၊ ဒီအလုပ်ကို ဆက်မလုပ် ချင်ပါနဲ့။ ညီညွတ်နေတဲ့ သံဃာကို ကွဲပြားအောင် ခွဲသူဟာ တစ်ကမ္ဘာပတ်လုံး ငရဲမှာ ခံစားရလိမ့်မယ်"ဟု မိန့်တော်မူပြီး သိက္ခာပုဒ် ပညတ်တော်မူလေသည်။ ယင်းသိက္ခာပုဒ်တော် သည် 'ပါရာဇိကကျစေ'ဟူသော တစ်ချက်လွတ်အမိန့်တော်မျိုး

မဟုတ်ဘဲ စိတ်ပြောင်းသွားလျှင် မဂ်ဖိုလ်နိဗ္ဗာန်ကိုပါ ရနိုင်သေးသဖြင့် တိုးသာဆုတ်သာ၊ ဖြစ်အောင် ခပ်လျော့လျော့ပင် ပညတ်တော်မူလိုက်၏။ သိက္ခာပုဒ် အပြည့်အစုံမှာ . . .

<u>သိက္ခာပုဒ် မြန်မာပြန်</u>

"အကြင်ရဟန်းသည် ညီညွတ်နေသော သံဃာကို ကွဲပြားအောင် အားထုတ်အံ့။ ကွဲပြားမှုကို ဖြစ်စေတတ်သော အကြောင်း တစ်စုံတရာကိုမူလည်း (ဥပမာ-အဓမ္မတွေကို ဓမ္မ-ဟု ယူခြင်း စသော အယူဝါဒကို) စွဲမြဲစွာ ယူ၍ ထိုဝါဒ ကောင်းကြောင်းကို ပြောဆို ချီးမြှောက်၍ (ဝါဒဖြန့်၍)တည်အံ့။

"ထိုရဟန်းကို မြင်ကြ ကြားကြသော ရဟန်းတို့သည် သံဃာကို ကွဲပြားအောင် အားမထုတ်ပါနှင့်။ ကွဲပြားမှုကို ဖြစ်စေတတ်သော အကြောင်းကိုမူလည်း ယူ၍ ချီးမြှောက်၍ မတည်ပါနှင့်။ အရှင်သည် သံဃာနှင့်စိတ်သဘောချင်း ညီညွတ်ပါစေ။

"ညီညွတ်သော သံဃာသည် လွန်စွာ ဝမ်းမြောက်ရ၊ တစ်ပါးနှင့်တစ်ပါး မငြင်းခုံရဘဲ ပါတိမောက် အတူရွတ်ဆိုကာ (ဥပုသ် အတူပြုကာ) ချမ်းသာစွာ နေရသဖြင့် (ညီညွတ်ရ ကျိုးနပ်ပါသည်) ရဟန်းတို့က ဤသို့ပြောအပ်သော်လည်း ရှေးအတိုင်း သူ့ဝါဒကို ချီးမြှောက်နေသေးအံ့။ (ဝါဒဖြန့်နေသေးအံ့) ထိုရဟန်းကို ထိုအယူစွန့်ဖို့ရာ ဉတ်ကမ္မဝါစာ ၃-ကြိမ်ရွတ်ပြ၍ ဆိုဆုံးမရမည်။ ထိုသို့ ဆုံးမအပ်သည်ဖြစ်၍ ထိုအယူကို

စွန့်လျှင် ကောင်းသည်၊ မစွန့်လျှင်ကား တတိယ ကမ္မဝါစာ အဆုံးတွင် 'သံဃာဒိသေသ်အာပတ်' သင့်သည် (သင့်စေ)"ဟူ၍ ဖြစ်၏။

ဤသိက္ခာပုဒ်တော်သည် သံဃာသင်းခွဲရန် ကြံစည်နေသော အရှင်ဒေဝဒတ်ကို အကြောင်းပြု၍ ပညတ်တော်မူခြင်း ဖြစ်၏။ အရှင်ဒေဝဒတ်သည် ရာဇဂြိုဟ်မြို့တွင်းသို့ ဝင်၍ အချက်(၅) ချက်တို့ကို လက်ကိုင်ပြုကာ သူ့ဝါဒ အထက်သို့ ရောက်ရေးအတွက် ဝါဒဖြန့်နေစဉ်အတွင်း သိက္ခာပုဒ်ဖြင့် ဟန့်တား ပညတ်တော်မူလိုက်ခြင်းပင် ဖြစ်ပေသည်။

စည်းရုံးနေစဉ်အတွင်းဝယ် ဆရာ တပည့်များ အတိုင်အဖေါက် အဖွင့်အပိတ် ညီကြ၏။ ရဟန်းသံဃာတော်များက "အရှင်ဒေဝဒတ်ဟာ တရားမဟုတ်တာတွေကို တရားလုပ်ပြီး ပြောနေတယ်။ ဝိနည်းမဟုတ်တာကို ဝိနည်းလုပ်ပြီး ပြောနေတယ်"ဟု ကဲ့ရဲ့ကြသောအခါ တပည့်များက "အရှင်ဘုရားတို့ အဲသလို မပြောကြပါနဲ့။ တပည့်တော်တို့ ဆရာတော်ဟာ ဓမ္မဝါဒီ၊ ဝိနယဝါဒီ မထေရ်တစ်ပါး ဖြစ်ပါတယ်။

"တပည့်တော်တို့နဲ့ အတူနေဖြစ်တဲ့အတွက်လည်း အတွင်းသိ အစဉ်းသိ ဖြစ်ပါတယ်ဘုရား။ ပြီးတော့ အလုပ်တစ်ခု လုပ်တဲ့အခါတိုင်း တပည့်တော်တို့နဲ့ တိုင်ပင်ညှိနှိုင်းပြီး (သဘောတူဆုံးဖြတ်ပြီး)မှသာ အကောင်အထည်ဖေါ်ဆောင်ရွက်ခြင်း ဖြစ်ပါတယ် ဘုရား"ဟူ၍ ကာကွယ်ပေးကြလေသည်။

ထိုအခါ ရဟန်းသံဃာတော်များက "ကောကာလိက-

တို့ဟာ သံဃာသင်းခွဲရန် ကြိုးစား အားထုတ်နေတဲ့ အရှင်ဒေဝဒတ်ကို နောက်လိုက်ရဟန်း အဖြစ်နဲ့ အကာအကွယ် လုပ်ပေးနေကြတာပါလား”ဟု ပြောဆိုကြပြီးနောက် ဘုရားရှင်ကို အကြောင်းစုံ လျှောက်ထားကြသောအခါ မြတ်စွာဘုရားရှင်က ကောကာလိကတို့ကို ခေါ်စေတော်မူပြီး စစ်ဆေးမေးမြန်း၍ ‘သံဃာသင်းခွဲရန် အားထုတ်နေသော ရဟန်း၏ နောက်လိုက် မပြုလုပ်ကြရန် ‘ဘေဒါနုဝတ္တက’ အမည်ရသော သိက္ခာပုဒ် တစ်ခုကို ပညတ်တော်မူလိုက်ရပြန်သည်။

## လူမိုက်နောက်လိုက် မဖြစ်ထိုက်

ယင်းသိက္ခာပုဒ်လိုရင်းကား“သံဃာသင်းခွဲသော ရဟန်း၏ အယူကို လိုက်ကုန်သော ၁-ပါး၊ ၂-ပါး၊ ၃-ပါးလောက်သော ရဟန်းတို့သည် ‘အရှင်ဘုရားတို့၊ ထိုရဟန်းကို ဘာတစ်ခုမျှ မပြောကြပါနှင့်’-စသည်ဖြင့် ပြောဆိုအံ့။ ထိုရဟန်းတို့ကို **‘မာယသ္မန္တော ဧဝံ အဝစုတ္ထ - အရှင်တို့ ဤသို့ မပြောကြနှင့်။ နစသော ဘိက္ခု ဓမ္မဝါဒီ-** (ကိုယ်တော်တို့ ထောက်ခံအားပေးနေသော) ထိုရဟန်း သည် ဓမ္မဝါဒီ မဟုတ်’စသည်ဖြင့် ပြောဆို၍ တားမြစ်ရမည်။

ထိုသို့ တားမြစ်ပါလျက် ရှေးအတိုင်း သူတို့ အယူဝါဒကို ချီးမြှောက်နေသေးလျှင် သံဃာ့အလယ်သို့ ဆွဲငင်ခေါ်သွား၍ ဉတ်ကမ္မဝါစာ သုံးကြိမ် ရွတ်လျက် ဆုံးမရမည်။ ထိုသို့ ဆုံးမပါလျက် သူတို့ဝါဒကို မစွန့်လျှင် ထိုရဟန်းများ သံဃာ

ဒိသေသ် အာပတ်သင့်၏'(သင့်စေ)ဟူ၍ ဖြစ်၏။

ဤသိက္ခာပုဒ် ထပ်ဆင့်၍ ပညတ်တော်မူရခြင်းမှာ လူမိုက် နောက်လိုက် မဖြစ်ထိုက်ကြောင်း (မဖြစ်ရလေအောင်) ဖြစ်လျှင် အပါယ်ကျမည့် အရေးကို မြင်တော်မူသဖြင့် သိက္ခာပုဒ် တစ်ရပ် ပညတ်တော်မူလိုက်ခြင်းဖြစ်သည်။ သေချာစဉ်းစား ကြည့်လျှင် ဘုရားရှင်၏ မေတ္တာကရုဏာကား ကြီးမားတော် မူလွန်းလှပါ၏။

သို့သော် အရှင်ဒေဝဒတ်ကား ဗုဒ္ဓ၏ မေတ္တာတရားကို အလေးမထားဘဲ ဤသာသနာတော်ကို 'ခြ'တစ်ကောင်ပမာ အတွင်းက လှိုက်၍ လှိုက်၍ စားနေသည်မှာ ထင်ရှားလှ၏။ အဘယ်ကြောင့်ဆိုသော် သိက္ခာပုဒ် ပညတ်ထားပြီး ဖြစ်သော် လည်း သူ့ ပြောစကားကို နားထောင်လောက်သော ရဟန်း ငယ်တို့အား တိုးတိုးတိတ်တိတ်ဖြင့် လိမ္မာပါးနပ်စွာလက်သိပ်ထိုး စည်းရုံးသွေးဆောင်နေကြောင်းကို ကောကာလိကတို့၏ အဆို့ အပိတ် လုပ်နေခြင်းတို့ကပင် သိသာထင်ရှားလှပေသည်။

ပို၍ သိသာသည်မှာ ယခင်က စားဝတ်နေရေး အဆင် မပြေ။ အဘယ်သို့ ပြေနိုင်လေမည်နည်း။ ဗုဒ္ဓကို နာဠာဂိရိ- ဆင်ဖြင့် တိုက်သတ်ခဲ့၏။ လေးသည်တော်များ လွှတ်၍လည်း အသေသတ်စေခဲ့၏။ ကိုယ်တိုင်လည်း ကျောက်မောင်းဆင်၍ အပိုင်ပင် သတ်ခဲ့သေး၏။ ထိုအထဲ အဇာတသတ်ကို မြှောက် ပေးပြီး ဖခင်ကို သတ်စေခဲ့၏။

အဇာတသတ် ဘုရင်ဖြစ်လာသောအခါ မင်းကိုးကွယ်

ခံ ဆရာတော် တစ်ပါး အနေနှင့် မင်းခယောက်ျား (ဝန်ထမ်း) များကို ခြိမ်းခြောက်ခဲ့သလို မင်းပိုင်ပစ္စည်းများကိုလည်း အရှိန်အဝါဖြင့် အလျှုခံ၍ အလွဲသုံးစား ပြုလုပ်ခဲ့သဖြင့် 'ပြည်မုန်းဆရာတော်'ဖြစ်ရပြီး စားဝတ်နေရေး ကျပ်တည်းသွားသည့်အပြင် အမြင်မှန် ရသွားသော မင်းအဇာတသတ်က နန်းရပ်ကိုပင် ဝင်ခွင့်မပေးတော့ဘဲ နှင်ထုတ်ခြင်းကို ခံခဲ့ရလေသည်။

ယခုကား အရှင်ဒေဝဒတ်၏ အစာအိမ်များနှင့် သွေးကြောများ ပုံမှန်လည်ပတ်လာပြီ-ဟု ဆိုနိုင်၏။ အဘယ်ကြောင့်ဆိုသော် 'လောကမှာ လူအ-တွေရှိသမျှ လူမိုက်တို့ဘဝ ရှင်သန်နေဦးမည်သာ ဖြစ်၏။ လူတို့ကလည်း အံ့ဩစရာပါ။ လူတစ်ယောက်ကို မုန်းကြစို့'ဟု ကြွေးကြော်လိုက်လျှင် မျက်နှာကိုပင် မကြည့်ချင်၊ မမြင်ချင်ကြတော့လောက်အောင် မုန်းပစ်လိုက်ကြ၏။

လ-နှစ် အနည်းငယ် ကြာလာသောအခါ 'သူ့ထိုက်နဲ့သူ့ကံသာ ထားလိုက်ပါတော့ကွာ'ဟု ဆို၍ ခွင့်လွှတ်လိုက်ကြပြန်၏။ ယင်းသို့သော ခွင့်လွှတ်တတ်ခြင်းကိုပင် 'သာကီဝင်တွေက သနားတတ်ပါတယ်'ဟု ကင်ပွန်းတပ်ကြသလို 'ဒီလူဟာ လူယုတ်မာပဲ သမိုင်းမကောင်းခဲ့သူမို့ ပေါင်းစရာ မလိုဘူး' ဟူ၍ ဆိုပြန်လျှင် ထိုသူအား 'အာဃာတကြီးသူ'အဖြစ် သမုတ်လိုက်ကြပြန်ပါသေးသည်။

ခိုက်ရန်ဒေါသ မဖြစ်လိုသဖြင့် (သံသရာမှာ ရန်မပါချင်သဖြင့်) ခွင့်လွှတ်ခြင်းကား ကောင်းလှပါ၏။ သို့သော် လူ

ကောင်း မဟုတ်သူကို ဥပေက္ခာပြု ပစ်ပယ်ထားလိုက်ခြင်းကား မြွေပွေးကို ခါးပိုက်ထဲ မထားလိုသကဲ့သို့သာ ဖြစ်သဖြင့် ရှောင်ဖယ်ခြင်းကား အာဃာတ မဟုတ်ပါ။ ဘုရားရှင်ကပါ 'အသေဝနာစ ဗာလာနံ- လူမိုက်ကို မပေါင်းပါနှင့်' ဟူ၍ မိန့်တော်မူခဲ့သဖြင့် မင်္ဂလာတရားတော်နှင့်ညီကြောင်း နားလည်နိုင်ကြပေသည်။

ယခု အရှင်ဒေဝဒတ်အပေါ် ထားရှိကြသော လူသားတို့ သဘောထားများကား "လူတစ်ယောက်ဆိုတာ ထာဝစဉ် မိုက်နေတာမှ မဟုတ်တာဘဲ။ အရှင်ဒေဝဒတ် မိုက်ခဲ့တာ မှန်ပေမယ့် သံဝေဂရချိန်မှာ ဟောပြောကျင့်ကြံလာတဲ့ ဝါဒကတော့ တော်တော်ကောင်းသားပဲ"ဟူ၍ လက်ခံကြည်ညိုသူများ ထွက်ပေါ်လာခြင်းနှင့်အတူ စားဝတ်နေရေးလည်း အဆင်ပြေလာပါလေတော့သည်။ 'အဆိုးရှိလျှင် အကောင်းရှိရမည်'ဟူသော သဘာဝတရားကပင် အရှင်ဒေဝဒတ် အသက်ရှင် ရပ်တည်နိုင်အောင် ကူညီနေသည်ဟု ဆိုရမလိုပင် ဖြစ်နေသည်။

## အရှင်ဒေဝဒတ်၏ ကြေညာချက်

ဤ၌ 'အရှင်ဒေဝဒတ်သည် မုချသံဃာသင်းခွဲမည်-ဟူသော အချက်ကို ဘုရားရှင် မသိလေသလော'ဟု စဉ်းစားစရာရှိပါသည်။ မြတ်စွာဘုရားရှင်ကား ကာလသုံးပါးကို အသေးစိတ်ပိုင်းခြား၍ သိတော်မူပါ၏။ ယင်းသို့ သိတော်မူပါလျက် ဘယ်အတွက်ကြောင့် အပင်ပန်းခံ၍ သိက္ခာပုဒ် ပညတ်တော်မူရလေ

သနည်း။

မြတ်စွာဘုရားရှင်သည် လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်းကြာအောင် ပါရမီတော်များကို ဖြည့်ကျင့်တော်မူခဲ့ရသော်လည်း ဘုရားရှင်ဖြစ်ရသည့် သက်တမ်း ကာလကား ၄၅-နှစ်မျှသာ ရှိသဖြင့် နောင်အနာဂတ်ဝယ် ဘုရားရှင် ကိုယ်တော်စားသာသနာတော်ကြီး တည်ရှိရစ်စေချင်၏။

ယင်းသာသနာတော် တည်ရေးသည် သက်တော်ထင်ရှား ရှိစဉ်တွင် ဖြစ်ပေါ်လာသော ပြဿနာအရပ်ရပ်တို့ကို အကြောင်းအကျိုး စစ်မေး၍ တရားသဖြင့် ဆုံးမပေးနိုင်သော်လည်း ကိုယ်တော်မြတ်ကြီး ပရိနိဗ္ဗာန်ပြုသွားလျှင် သိက္ခာပုဒ်တော်များကသာ သက်တော်ထင်ရှား ဘုရားပမာ (ဘုရားကိုယ်တော်ပွား)အဖြစ် ဆုံးမ နေရစ်လိမ့်မည်-ဟူသော အချက်ကို မြင်တော်မူသဖြင့် ဝါတော် နှစ်ဆယ်ပြည့်သော အချိန်မှစ၍ သိက္ခာပုဒ်ပေါင်း ကုဋေကိုးထောင်ကျော်အောင် ပညတ်တော်မူခဲ့လေသည်။

ကုဋေကိုးထောင်ကျော် ပညတ်တော်မူခဲ့သော သိက္ခာပုဒ်တို့သည် သဗ္ဗညုတဉာဏ်တော်ဖြင့် ဝင်စား၍ ကြိုတင် ပညတ်ခဲ့သည် မဟုတ်ပါ။ ပြဿနာပေါင်း ကုဋေကိုးထောင်ကျော် ဖြစ်ပေါ်လာ၍သာ ထိုပြဿနာများအပေါ် အခြေခံ၍ ပညတ်တော်မူခဲ့ခြင်းဖြစ်၏။ ထိုပညတ်ချက်တို့ကို 'သာသနာ'ဟု ခေါ်သည်။ သာသနာဟူသည် 'ဘုရားရှင်၏အဆုံးအမ' ဖြစ်ခြင်းကြောင့် ထိုအဆုံးအမအတိုင်း လိုက်နာလျှင် ကိုယ့်သန္တာန်

၌ သာသနာတည်နေပြီး မလိုက်နာသော နေ့တွင် သာသနာကွယ်လေတော့သည်။ သာသနာတည်ခြင်း ကွယ်ခြင်းဟူသည် လိုက်နာမှု မလိုက်နာမှုပေါ်တွင် မူတည်ပါ၏။

ဘုရားရှင်က 'သာသနာငါးထောင်သာ ထားခဲ့ကြောင်း' ကျမ်းဂန်တို့၌ မရှိချေ။ (ကွက်ကျားရွှာခဲ့သော ဓမ္မမိုးရေစက်များ စာအုပ်တွင် ရေးခဲ့ပြီးပါပြီ၊ အကျယ်သိလိုလျှင် ၎င်း၌ ရှုပါ)

အရှင်ဒေဝဒတ်သည် မိမိနှင့် မိမိနောက်လိုက်များကို အကြောင်းပြု၍ ဘုရားရှင်က သိက္ခာပုဒ်တို့ဖြင့် တားမြစ် ဟန့်တားပါသော်လည်း နောက်မဆုတ်ဘဲ သာသနာ့ဘောင် အတူဝင်ဘက်၊ ဗုဒ္ဓ၏အလုပ်အကျွေးလည်းဖြစ်သော အရှင်အာနန္ဒာနှင့် ဆွမ်းခံရင်း တွေ့ကြသောအခါ. .

"ငါ့ရှင် အာနန္ဒာ၊ ငါသည် ယနေ့မှ အစပြု၍ မြတ်စွာဘုရား အမှူးရှိသော သံဃာ့ပရိသတ်နှင့်အတူ ဥပုသ် မပြုလိုတော့ဘဲ သီးခြားသာလျှင် ဥပုသ်ပြုတော့မည်။ သံဃာ့ကံကိုလည်း သီးခြားဆောင်တော့မည်"ဟု အတိအလင်း ကြေညာပြောဆိုလိုက်သည်။

အရှင်ဒေဝဒတ်သည် နောက်ဆုတ်တတ်သူ မဟုတ်သည့်အပြင် နောက်လိုက် ပရိသတ်ကလည်း အထိုက်အလျောက် ရှိထားပြီဖြစ်၍ မုချ သံဃာသင်းခွဲတော့မည်ဖြစ်ကြောင်း အရှင်အာနန္ဒာ ရိပ်မိသဖြင့် ဆွမ်းခံရာမှအပြန် ကျောင်းတော်သို့ ရောက်ရောက်ချင်း သပိတ်ကိုချကာ မြတ်စွာဘုရားထံ အလျင်အမြန် လျှောက်ထားရတော့သည်။

"မြတ်စွာဘုရား၊ ယနေ့ နံနက် ဆွမ်းခံချိန်မှာ တပည့်တော် အရှင်ဒေဝဒတ်နဲ့ တွေ့ခဲ့ရပါတယ်ဘုရား။ အရှင်ဒေဝဒတ်က တပည့်တော် ဆွမ်းခံနေတာ မြင်တော့ အနားလာပြီး 'ငါ့ရှင်အာနန္ဒာ၊ ငါသည် ယနေ့မှ အစပြု၍ မြတ်စွာဘုရား အမှူးရှိသော သံဃာ့ပရိတ်သတ်နှင့်အတူ ဥပုသ်ပြုတော့မည် မဟုတ်။ သံဃာ့ကံကိုပဲ သီးခြားဆောင်တော့မည်'ဟု ပြောပါတယ်ဘုရား။ ဒီစကားအရ ဆိုရင် အရှင်ဒေဝဒတ်ဟာ ယနေ့ကစပြီး သံဃာသင်းခွဲပါလိမ့်မယ် ဘုရား"

အာရှင်အာနန္ဒာ လျှောက်ထားသော စကားကို ကြားသိတော်မူသောအခါ မြတ်စွာဘုရားက 'ဓမ္မသံဝေဂ မဟာကရုဏာတော်ဥဒါန်း'ကို ဤသို့ ကျူးရင့်တော်မူလေသည်။

သုကရံ သာဓုနာ သာဓုံ၊
သာဓုံ ပါပေန ဒုက္ကရံ၊
ပါပံ ပါပေန သုကရံ၊
ပါပံ အရိယေဟိ ဒုက္ကရံ။

သာဓုနာ-ကြောင်းကျိုးမြင်သိ, ပညာရှိသည်၊ သာဓုံ-သံသရာလွတ်ကြောင်း, ကောင်းသော အမှုကို၊ သုကရံ-လွယ်လွယ်ကူကူ, ပြုမူတတ်ပေ၏။ ပါပေန-ကာယ-ဝစီ,မနောချို၍, လော်လီဖေါက်ပြား, ခြောက်ပါးအာရုံ, ကာမဂုဏ်ကို, ဖုံဖုံပျော်ပါး, ငမိုက်သားသည်၊ သာဓုံ- သံသရာလွတ်ကြောင်း, ကောင်းသောအမှုကို၊ ဒုက္ကရံ-တောင်ထိပ်ကြာပေါက်, အနောက်နေထွက်, ဖြစ်စဉ်ပျက်သို့, အခက်မသွေ, ပြုနိုင်ခဲလှပါပေ၏။ ပါ

ပေန- ကာယ-ဝစီ, မနောချီ၍, လော်လီဖေါက်ပြား, ခြောက်ပါး အာရုံ, ကာမဂုဏ်ကို, ဖုံဖုံပျော်ပါး, ငမိုက်သားသည်၊ ပါပံ- အပါယ်ရောက်ကြောင်း, မကောင်းသောအမှုကို၊ သုကရံ-ခွက် မှရေသွန်, လေချွန်ပုံအား, ပမာထား၍,မခြားအနေ, ပြုလွယ်ပေ၏၊ အရိယေဟိ-ခြောက်ပါးအာရုံ, ကာမဂုဏ်ကို, မခုံ မမင်, သူတော်စင်တို့သည်၊ ပါပံ- အပါယ်ရောက်ကြောင်း, မကောင်း သောအမှုကို၊ ဒုက္ကရံ- တောင်ထိပ်ကြာပေါက်, အနောက်နေ ထွက် ဖြစ်စဉ်ပျက်သို့, အခက်မသွေ, ပြုနိုင်ခဲပါပေသတည်း။

ဗုဒ္ဓသည် ဤဥဒါန်းကို ဝမ်းသာလွန်း၍ ကျူးရင့်တော်မူ ခြင်းမဟုတ်။ အရှင်ဒေဝဒတ် အပါယ်ရောက်မည့် အရေးကို မြင်တော်မူခြင်းကြောင့် သနားလှသော မဟာကရုဏာတော်ဖြင့် ဝမ့် သံဝေယူတော်မူခြင်းသာ ဖြစ်၏။ အရှင်ဒေဝဒတ် သံဃာ သင်းမခွဲအောင် (သံဃဘေဒကကံကို မကျူးလွန်နိုင်အောင်) တားဆီးရန်လည်း မဖြစ်နိုင်။ ဘာမျှလည်း လုပ်စရာမလိုတော့ သဖြင့် အရှင်ဒေဝဒတ် အပါယ်ဒုက္ခကျရောက်ရမည့်အရေးကို ကရုဏာပွား၍ ညည်းတွားရန်သာ ကျန်တော့သည်။ (လူမိုက် ကို ကုစားရန် ဆေးမရှိတော့သည့် အခြေအနေဟု ဆိုလျှင် ပို၍ မှန်ပေလိမ့်မည်) ထို့ကြောင့် ဤဥဒါန်းကို ကျူးရင့်တော်မူခြင်း ဖြစ်၏။

## အရှင်ဒေဝဒတ် သံဃာသင်းခွဲခြင်း

ယနေ့ ဥပုသ်နေ့ ဖြစ်သည်။ နေ့မွန်းလွဲချိန် ဥပုသ်ဆောင်

၌ သံဃာ့ဥပုသ်ပြုရန် သံဃာ့ပရိသတ်ကြီးလည်း အပြည့်အစုံ ရောက်ရှိနေကြပြီ ဖြစ်၏။ အရှင်ဒေဝဒတ်သည် နံနက်ပိုင်းက သံဃာသင်းခွဲမည့် အရိပ်အမြွက်စကားကို အရှင်အာနန္ဒာအား ပြောကြားထားခဲ့သည့်အတိုင်း သံဃာစုံနေသည်ကို အခွင့်ကောင်းယူပြီး မဲဆွယ်တရား ဟောကြားပါလေပြီ။

"သံဃာတော် အရှင်မြတ်တို့ဘုရား. တပည့်တော် မြတ်စွာဘုရားထံမှာ ပဉ္စဝတ္ထု (အချက် ၅-ချက်) တောင်းခံခဲ့တာ အရှင်ဘုရားများ မှတ်မိကြလိမ့်အုံးမယ်-လို့ ထင်မြင်ယူဆပါတယ်ဘုရား။ အတိုကောက် အကျဉ်းချုပ်ပြီး ပြန်လည်လျှောက်ထားရမယ်ဆိုရင်-

၁-အချက်၊ တောရကျောင်းမှာပဲ နေဖို့၊ မနေသူကို အပြစ်အနေနဲ့ သိက္ခာပုဒ် ပညတ်ပေးဖို့ပါ ဘုရား။

၂-အချက်၊ ဆွမ်းခံပြီးတော့သာ စားကြဖို့၊ ဒကာ ဒကာမများ လာရောက် ပင့်ဖိတ်ရင် လက်မခံကြဖို့၊ လက်ခံရင် အပြစ်အနေနဲ့ သိက္ခာပုဒ် ပညတ်ပေးဖို့ပါ ဘုရား။

၃-အချက်၊ ပံသုကူသင်္ကန်းကိုသာ ဝတ်ရုံကြဖို့၊ အခြား ဒကာ ဒကာမများ လှူတဲ့ သင်္ကန်းကို မဝတ်ရုံကြဖို့၊ ဝတ်ရုံရင် အပြစ်အနေနဲ့ သိက္ခာပုဒ် ပညတ်ပေးဖို့ပါ ဘုရား။

၄-အချက်၊ သစ်ပင်ရင်းမှာသာ နေကြဖို့၊ ကျောင်းကောင်းကောင်းနဲ့ မနေကြဖို့၊ နေခဲ့ရင် အပြစ်အနေနဲ့ သိက္ခာပုဒ် ပညတ်ပေးဖို့ပါ ဘုရား။

၅-အချက်၊ အမဲသား ငါး မစားဘဲ သက်သတ်လွတ်သာ စား

ကြဖို့ သားငါးစားရင် အပြစ်အနေနဲ့ သိက္ခာပုဒ် ပညတ်ပေးဖို့ပါ ဘုရား။

"ဒီလောက်ကောင်းတဲ့ အချက် ၅-ချက် ကို တပည့်တော် တောင်းဆိုခဲ့ပေမယ့် မြတ်စွာဘုရားက ခွင့်ပြုတော်မမူဘူး ဆိုတာလည်း အရှင်မြတ်များ သိတော်မူကြပြီး ဖြစ်ပါတယ်။ ဒီအချက် ၅-ချက်ဟာ တပည့်တော် တီထွင်ထားတာ မပါပါဘူး။ မြတ်စွာဘုရားကိုယ်တော်တိုင် အရညိကဓုတင်၊ ပိဏ္ဍပါတိကဓုတင်၊ ပံသုကူလိကဓုတင်၊ ရုက္ခမူလိကဓုတင်များ အဖြစ်ဟောကြား ပညတ်ထားတဲ့ အကျင့်ကောင်း အကျင့်မြတ်များသာ ဖြစ်ပါတယ်ဘုရား။

"နံပါတ် ၅-အချက် သက်သတ်လွတ် စားခြင်းကလည်း သောသာနိကဓုတင်(သုသာန်၌နေခြင်း)ကို ဆောင်တဲ့ ရဟန်းဟာ သားငါး မစားရကြောင်း မြတ်စွာဘုရား ကိုယ်တော်တိုင် ပညတ်ထားပြီး ဖြစ်ပါတယ်။ ဒီအချက်ကိုထည့်ပြီး တောင်းဆိုရခြင်းက တပည့်တော်တို့ဟာ သစ်ပင်ရင်းကိုသာ နေကြမှာဆိုတော့ သုသာန်မြေလည်း ပါဝင်နိုင်တာမို့ သားငါး အနံ့ရရင် ဖုတ် ပြိတ္တာများက အသက်အန္တရာယ်အထိ ဒုက္ခပေးတတ်ကြတဲ့အတွက် မစားဘဲ နေလိုက်ခြင်းဟာ အကောင်းဆုံးဖြစ်လို့ အချက်တစ်ချက်အနေနဲ့ ခွင့်ပြုဖို့ တောင်းခံခဲ့ခြင်း ဖြစ်ပါတယ်ဘုရား။

"တပည့်တော်ဟာ စည်းလွတ်၊ ဝါးလွတ်တောင်းတာ မဟုတ်ဘဲ မြတ်စွာဘုရား ဟောကြားထားတဲ့ ဒေသနာတော်နဲ့

အညီ ကျင့်ကြံကြဖို့ တောင်းဆိုခဲ့တာကို မြတ်စွာဘုရား ဘာကြောင့် ခွင့်မပြုသလဲ-ဆိုတာတော့ တပည့်တော် နားမလည်နိုင်တော့ပါ ဘုရား။

"သို့သော်လည်း ဒီလောက်ကောင်းတဲ့ အချက် ၅-ချက်ကို တပည့်တော်ကတော့ ဝစ်သက်လုံး လိုက်နာ ကျင့်သုံးဖို့ ဆုံးဖြတ်ချက် ချထားပြီး ဖြစ်ပါတယ်ဘုရား။ တပည့်တော် နိဂုံးချုပ် လျှောက်ထားလိုတာကတော့ ဒီအချက် ၅-ချက်ကို တပည့်တော်နဲ့အတူ ကျင့်သုံးဖို့ နှစ်သက် သဘောကျကြရင် သဘောတူကြောင်း စာရေးတံမဲကို ယူကြပြီး တပည့်တော်တို့ သီးခြားနေကြမည် ဖြစ်ကြောင်း အသိပေး လျှောက်ထားအပ်ပါတယ် သံဃာတော်အရှင်မြတ်တို့ဘုရား"

အရှင်ဒေဝဒတ် ယင်းသို့ စည်းရုံးပြောကြားလိုက်သောအခါ ဝေသာလီပြည်၊ ဝဇ္ဇီတိုင်းသား ရဟန်းတော်အပါး ငါးရာတို့က သဘောကျကြသဖြင့် စာရေးတံမဲကို ကောက်ယူကြလေသည်။ ထိုရဟန်းတို့ကား ရဟန်းဖြစ်စ-ပင် ရှိသေးသဖြင့် အရှင်ဒေဝဒတ်၏ စိတ်နေစိတ်ထားကို မသိကြသေးပေ။ ထို့ပြင် အချက် ၅-ချက်က လည်း ထိထိမိမိ ရှိလှသဖြင့် 'ဘုရားဟောမမွကွန်-အမှန်ဖြစ်သည်၊ ကျင့်သော်လည်း မမှားနိုင်'ဟု ယုံကြည်ပြီး စာရေးတံမဲကို ယူလိုက်ကြခြင်းဖြစ်၏။ အရှင်ဒေဝဒတ်သည် မိမိဝါဒကို လက်ခံ၍ စာရေးတံမဲ ပေးလာကြသည့် သံဃာတော်ငါးရာတို့ကို ခေါ်ဆောင်ပြီး 'ဂယာသီသ' အရပ်သို့ ထွက်ခွါသွားကြပါလေပြီ။

'ဂယာသီသ'အရပ်သို့ ရောက်သောအခါ နောက်လိုက် ရဟန်းများနှင့် ဒကာ ဒကာမတို့အား ဝါဒအမျိုးမျိုး ဖြန့်၍ သူ့ကို ဘုရားတစ်ဆူပမာ အထင်ရောက်လာအောင် အယုံသွင်းလေ သည်။

"ငါ့ရှင်တို့၊ ငါဟာ သာကီဝင် မင်းမျိုးကနေ သာသနာ့ ဘောင်ကို ဝင်လာခဲ့တယ်-ဆိုတာ အားလုံးသိကြမှာပါ။ သံဃာ ရတနာ-ရယ်လို့ ပေါ်ပေါက်လာတုန်းကတည်းက အစောဆုံး ရဟန်းဖြစ်ခဲ့တာဆိုတော့ အသက်၊ သိက္ခာ ဝါအနေနဲ့ ဘယ် ကိုယ်တော့်အောက်မှ မရှိပါဘူး။

"ဝါအနေနဲ့ ကိုယ့်ထက် နည်းနည်း ကြီးတယ်-ဆိုအုံး တော်မှ အမျိုးဂုဏ်နဲ့ ယှဉ်လိုက်ရင် သာကီဝင်ဟာ ထိပ်ဆုံးက ပဲလေ။ စာပေဗဟုသုတ၊ လူမှုရေးဗဟုသုတ၊ လူ့စရိုက် (လူ့ အထာ) ဘယ်ဟာစမ်းစမ်း၊ လာခဲ့စမ်းပါ-လို့ စိန်ခေါ်နိုင်ပါတယ် ငါ့ရှင်တို့။ ဒီတော့ တရားမဟုတ်တာကို တရားလို့ ပြောပါ့ မလား။ ဝိနည်း မဟုတ်တာကို ဝိနည်း-လို့ ပြောပါ့မလား။ အပါယ်လေးပါးကို မကြောက်ဘဲ နေပါ့မလား"

အရှင်ဒေဝဒတ်သည် သူ့အား ဘုရားတစ်ဆူအဖြစ် အသိအမှတ် ပြုချင်လာအောင် စည်းရုံးပြောဆို၍ မြတ်စွာ ဘုရား စကားပြောဟန်၊ သိတင်းသုံး နေထိုင်တော်မူဟန်၊ လမ်း လျှောက်ဟန်၊ လျှောင်းစက်တော်မူဟန်တို့ကိုပါ တစ်ထပ်တည်း ကျအောင် အမူအရာများကိုပါ သိသိသာသာကြီး ပြောင်းလဲ ပစ်လိုက်သည်။

## အရှင်ဒေဝဒတ်သွေးအန်ခြင်း

ဝေသာလီပြည်၊ ဝဇ္ဇီတိုင်းသား ရဟန်းငယ် ငါးရာတို့ကို ဂယာသီသ အရပ်သို့ အရှင်ဒေဝဒတ် ခေါ်ဆောင်သွားပြီး၊ မကြာမီ လက်ဝဲ လက်ယာ မထေရ်ကြီးနှစ်ပါး မြတ်စွာဘုရားကို သတင်းပေး လျှောက်ထားကြလေသည်။

"မြတ်စွာဘုရား၊ ဒေဝဒတ်ဟာ သံဃာသင်းခွဲပြီး ရဟန်း ငယ် ငါးရာကို ခေါ်ဆောင်သွားပါပြီ ဘုရား"

"အို . . သာရိပုတ္တရာ၊ မောဂ္ဂလ္လာန်တို့၊ ရဟန်းငယ် လေးတွေဟာ သနားစရာပါကွယ်။ မင်းတို့ရော မသနားကြ ဘူးလား။ ကဲ. . သွားခေါ်ချေကြ။ ရဟန်းငယ်လေးတွေ အကျိုး မဲ့ မပျက်စီးမီ မြန်မြန်ခေါ်ချေကြကွယ်"

"မှန်ပါ၊ အရှင်ဘုရား"

အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလ္လာန် မထေရ်မြတ် နှစ်ပါး ဂယာသီသအရပ်သို့ ကြွသွားတော်မူကြသောအခါ မြတ်စွာဘုရားနှင့် မလှမ်းမကမ်း တစ်နေရာတွင် ရပ်လျက်ရှိ သော ရဟန်းတစ်ပါးက ရှိုက်ကြီးတငင် ငိုကြွေးလေသည်။ ထိုအခါ ဘုရားရှင်က. .

"ချစ်သားရဟန်း၊ ဘာဖြစ်လို့ ငိုတာလဲ"ဟု မေးတော်မူ ၏။ "အရှင်ဘုရား . . ဘုန်းတော်ကြီးတော်မူတဲ့ မြတ်စွာဘုရား ရဲ့အဂ္ဂသာဝကနှစ်ပါးဟာ အရှင်ဒေဝဒတ်ရဲ့ တရားကို နှစ်သက် သဘောကျကြလို့ အရှင်ဒေဝဒတ်ထံ လိုက်သွားကြပြီ မဟုတ်ပါ လားဘုရား၊ တပည့်တော်တို့မှာ ဥပဇ္ဈာယ်ဆရာ မရှိတော့ဖို့

ငိုရခြင်း ဖြစ်ပါတယ် မြတ်စွာဘုရား"

"ချစ်သားရဟန်း၊ သာရိပုတ္တရာ၊ မောဂ္ဂလ္လာန်တို့ဟာ ဒေဝဒတ်ရဲ့ တရားကို နှစ်သက်သဘောကျစရာ အကြောင်း မရှိဘူး။ ဒေဝဒတ်နောက် လိုက်သွားကြတဲ့ ရဟန်းငယ်လေးတွေကို တရားမှန်သိအောင် ဟောပြောပြီး ပြန်ခေါ်ခဲ့ဖို့ ငါဘုရားစေလွှတ်လိုက်ခြင်းသာ ဖြစ်တယ်"

အဂ္ဂသာဝက နှစ်ပါး ဂယာသီသသို့ ရောက်ကြသောအခါ အရှင်ဒေဝဒတ်သည် မြတ်စွာဘုရား တရားဟောတော်မူသည့် ဟန်အတိုင်း သံဃာ့ပရိတ်သတ် ဝန်းရံလျက် တရားဟောနေသည်။ မထေရ်မြတ်နှစ်ပါး အဝေးမှ ကြွလာကြသည်ကို မြင်ရသောအခါ. .

"ရဟန်းတို့ . . ငါဟောတဲ့တရားဟာ အလွန်ကောင်း မွန်တယ်၊ မှန်ကန်တယ်ဆိုတာ တခြားမကြည့်ကြနဲ့။ အဲဟိုမှာ ရဟန်းဂေါတမရဲ့ ဘယ်လက်ရုံး၊ ညာလက်ရုံးဖြစ်တဲ့ သာရိပုတ္တရာ၊ မောဂ္ဂလ္လာန်တို့တောင် ငါ့တရားကို နှစ်သက်သဘောကျလို့ လိုက်လာကြပြီ"

အရှင်ဒေဝဒတ်၏ တပည့် ကောကာလိက-သည် အရှင်သာရိပုတ္တရာ-တို့ အမှန်တကယ် လိုက်လာခဲ့သည်ဟု ထင်နေ၏။

အရှင်သာရိပုတ္တရာတို့နှင့်သာ ဂယာသီသမှာ အတူတကွ နေကြရပြီဆိုလျှင် ထက်မြက်သည့် မထေရ်နှစ်ပါး ဖြစ်ခြင်းကြောင့် အရှင်ဒေဝဒတ်၏ ပစ္ဆာသမဏ (နောက်လိုက်ရဟန်း) ရာထူးမှ

အမှန် စွန့်လွှတ်ရတော့မည် ဖြစ်ကြောင်း ရိပ်စားမိသဖြင့် -

"ဆရာတော်.၊ သာရိပုတ္တရာနဲ့ မောဂ္ဂလ္လာန်တို့ကို အရောမဝင်နဲ့၊ မျက်နှာသာလည်း မပေးနဲ့၊ မာယာ များတယ်နော၊ ပြီးတော့ အလိုဆိုးလည်း ရှိကြတယ်။ သတိထား ဆရာတော်။ တပည့်တော်တို့ 'ဂယာသီသအဖွဲ့'နဲ့ ပူးပေါင်း ထူထောင်ထားတဲ့ 'ဂိုဏ်းခွဲသာသနာ' ပြိုကွဲသွားနိုင်တယ်။ ဂိုဏ်းခွဲသာသနာ ပြိုကွဲအောင် လုပ်သူကတော့ 'မဟာရန်'ပဲနော် ဆရာတော်။ ခုကတည်းက ပြောထားပြီးပြီ"

"ဟာ.. ကောကာလိကရာ၊ မင်း အဲသလို မပြောပါနဲ့။ သာရိပုတ္တရာနဲ့ မောဂ္ဂလ္လာန်တို့ဟာ ငါ့တရားကို နှစ်သက်သဘောကျကြလို့ လိုက်လာကြတာပါ"

ယင်းသို့ ပြောဆိုနေကြစဉ် အရှင်မြတ်နှစ်ပါး အရှင်ဒေဝဒတ်ထံပါးသို့ ရောက်လာကြသည်။ အရှင်ဒေဝဒတ်၏ မျက်နှာသည်လည်း ပျားအုံကိုတွေ့သော တောမုဆိုးကဲ့သို့ ရွှင်လန်းနေပြီး "ငါ့ရှင် သာရိပုတ္တရာ၊ လာလာ၊ ငါ့အနားမှာထိုင်။ မောဂ္ဂလ္လာန် .. လာ၊ ဒီဘက်က ထိုင်"

"ငါ့ရှင်ဒေဝဒတ်၊ မသင့်လျော်ပါဘူး၊ ဟောဒီ သင့်လျော်တဲ့ နေရာမှာပဲ ထိုင်ပါရစေတော့"

အရှင်ဒေဝဒတ်သည် တရားဟောညှံ့သူမဟုတ်၊ အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလ္လာန်တို့ကလည်း မိမိပရိသတ်ထဲမှာရောက်ရှိနေကြပြီ ဖြစ်သဖြင့် အသံနေ အသံထား လေယူလေသိမ်း၊ အဖြတ်အတောက် ကောင်းကောင်း၊ မျက်နှာနေ

မျက်နှာထား မှင်မောင်းကလည်း မှန်ကြည့်၍ အပြုံးလေ့ကျင့်ထားသော ခေတ်သစ်မမြကထိက ကိုယ်တော်ကဲ့သို့ ကရုဏာ ရိပ်သမ်းနေသည့် မျက်နှာအသွင်ဖြင့် စကားလုံး အသစ်အဆန်းတို့ကို မလွတ်တမ်း တွင်တွင်သုံးပြီး တပြုံးပြုံး ဟောနေလေတော့သည်။ တရားဟော ပြီးသောအခါ. .

"ငါ့ရှင် သာရိပုတ္တရာ၊ တရားနာနေကြတဲ့ ရဟန်းတွေဟာ တက်ကြွရွှင်လန်းနေကြတယ်။ ငိုက်မျည်း တွေဝေမှု မရှိကြဘူး။ ဒီတော့ တရားနဲ့စပ်တဲ့ စကားကို ဆက်လက်ဟောကြားပါ။ ငါကတော့ ညောင်းညာနေပြီ။ လျောင်းစက် အနားယူလိုက်အုံးမယ်"

"ကောင်းပြီ၊ ငါ့ရှင်"

အရှင်ဒေဝဒတ်သည် မမြကထိက ကိုင်သော ယပ်ကို အရှင်သာရိပုတ္တရာအား ပေးအပ်ပြီး မြတ်စွာဘုရား ကျိန်းစက်တော်မူသည့် ဟန်အတိုင်း ကျိန်းစက်လေသည်။ ကိုယ်ရော စိတ်ပါ ပင်ပန်းနေပြီဖြစ်သဖြင့် ချက်ချင်း အိပ်ပျော်သွား၏။ အရှင်သာရိပုတ္တရာကား တရားစကားတို့ကို အံ့ဖွယ်သရဲ ဟောကြားတော်မူသကဲ့သို့ အရှင်မောဂ္ဂလ္လာန်ကလည်း တန်ခိုးပြာဋိဟာပြခြင်း ဆုံးမစကား ပြောကြားခြင်းတို့ဖြင့် ရဟန်းငယ် ငါးရာတို့အား တရားမှန် သိမြင်ရေးအတွက် ဖြည့်စွက်ဟောကြားခြင်းကြောင့် ရဟန်းငယ်များအားလုံး သောတာပတ္တိမဂ်ဉာဏ်ကို ရရှိ သွားကြလေသည်။

အရှင်သာရိပုတ္တရာ မထေရ်သည် ရဟန်းငယ် ငါးရာ

တို့၏ကုန်ကြွေ အခြေအနေကို သိရှိတော်မူသဖြင့် "ငါ့ရှင်တို့၊ မြတ်စွာဘုရား အထံတော်သို့ သွားကြကုန်စို့။ မြတ်စွာဘုရား၏ တရားတော်ကို နှစ်သက်သော ရဟန်းမှန်လျှင် တရားပိုင်ရှင် ဘုရားထံသို့ သွားကြကုန်စို့"ဟု မိန့်တော်မူပြီး အရှင်မြတ်နှစ်ပါး တို့၏ ဦးဆောင်မှုဖြင့် ရဟန်းငယ် ငါးရာလုံးကို ကောင်းကင် ခရီးမှ ဝေဠုဝန်ကျောင်းတော်သို့ခေါ်ဆောင်လာခဲ့ကြလေသည်။

အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလ္လာန်တို့ တရား ဟောနေစဉ်ကာလတုန်းက ကောကာလိကနှင့် အပေါင်းပါ အားလုံးတို့လည်း တရားနာနေကြ၏။ သို့သော် တရားတော်ကို ခံယူလိုသော စိတ်များ မရှိကြဘဲ၊ ဘာတွေ ပြောသလဲ-ဟူသော ဝေဖန်တိုက်ခိုက်လိုသည့် စိတ်ဖြင့်သာ နာယူကြခြင်းကြောင့် တရားမရကြပေ။

မထေရ်မြတ်နှစ်ပါးကရဟန်းငယ်ငါးရာကို ကောင်းကင် ခရီးမှ ခေါ်ဆောင်သွားကြသည်ကိုလည်း မျက်မြင်ဖြစ်နေသဖြင့် 'တို့ ဂိုဏ်းခွဲသာသနာ ပျက်ပါပကော' ဟူ၍ တွေးကာ ပူပန်ပြီး ဒေါသ အကြီးအကျယ် ထွက်လာကြသည်နှင့် စိတ်ချ၊ လက်ချ၊ လက်ယာနံတောင်းဖြင့် အိပ်မောကျနေသော ဆရာတော်အရှင် ဒေဝဒတ်ကို သက်န်းဆွဲလှန်ပြီး ဖနောင့်ဖြင့် ပေါက်လေတော့ သည်။ အရှင်ဒေဝဒတ် ပက်လက်လန်သွားသောအခါ နောက် တစ်ပါးက မတ်တတ်အနေအထားမှ ဒူးကိုကွေး၍ ဆောင့်ချ လိုက်ပြန်သည်။ အရှင်ဒေဝဒတ်လည်း 'အု'၊ 'အ' ဟူ၍သာ အော်နိုင်ပြီး ပါးစပ်က သွေးစများထွက်အန်လာ၏။ "ဘာ...

ဘာ. . အား . . အ၊ ကောကာလိက၊ မင်း . . မင်း . . မင်း ငါ့ကို ဘာလို့ . . ဒီလိုလုပ်ရတာလဲ"

"ဘာလို့ ဒီလိုလုပ်ရသလဲ. . ဟုတ်လား။ အသေတောင် သတ်ပစ်လိုက်ဖို့ ကောင်းတယ်။ ကဲ. . ဘယ်မလဲ ကိုယ်တော့်တပည့်တွေ။ ကြည့်လေ။ အခုတစ်ပါးမှ မရှိတော့ဘူး။ ကျုပ်မတော့ဖြင့် ဒီလို အင်နဲ့အားနဲ့ဖြစ်လာရအောင် တစ်သက်လုံးက လက်တွဲပြီး ကြိုးစားလာလိုက်ရတာ။ ခုတော့ သဲထဲ ရေသွန်သလို ဖြစ်သွားပြီ"

"ဖြည်း . . ဖြည်း. . အား ဖြည်းဖြည်း၊ ငါနားလည်အောင်. . ပြောစမ်းပါ. . ကောကာလိက-ရာ"

ကောကာလိက ဒေါသထွက်နေသဖြင့် အော်ပြောလိုက်သည်။

"ကိုယ်တော့် အဖနေနှစ်ပါးက ရဟန်းတွေကို တန်ခိုးပြပြီး ကောင်းကင်ကနေ ခေါ်သွားကြပြီ။ စ-လာကတည်းက မျက်နှာသာ မပေးပါနဲ့။ အရော မဝင်ပါနဲ့-လို့ အတန်တန် သတိပေးခဲ့ရက်သားနဲ့။ ဟောခိုင်းလိုက်အုံးလေ. . တရား၊ တရား၊ တရား" ဟူ၍ ပြောရင်း ခြေဖြင့် ကန်သောအခါ အရှင်ဒေဝဒတ်သည် ဆင်ပြောင် ၅-စီးအား ရှိသော်လည်း အိပ်ပျော်နေစဉ်မှာ အငိုက်ခံလိုက်ရသဖြင့် ကြက်တစ်ကောင်အားပင် မရှိတော့ပေ။

သို့တစေငြားလည်း . . ကောကာလိက၏ ဖနောင့်ဖြင့် အပေါက်ခံရသော ဒဏ်ရာက သွေးအစအနလေးသာ အန်ထွက်ခဲ့သည်။

အကယ်၍ အရှင်ဒေဝဒတ်၏ ပင်ကို ခံနိုင်ရည်အားဖြင့်သာ အချင်းချင်း ပြန်ချမည် ဆိုပါလျှင် ရုတ်တရက်ထ၍ ပြန်တိုက်ခိုက်နိုင်ပါလိမ့်ဦးမည်။

သို့ပါသော်လည်း စနစ်တကျ စီမံခဲ့ရသည့် 'ဂိုဏ်းခွဲသာသနာ'က မှိုလောက်ပင် အသက်မရှည်တော့သဖြင့် တစ်ကိုယ်လုံး ပူလောင်ပြီး ခန္ဓာကိုယ်တွင်းရှိ သွေးများက ကရားအိုးအတွင်းမှ ထွက်ကျလာသော ရေစွေးများပမာ ဆူဝေ အန်ထွက်၍ ကျလာကြလေတော့သည်။

မြတ်စွာဘုရားအပေါ် အကြိမ်ကြိမ် ပြစ်မှားခဲ့သော အကုသိုလ်ကံကြီးတို့က အရှင်ဒေဝဒတ်ကို ချမ်းသာပေးတော့မည် မဟုတ်။ မြတ်စွာဘုရားကသာ သနားညှာတာလှသဖြင့် ဥဒါန်းကျူးရင့်တော်မူပါသော်လည်း အရှင်ဒေဝဒတ် ပြုထားသော ကံတို့က အလျှံတပြောင်ပြောင်နှင့် အဝီစိသို့ ဆွဲချရန် တဂျိမ်းဂျိမ်းပင် အသံ မြည်နေကြပါလေပြီ။ အရှင်ဒေဝဒတ်၏ ခန္ဓာကိုယ်သည် နှစ်ရှည် လများ ဝေဒနာခံစားလာခဲ့ရသော နာတာရှည် ရောဂါသည်ကြီးကဲ့သို့ ရုတ်ချည်း ခွေကျသွား၏။ အိပ်ရာထက်မှပင် မထနိုင်တော့ချေ။ လဲလျောင်း၍သာ နေရပါလေပြီ။

<u>အရှင်သာရိပုတ္တရာ၏ ဂယာသီသရင်းတမ်း</u>

အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလ္လာန်တို့သည် ရဟန်းအပေါင်းကို ခေါ်ငင်၍ ဝေဠုဝန်ကျောင်းတော်သို့ ရောက်

ကြသော အခါ ဘုရားရှင်ကို ရှိသေစွာ ရှိခိုးပြီး သင့်တင့်လျောက်ပတ်သော နေရာ၌ ထိုင်နေကြလေသည်။ ဝေဠုဝန်ကျောင်းတော်၌ ကျန်ရစ်ကြသော ရဟန်းတို့ကလည်း အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလ္လာန်တို့အား ချီးကျူးစကား ပြောကြားကြရင်း ဗုဒ္ဓသီတင်းသုံးရာ ကျောင်းတော်သို့ စုဝေးရောက်ရှိလာကြသည်။ ထိုအချိန်တွင် အရှင်သာရိပုတ္တရာက. .

"မြတ်စွာဘုရား- သံဃာသင်းခွဲသူဒေဝဒတ်ရဲ့နောက်လိုက်လုပ်ခဲ့ကြဖူးတဲ့ ရဟန်းတွေကို နောက်တစ်ဖန် ရဟန်းခံပေးရမည်လား၊ သို့မဟုတ် ဘယ်သို့ဆောင်ရွက်ရပါမည်လဲ၊ အမိန့်ရှိတော်မူပါဘုရား"

"နောက်တစ်ဖန် ရဟန်းခံ ပေးစရာ မလိုဘူး သာရိပုတ္တရာ။ ထုလ္လစ္စဉ်း အာပတ်သင့်သည်ကိုသာ ဒေသနာ ကြားခိုင်းလိုက်ပါ။ သာရိပုတ္တရာ. . သင်တို့ ဂယာသီသကို ရောက်စဉ်က ဒေဝဒတ် သင်တို့ကို ဘယ်လို ဆက်ဆံသလဲ"

အရှင်သာရိပုတ္တရာသည် အရှင်ဒေဝဒတ်နှင့် တွေ့ကြုံရပုံ အလုံးစုံကို မြတ်စွာဘုရားရှင်အား အသေးစိတ် လျှောက်ထားလိုက်သောအခါ မြတ်စွာဘုရားက ဆင်ငယ်များကို ဥပမာထား၍ ရဟန်းတို့အား တရားဟောတော်မူလေသည်။

## ဆင်ငယ်ဥပမာနှင့် တမန်အင်္ဂါ(၈)ပါး

"ရဟန်းတို့ . . ရှေးက ဖြစ်ဖူးသည်ကား လူသူမနီးသော တောကြီးတစ်ခု၌ ရေအိုင်ကြီး တစ်အိုင်ရှိ၏။ ဆင်တို့သည်

ထိုရေအိုင်ကြီးကို အမှီပြု၍ နေထိုင်ကြကုန်၏။ ဆင်တို့သည် ထိုရေအိုင်ကြီးသို့ သက်ဆင်းငုပ်လျှိုး၍ နှာမောင်းဖြင့် ကြာစွယ် ကြာရင်းတို့ကို နှုတ်လျက် ကောင်းစွာ ဆေးကြော ခါတွက်ပြီးမှ ညွန်မရှိသော ကြာစွယ် ကြာရင်းတို့ကို စားမျိုကြကုန်၏။ ထိုအစာသည် ဆင်တို့အတွက် ခွန်အားဖြစ်ရန် အဆင်းလှရန် ဖြစ်၏။ ထိုအစာကြောင့် သေခြင်းသို့လည်းကောင်း၊ သေလောက်သော ဆင်းရဲသို့လည်းကောင်း မရောက်ကြရကုန်။

"ရဟန်းတို့ . . ဆင်ပြောင်ကြီးတို့ကို အတုလိုက်၍ ပြုကျင့်ကြကုန်သော ဆင်ငယ်တို့သည် ထိုရေအိုင်သို့သက်ဆင်း ငုပ်လျှိုး၍ နှာမောင်းဖြင့် ကြာစွယ် ကြာရင်းတို့ကို နှုတ်ယူကြပြီးလျှင် ဆေးကြောခြင်း မပြုကြဘဲ ညွန်နှင့်တကွသော ကြာစွယ် ကြာရင်းတို့ကို ဝါးမျိုကြကုန်၏။ ထိုအစာသည် ဆင်ပျိုတို့အား ခွန်အားမဖြစ်၊ အလှတိုးရန်လည်းမဖြစ်ပေ။ ထိုအစာဟူသော အကြောင်းကြောင့် သေခြင်းသို့လည်းကောင်း၊ သေလောက်သော ဆင်းရဲသို့လည်း ရောက်ကြရကုန်၏။

"ရဟန်းတို့ . . ထို့အတူသာလျှင် ဒေဝဒတ်သည် ငါဘုရား၏ အတုကို ပြုလျက် အထီးကျန်သူဖြစ်၍ သေဆုံးရလတ္တံ့" (အရှင်ဒေဝဒတ် တောင်းဆိုသော အချက် ၅-ချက်သည် ဆင်ငယ်များ ဥပမာဖြင့် နားလည်ကြရာ၏)

ထို့နောက် မြတ်စွာဘုရားရှင်သည် အရှင်ဒေဝဒတ်ထံသို့ စေလွှတ်လိုက်သော အရှင်သာရိပုတ္တရာအား ချီးမွမ်းတော်မူလိုသဖြင့် တမန်အင်္ဂါ(၈)ပါးကို ဆက်လက် ဟောကြားတော်မူ

လေသည်။

__တမန်အင်္ဂါ(၈)ပါး__

"ရဟန်းတို့၊ အင်္ဂါ(၈)ပါးနှင့် ပြည့်စုံသော ရဟန်းသည် သတင်းစကားကို ဆောင်ယူ၍ သွားခြင်းငှာ ထိုက်၏။

(၁) သူများပြောစကားကိုကောင်းမွန်စွာ နားထောင်တတ်ခြင်း။

(၂) မိမိပြောစကားကို သူနားထောင်ချင်အောင် ပြောဆို တတ်ခြင်း။

(၃) သူများပြောစကားကို ကောင်းမွန်စွာ မှတ်သားတတ်ခြင်း။

(၄) သူများပြောစကားပါအောင် ဆောင်ယူ မှတ်သားပြန်လည် ပြောကြားတတ်ခြင်း။

(၅) သူ့အလိုကို သိတတ်သူလည်း ဖြစ်ခြင်း။

(၆) မိမိ အလိုကို သိစေတတ်သူလည်း ဖြစ်ခြင်း။

(၇) အဝင်-အထွက်၊ အခါအခွင့် သင့် မသင့်ကို သိတတ်သူ လည်း ဖြစ်ခြင်း။

(၈) ဒေါသမထွက်၊ ခိုက်ရန်မပြု တတ်သူလည်း ဖြစ်ခြင်း တို့ တည်း။

ဤ(၈)ချက်သည် သတင်းထောက် လုပ်လိုသူ၊ စာရေး ဆရာ၊ အင်တာဗျူး-လုပ်လိုသူများ အထူးမှတ်သားထားသင့် ၏။ 'မိမိ ပြောစကားကို သူများနားထောင်ချင်အောင် ပြောဆို တတ်ခြင်း'ဟူသည် အင်္ဂါတစ်ခုအဖြစ် ပါဝင်နေသဖြင့် အဘယ် သို့ မေးမည်နည်း။ (မေးသောအခါ သတင်းမှန်လည်း ဖြစ်စေရ

မည်။ တစ်ဘက်လူလည်း စိတ်သက်သာရာ ရစေရမည်။ ခိုက်ရန် ဒေါသလည်း မဖြစ်စေရ)

တစ်ခါက 'အင်တာဗျူး' ဝါသနာပါသော စာပြုသူ မိန်းကလေးတစ်ယောက်သည် အိမ်ထောင်ဖက်များသော မိန်းကလေးတစ်ယောက်ကို "ဘယ်ယောက်ျား အကောင်းဆုံးလဲ" ဟု အနှောင့်မလွတ်၊ အသွားမလွတ်သော စကားကို မေးလိုက်မိလေရာ၊ မည်သည့်အဖြေမှ ထွက်မလာဘဲ ဆံပင်ဆွဲ၍ ပါးကို အရိုက်ခံလိုက်ရ၏။ အကယ်၍ "မမတို့များ. . ကံထူးလိုက်တာ၊ ချစ်သူ ဝိုင်းဝိုင်းလည်နေတာပဲ"ဟူ၍များ ပြောမိလျှင် 'လင်ယူနည်း'ကိုပင် တိုးတိုးတိတ်တိတ် ကပ်ပြောသွားလေမည်လား၊ မပြောတတ်ပေ။

အဖြေကား- စိတ်ဝင်စားအောင်၊ နားဝင်အောင်၊ ပြောတတ်ဖို့ လိုကြောင်း ထင်ရှားလှပေသည်။ ဤ(၈)ချက်သည် မြတ်စွာဘုရားရှင်က အရှင်သာရိပုတ္တရာအား ဂုဏ်တင် မိန့်ကြားတော်မူသော ဒေသနာတော် ဖြစ်၏။

"ရဟန်းတို့ . . သာရိပုတ္တရာသည် တမန်အင်္ဂါရှစ်ပါးတို့နှင့် ပြည့်စုံသူဖြစ်၏။ သတင်းစကားကို ဆောင်ယူ၍ သွားခြင်းငှာ ထိုက်တန်ပေ၏။ အကြင်ရဟန်းသည် အထက်တန်းကျသော ပရိသတ်အလယ်သို့ရောက်သော်လည်း မတုန်လှုပ်။ မိမိပြောရမည့် စကားကိုလည်း မယုတ်လျော့စေတတ်။ စကားကိုလည်း မဖုံးကွယ်။ သံသယကင်းအောင်လည်း ပြောကြားတတ်၏။ သူတစ်ပါးမေးသောအခါ၌လည်း အမျက်မထွက်

တတ်။ ထိုသို့သော ရဟန်းသည် သတင်းစကားကို ဆောင်ယူ၍ သွားခြင်းငှာထိုက်၏"ဟု လမ်းညွှန် မိန့်ကြားတော်မူခဲ့သဖြင့် ဟောပြောခြင်းဆိုင်ရာတို့တွင် ဝါသနာကြီးသူ ဘုရားတပည့်သားတော်များ မှတ်သား လိုက်နာသင့်ကြပေသည်။

မြတ်စွာဘုရားရှင်သည် အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလ္လာန်တို့ နှစ်ပါး အရှင်ဒေဝဒတ်ထံပါးမှ ပြန်လာကြပြီးနောက် ဖြစ်စဉ်များကို လျှောက်ထားကြသည့်အခါ ၎င်းဖြစ်စဉ်တို့ကို အကြောင်းပြု၍ 'မသူတော်တရား(၈)ပါး၊ ဧကနိပါတ်၊ လက္ခဏ ဇာတ်၊ ဝိရောစနဇာတ်၊ ဝီရကဇာတ်၊ ဝိနီလဇာတ်၊ ကန္ဒဂလကဇာတ်၊ ဇမ္ဗုကဇာတ်၊ မဏ္ဍိကာပုတ္တဥပကဝတ္ထုတို့ကို အကန့်လိုက် ဟောကြားတော်မူလေသည်။

## အရှင်ဒေဝဒတ် မြေမျိုပြီ

အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလ္လာန်တို့က ရဟန်းငယ် ငါးရာတို့ကို အရှင်ဒေဝဒတ်ထံမှ ပြန်လည်ခေါ်ဆောင်သွားကြသဖြင့် ကောကာလိကစသော တပည့်တို့၏ဒူးဖြင့် တိုက်ခြင်းကို ခံရသည့် အချိန်မှစ၍ အရှင်ဒေဝဒတ်သည် သွေးအန်ကာ နာမကျန်း ဖြစ်သောကြောင့် ညောင်စောင်း၌ လဲလျောင်း၍သာ နေရရှာ၏။

မြတ်စွာဘုရားသည်လည်း အရှင်ဒေဝဒတ်၏ ပရိသတ်ပြိုကွဲခြင်း၊ ဘုရားတု ပြုလုပ်ခြင်း-စသည်တို့ကို အကြောင်းပြု၍ ဇာတ်တော် အမြောက်အမြား ဟောကြားတော်မူပြီး အရှင်

ဒေဝဒတ်ရှိရာ ရာဇဂြိုဟ်ပြည်မှ ထွက်ခွါတော်မူ၍ သာဝတ္ထိပြည်၊ ဇေတဝန်ကျောင်းတော်သို့ ကြွသွားတော်မူလေပြီ။

ဗုဒ္ဓသည် အရှင်ဒေဝဒတ် သံဃာသင်းခွဲပြီးနောက် ကိုးလအတွင်း ရာဇဂြိုဟ်ပြည်၌ သီတင်းသုံးနေစဉ် 'ဥပက ပုဏ္ဏား'၏ ထိပါးပြောဆိုခြင်း 'နာဠပုတ္တ'ဆရာက အဘယ မင်းသားကို စေလွှတ်၍ ဝါဒတင်စေခြင်းတို့ကို ဖြေရှင်းတော်မူ ခဲ့ရ၏။ သာဝတ္ထိသို့ ကြွလာတော်မူသော လမ်းခရီး၌လည်း အရှင်ဒေဝဒတ်၏ ဘက်တော်သား ရဟန်းတစ်ပါးက သူ့ဆရာ 'အရှင်ဒေဝဒတ်သည် လာဘသက္ကာရ မက်မောသူဖြစ်၍ ငရဲကျမည်'ဟူသော ဗုဒ္ဓ၏ဗျာဒိတ်စကားတော်ကို မယုံလေ ဟန်(ခြောက်လှန့်သည့် သဘောသာ မဟုတ်ပါလား-ဟု) လျှောက်ထားသဖြင့် အကျယ်တဝင့် ရှင်းလင်းပြီး ဗုဒ္ဓ၏ ကြိန္ဒြိယ ပရောပရိယတ္တိဉာဏ်တော်ကိုပင် ထုတ်ဖေါ် ဟောကြားတော် မူခဲ့ရ၏။ ထိုနောက်မှ သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်သို့ ရောက်တော်မူလေသည်။

မြတ်စွာဘုရား ဇေတဝန်ကျောင်းတော်သို့ ရောက်ရှိနေ ချိန်တွင် အိပ်ရာထဲ၌သာ လဲလျောင်း နေရရှာသော အရှင် ဒေဝဒတ်သည် ဟိုစဉ်းစား၊ သည်စဉ်းစားနှင့်အချိန်တွေ ကုန်လွန် နေရပေသည်။ ယင်းသို့ စဉ်းစားပွဲ့လွင့်နေစဉ် အတွေးနယ်ထဲ၌ ဗုဒ္ဓမျက်နှာတော်ကို ဖျပ်ခနဲ ဖူးတွေ့လိုက်ရ၏။

"ဩော်. . ဗုဒ္ဓ. ဗုဒ္ဓ၊ ငါကသာ ရန်သူလို သဘောထား ပြီး အမျိုးမျိုး နှိပ်စက်ခဲ့ပေမယ့် ငါ့အပေါ်မှာတော့ တစ်ဆံခြည်

မျှင်မျှလောက်တောင် ရန်သူလို့ သဘောမထားခဲ့ဘူး။ ငါဟာ လေးသည်တော်များနဲ့လည်း ပစ်သတ်ခိုင်းခဲ့တယ်။ ဆင်နဲ့လည်း နင်းသတ်ဖို့ လုပ်ခဲ့တယ်။ ကျောက်မောင်းဆင်ပြီးတော့လည်း လှိမ့်ချ သတ်ဖြတ်ခဲ့တယ်။

"ငါဟာ ကိုးလလုံးလုံး ဘယ်လောက်ပဲ မကောင်းကြံခဲ့ပေမယ့် ဗုဒ္ဓက ငါ့အပေါ် အပြစ်မယူခဲ့ဘူး။ (ရန်တုံ့မမူခဲ့ဘူး) မေတ္တာ တန်ခိုးတော် ကြီးမားလှပါပေရဲ့။ ပြီးတော့ တန်ခိုးကြီးတဲ့ သာဝကကြီးတွေ အများအပြား ရှိပေမယ့် သူတို့လည်း ငါ့ကို တစ်ပါးမှ ရန်တုံ့ မမူကြဘူး။ အခင်အမင်လည်း မပျက်ကြဘူး။ ဩော. . ဟော. . စိတ်သဘောထား ကြီးမြတ်ကြပါပေရဲ့" ဟု နောင်တ ရနေလေသည်။

'လူမိုက် နောင်မှ နောင်တ-ရ'ဟူသော စကားအတိုင်း အရှင်ဒေဝဒတ်သည် မိမိကို လုပ်ကျွေးပြုစုလျက်ရှိသော တပည့်တို့အား ရင်တွင်းမှ ဖြစ်ပေါ်လာသော စကားတို့ကို ပွင့်လင်းစွာ ပြောပြသောအခါ တပည့်တို့က "ကျန်းကျန်းမာမာ ရှိနေတုန်းကတော့ ရန်သူလို သဘောထားပြီး အမျိုးမျိုးလုပ်ကြံခဲ့တယ်။ အခုမှ မြတ်စွာဘုရားထံ သွားချင်ရတယ်လို့၊ စိတ်ကော ကောင်းသေးရဲ့လား။ သွား . . လိုက်မပို့နိုင်ဘူး"ဟု အော်ငေါက်ကြလေသည်။

"တပည့်တို့ရာ၊ ငါ့ကို သနားကြပါ။ ငါ ဗုဒ္ဓဆီကို သွားချင်ပါတယ်။ ဗုဒ္ဓဟာ ငါက ဘယ်လောက်ပဲ ညှဉ်းပန်းနှိပ်စက်ခဲ့ပေမယ့် ငါ့ကို ရန်သူလို သဘောမထားခဲ့ဘူး။ မဟာသာဝက

ကြီးတွေလည်း တန်ခိုး အသီးသီး ရှိကြပေမယ့် ငါ့ကို မတိုက်ခိုက်ကြဘူး။ အခင်အမင်လည်း မပျက်ကြဘူး။

"ငါကသာ တစ်ဘက်သတ် နှိပ်စက် စော်ကားခဲ့တယ်။ ဒီတော့ ငါတောင်းပန်ချင်တယ်။ ငါမသေခင် ငါ့ကို 'ခွင့်လွှတ်ပါတယ်' ဆိုတဲ့ အသံကို ကြားသွားချင်တယ်။ ငါ့ကို လိုက်ပို့ကြပါ တပည့်တို့ရာ. . နော်"

အရှင်ဒေဝဒတ်က မျက်နှာညှိုးငယ်စွာဖြင့် အကြိမ်ကြိမ် တောင်းဆိုနေသောကြောင့် တပည့်တို့လည်း အရှင်ဒေဝဒတ်ကို ညောင်စောင်းငယ်တစ်ခုတွင် တင်၍ ထမ်းလာခဲ့ကြလေသည်။

အရှင်ဒေဝဒတ်၏ ကျန်းမာရေးက အလွန်ဆိုးရွားနေသဖြင့် (သေလောက်သည့် အခြေအနေသို့ ရောက်နေသဖြင့်) နေ့ခရီးမသွားဘဲ၊ ညခရီးဖြင့်သာ တဖြည်းဖြည်း ထမ်းလာခဲ့ကြရာ ကောသလတိုင်းတွင်းသို့ ရောက်လာခဲ့ပါလေပြီ။

'အရှင်ဒေဝဒတ် ကောသလတိုင်းတွင်းသို့ ရောက်နေပြီဖြစ်ကြောင်း၊ ဘုရားရှင်ကို တောင်းပန် ဝန်ချတော့မည်ဖြစ်ကြောင်း' အရှင်အာနန္ဒာ ကြားသိသွားသောအခါ မြတ်စွာဘုရားထံသို့ သတင်းပို့ လျှောက်ထားလေသည်။

"မြတ်စွာဘုရား၊ ဒေဝဒတ်က အရှင်ဘုရားကို တောင်းပန် ဝန်ချဖို့ ကောသလတိုင်းတွင်းကို ရောက်နေပြီဖြစ်ကြောင်း ကြားသိရ ပါတယ်ဘုရား"

"အာနန္ဒာ၊ ဒေဝဒတ်ဟာ ဒီဘဝ၊ ဒီခန္ဓာကိုယ်နဲ့ ငါဘုရားကို ဖူးမြော်ခွင့် မရနိုင်တော့ဘူး"

အရှင်အာနန္ဒာနှင့်အတူ အခြားသော ရဟန်းများက လည်း "တစ်ယူဇနာအတွင်း၊ ယူဇနာဝက်အတွင်း၊ တစ်ဂါဝုတ် အတွင်း၊ ရောက်နေပါပြီဘုရား"ဟူ၍ စိတ်ဝင်တစား လျှောက် ထားကြလေသည်။ အရှင်ဒေဝဒတ်က မြတ်စွာဘုရားကို အမျိုး မျိုး နှိပ်စက်ခဲ့သဖြင့် အရှင်ဒေဝဒတ်လာခြင်းကို အလိုမရှိကြပေ။

ထို့ကြောင့်လည်း သတင်းကို နားစွင့်ထားပြီး ကြားကြ သည့်အတိုင်း မြတ်စွာဘုရားကို လျှောက်ထားနေကြခြင်း ဖြစ် ၏။ သို့သော်လည်း မြတ်စွာဘုရားက "ရဟန်းတို့. . ဒေဝဒတ် ဟာ ဇေတဝန်ကျောင်းတိုက်တွင်းကိုပင် ရောက်နေစေကာမူ ငါဘုရားကိုတော့ ဖူးမြင်ခွင့် မရနိုင်တော့ဘူး" ဟူ၍ ပြက်ပြက် ထင်ထင် မိန့်တော်မူလိုက်လေသည်။

<u>အရှင်ဒေဝဒတ်၏ နောက်ဆုံးနေ့</u>

အရှင်ဒေဝဒတ်၊ ဇေတဝန်ကျောင်းအနီးက ရေကန်ကြီး အနားသို့ ရောက်ရှိနေပေပြီ။ ထိုရေကန်ကြီးသည် အရှင် ဒေဝဒတ်ကို 'လာပါ၊ လာပါ'ဟု ကြိုနေသလိုလိုပင်။ လှိုင်းယာဉ် လေးများကလည်း အရှင်ဒေဝဒတ်ဆီသို့ တလိမ့်လိမ့်နှင့် ပြေး လာနေကြ၏။ ကမ်းစပ်သို့ ဖျပ်ခနဲ ဖျပ်ခနဲ မြည်သံလေးများက အရှင်ဒေဝဒတ်ကိုလှောင်ပြောင်နေသလို ထင်ရသော်လည်း မျက်နှာပြင်သို့ ရေငွေ့ဟပ်လိုက်သောအခါ အရှင်ဒေဝဒတ် ညောင်စောင်း ထမ်းစင်ပေါ်က မဆင်းဘဲ မနေနိုင်တော့ပေ။ ထို့ကြောင့် . .

"တပည့်တို့ . . ငါ့ခန္ဓာကိုယ် တစ်ခုလုံး ညစ်ပေနေတယ်။ မသန့်ရှင်း မလတ်ဆတ်တဲ့ ခန္ဓာကိုယ်ကြီးနဲ့ ဘုရားရှင်ကို မဖူးချင်ဘူး။ ဒါကြောင့် ငါရေချိုးချင်တယ်။ အောက်ခဏ ချကြပါအုံးကွယ်"

အရှင်ဒေဝဒတ်၏ ဆန္ဒအတိုင်း တပည့်များက ညောင်စောင်း ထမ်းစင်ကို အောက်သို့ ချလိုက်ကြသည်။ တစ်လမ်းလုံး ပင်ပန်းလာကြသဖြင့် တပည့်များကလည်း ရေကန်တွင်းသို့ ဆင်းပြီး ရေချိုးနေကြသော အချိန်တွင် အရှင်ဒေဝဒတ်က ညောင်စောင်း အိပ်ရာပေါ်မှ အားယူထကာ ခြေနှစ်ချောင်း မြေကြီးပေါ်သို့ ရောက်သည်နှင့် တစ်ပြိုင်နက် မြေနှစ်ခြမ်း ဟက်တက်ကွဲပြီး အရှင်ဒေဝဒတ် ၏ ခြေနှစ်ချောင်းကို ဒူးဆစ်အထိ ဆွဲယူ ဝါးမျိုလိုက်လေသည်။

အရှင်ဒေဝဒတ်သည် ခွန်အားရှိသလောက် ရုန်းကန်ရင်း ပါးစပ်ကလည်း တပည့်တို့ကို လှမ်းခေါ်၏။ သို့သော် လှုပ်လေ မြုပ်လေမို့ ခါးသို့ပင် ရောက်နေပါချေပြီ။ တပည့်များက ကူညီရန် ပြေးလာကြသော်လည်း . .



"အမယ်လေး . . ပူလိုက်တာပါလား။ ဆရာတော်ဘုရား တပည့်တော်တို့ အနားကပ်လို့ မရပါဘူးဘုရား"

တပည့်များတအံ့တသြကြည့်နေကြစဉ် အရှင်ဒေဝဒတ်လည်း ရှိသမျှအားနှင့် ရုန်းနေ၏။ လက်ထောက်ပြီး ခုန်ထွက်လိုက်ရန်ပင် ကြိုးစားသော်လည်း မရ။ မြေကြီးက ဖါးကို မြွေမျိုသကဲ့သို့ တစ်စချင်း၊ တစ်စချင်း၊ ထောက်ထားသော လက်

နှစ်ချောင်းကိုပါ ရော၍ မျိုလိုက်ရာ လည်ပင်းသို့ပင် တိုင်သွားပါလေပြီ။

အရှင်ဒေဝဒတ်အတွက် ဘာမှ မျှော်လင့်ချက် မရှိတော့ချေ။ ဤနေရာတွင်(ခေါင်းကလေးသာ မြေပေါ် ပေါ်နေသော အချိန်တွင်)

ဣမေဟိ အဋ္ဌီဟိ တမဂ္ဂပုဂ္ဂလံ၊
ဒေဝါတိဒေဝံ နရဒမ္မသာရထိံ၊
သမန္တစက္ခုံ သတပုညလက္ခဏံ၊
ပါဏေဟိ ဗုဒ္ဓံ သရဏံ ဥပေမိ။

အဂ္ဂပုဂ္ဂလံ-ကမ္ဘာလုံးတွင်, အသာဆုံးပုဂ္ဂိုလ်လည်း ဖြစ်တော်မူပါပေထသော၊ ဒေဝါတိဒေဝံ- နတ်အပေါင်းတို့၏ ဦးခေါင်း ညွှတ်လျှိုး, ရှိခိုးရာအစစ်, နတ်မင်းကြီးလည်း ဖြစ်တော်မူပါပေထသော၊ နရဒမ္မသာရထိံ-ဆုံးမရန်ကြုံ,များဗိုလ်ပုံကို, စုံလင်စွာ သင်ပေး၍, ယဉ်ကျေးအောင် ဆုံးမတော်မူနိုင်ပါ ပေထသော၊ သမန္တ စက္ခုံ-သိရန်မှန်က,မကျန်ရအောင်, လုံးဝစုံလင်, အကုန်သိမြင်တော်မူသော သဗ္ဗညုတ, ဉာဏစက္ခုလည်း ရှိတော်မူပါပေထသော၊ သတပုညလက္ခဏံ- ရာပေါင်းများစွာ, ဘုန်းသမ္ဘာကြောင့်, ကောင်းစွာမြင့်ကြွယ်, တင့်တယ်သော လက္ခဏာလည်း ရှိတော်မူပါပေထသော၊ တံဗုဒ္ဓံ-တု၍မနိုင်, ပြိုင်၍မရ, ထိုနောင်တော်မြတ်ဘုရားကို၊ ဣမေဟိအဋ္ဌီဟိ- အသားတွေပျောက်, အရေခြောက်သဖြင့်, မျက်မှောက်ထင်စွာ, သုံးရာသော ဤအရိုးစုတို့ဖြင့်လည်းကောင်း၊ ဣမေဟိ ပါ

ဇောဟိ-မငြိမ်လှုပ်လက်, ချုပ်ပျက်ခါနီးဖြစ်သော ဤအသက်တို့ဖြင့် လည်းကောင်း၊ သရဏံ-ဦးတင်ကျုန, ဖူးမြင်လှသော်လည်း, မရတော့ပါ, ကိုးကွယ်ဟူ၍သာလျှင်၊ ဥပေမိ-အပြစ်ရှိသမျှ, သတိရ၍ အာမဝန်တ္တံ, အကုန်ခံလျက်, အဖန်ဖန် ဆည်းကပ်ကန်တော့လိုက်ပါ၏။
(အရှင်ဘုရား)

■

# နိဂုံး

အရှင်ဒေဝဒတ်သည် နောက်ဆုံး အချိန်လေးတွင် ဗုဒ္ဓဘုရားရှင်အား ကျန်နေသည့် အသက်၊ အသား၊ အသွေး၊ အရိုးတို့ဖြင့် ပေးအပ်ပူဇော်သွားလေသည်။ အဝီစိငရဲသို့ အရှင်လတ်လတ် ရောက်သွားရသော်လည်း အသက်ပါ အပ်နှင်း ပူဇော်သွားသော(မိမိကိုယ်ကို ကိုယ်တိုင် သရဏဂုံ တင်သွားသော) ကုသိုလ်စွမ်းအားကြောင့် ဤကမ္ဘာမှ နောက် ကမ္ဘာတစ်သိန်း ကာလသို့ရောက်သောအခါ'အဋ္ဌိဿရ'အမည်ရသော ပစ္စေကဗုဒ္ဓါ- ဘုရားငယ် တစ်ဆူအဖြစ် ပွင့်တော်မူလိမ့်မည်-ဟူ၍လည်း ဗုဒ္ဓ၏ ဗျာဒိတ်တော်ကို ရရှိသွားလေသည်။

ဘုရားရှင်သည် အရှင်ဒေဝဒတ်၏ ပစ္စေကဗုဒ္ဓါ ဖြစ်ရေးကို မြင်တော်မူခြင်းကြောင့် ရဟန်းအဖြစ်ကို ခွင့်ပြုတော်မူခဲ့၏။ ယင်းသို့ ခွင့်ပြုချက်ပေးလိုက်ရသော်လည်း အရှင်ဒေဝဒတ်သည် ဗုဒ္ဓကို ကောင်းကျိုး မပြုခဲ့ချေ။ အသေသတ်ရန်သာ အမျိုးမျိုး ကြံစည်ခဲ့လေ၏။

မိမိကို ကေန် သတ်မည်-ဟု သိပါလျက် မေတ္တာမပျက်ဘဲ အရာရာကို လက်တွဲနိုင်သော သတ္တိဂုဏ်သည် တော်ရုံပုဂ္ဂိုလ်တို့ သန္တာန်၌ ကိန်းဝပ်တည်နေနိုင်ကြလိမ့်မည် မဟုတ်ပေ။ အရှင် ဒေဝဒတ်၏ မိုက်ပြစ်တွေကို မြင်ရလေလေ၊ ဗုဒ္ဓကို ကြည်ညိုလေလေ ဖြစ်ရပါ၏။ (ကြည်ညိုနိုင်ကြပါစေ)

လူမိုက်အချို့က 'အရှင်ဒေဝဒတ်တောင် ပစ္စေကဗုဒ္ဓါ ဖြစ်ရသေးတာပဲ'ဟု နှလုံးပိုက်၍ အမိုက်ဇာတ်ကို ဘဝနေဝင်ချိန် အထိ မိုက်လုံး ကြီးနေကြဆဲ ဖြစ်၏။

အားနာနာနှင့်လက်တွဲ လိုက်လျောနေရသော ရွာဦးကျောင်း ဆရာတော်ကိုပင် ဗျာဒိတ်တော် အပေးခိုင်းချင်ကြလေသလား၊ မပြောတတ်တော့ပါတကား။

'အရှင်ဒေဝဒတ် မြေမျိုသွားပြီ'ဟူသော သတင်းသည် တမုဟုတ်ချင်း ပျံ့နှံ့သွားပြီ ဖြစ်၏။ ယင်းသတင်းကို ကြားသိကြသူတိုင်း အလွန်ပျော်ရွှင်ကြပြီး ပွဲလမ်းသဘင်များဖြင့် ခင်းကျင်း က-ပြ ပျော်ရွှင်ကြလေသည်။ (ယခုခေတ် ဘုန်းကြီးပျံပွဲများသည် ဝမ်းနည်း၍ ပွဲလမ်းသဘင်ဖြင့် ပူဇော်ကြသလား၊ ဝမ်းသာလွန်း၍ ပွဲကျင်းပကြသလား၊ ဈာပနကျင်းပရေး ကော်မတီဆိုသူများ သတိထား ဆင်ခြင်ကြရာ၏)

အရှင်ဒေဝဒတ် ကွယ်လွန်ခြင်းကို အကြောင်းပြု၍ လူတို့ ပျော်ရွှင်ကြသဖြင့် ဘုရားရှင်က အတိတ်ဖြစ်ရပ် 'ပိင်္ဂလ' စသော ဇာတ်တော်တို့ကို ဟောကြားတော်မူလေသည်။ 'ငရဲမင်းသားကြီး အရှင်ဒေဝဒတ်' ၏ ဘဝသရုပ်ကို ခေတ်လူတို့ ဉာဏ်ထုတ်၍ စဉ်းစားဝေဖန်နိုင်ကြစေရန် 'သေရိဝ ရွှဲကုန်သည်' ဘဝမှ အစပျိုးခဲ့သော ရန်ငြိုးသည် တန်ခိုးရှင် သဗ္ဗညုဘဝသို့ ရောက်ရသည့် ကာလတိုင်အောင် ဗုဒ္ဓကို ဒုက္ခပေးခဲ့ပုံတို့ကို ရေးသားတင်ပြခဲ့ပါပြီ။

အားလုံးချုပ်၍ အနှစ်ထုတ်ကြည့်လျှင် . . .

**<u>ပါဠိတော်</u>**

အကတညုဿ ပေါသဿ၊
နိစ္စံ ဝိဝရဒဿိနော၊
သဗ္ဗံ စေ ပထဝိံ ဒဇ္ဇာ၊
နေဝ နံ အဘိရာဓယေ။

အကတညုဿ-သူပြုဖူးသော ကျေးဇူးကို မသိတတ်သော၊ နိစ္စံ-အမြဲ၊ ဝိဝရဒဿိနော-ဖျက်ဆီးရန်သင့်, အခွင့်ကိုသာ ရှုကြည့်လေ့ရှိသော၊ ပေါသဿ-ယောကျ်ား(မိန်းမ-သတ္တဝါတစ်ယောက်) အား၊ သဗ္ဗံ ပထဝိံ-အလုံးစုံသော မြေကြီးကိုပင်၊ စေဒဇ္ဇာ-အကယ်၍ ပေးစေကာမူ၊ နံ- ထိုလူယုတ်မာကို၊ နေဝ အဘိရာဓယေ-အလို ပြီးလျက်, မနှစ်သက်စေနိုင်ရာ။

**<u>မြန်မာပြန်အဓိပ္ပါယ်</u>**

"ကျေးဇူး မသိတတ်ဘဲ သူတစ်ပါးကို အမြဲဖျက်စီးရာ ဖျက် စီးကြောင်း ကြံစည်နေသူအား ဤမဟာပထဝီမြေကြီးကို အပိုင် ပေးစေကာမူ အလိုဆန္ဒ ပြီးမြောက်လိမ့်မည် မဟုတ်" ဟူ၍သာ။

"သူ့ကျေးဇူးကို အထူးသိနိုင်ကြပါစေ"

ပန်းဒကာကိုတင်မြင့်
(၁၃၇၃-ခုနှစ်၊ ဝါဆိုလပြည့်ကျော်(၁)ရက်
(၁၆-၇-၂၀၁၁ စနေနေ့)
Ph-09-2401981